# အရှင်အာဒိစ္စဝံသ မထေရ်
မြန်မာဘာသာ ပြန်ဆိုသော
ဝေးလ်ဆ် အိမ်ရှေ့မင်း ဆုတော်ရ
အသောက မင်းတရားကြီး၏

# ကျောက်စာတော်

Awarded The Prince of Wales' Prize Rs-1,000.

THE

# INSCRIPTIONS OF ASOKA.

*Translated from Pali into Burmese.*

**By Ven: A. Adicca Wamsa.**



စံရှား - ဓာပုံနှိပ်တိုက်
၀၇၊ အထက် ကြည့်မြင်တိုင်လမ်း၊ ကြည့်မြင်တိုင်၊ ရန်ကုန်။

# အသောကကျောက်စာတော်

## ဒုတိယ အကြိမ် ပုံနှိပ်ခြင်း


ပုံနှိပ်ပြီးစီးသည့်နေ့။ ။၁၉၆၉ ခု၊ မတ်လ ၈-ရက်နေ့၊ အုပ်ရေ (၂၀၀၀)။

ပုံနှိပ်သူ။ ။ဒေါ်လှယဉ်မေ မှတ်ပုံတင် (၀၀၇၁) မြို့ အမှတ် ၁၇၊ အထက် ကြည့်မြင်တိုင်လမ်း၊ ကြည့်မြင်တိုင် "စံရှား" စာပုံနှိပ်တိုက်တွင် ရိုက်နှိပ်သည်။

ထုတ်ဝေသူ။ ။ဒေါ်လှယဉ်မေ မှတ်ပုံတင် (၀၁၅၀) မြို့ အမှတ် ၁၇၊ အထက် ကြည့်မြင်တိုင်လမ်း၊ ကြည့်မြင်တိုင် "စံရှား" စာပေထုတ်ဝေရေး ဌာနမှ တာဝန်ခံ ထုတ်ဝေသည်။

ဖြန့်ချိရေး။ ။အရှင် အာဒိစ္စဝံသ - စာပေဖြန့်ချိရေး၊ ကပ္ပါ့ ဗုဒ္ဓ သာသနာပြု အရှင် သေဋ္ဌိလ ဗိမာန်၊ (၈) မိုးကောင်းလမ်း၊ ပြည်သာယာစာတိုက် ရန်ကုန်မြို့။

## အသောကကျောက်စာ မြန်မာပြန်

# ဒုတိယအကြိမ်ပုံနှိပ်နိဒါန်း

ဤအသောကကျောက်စာ မြန်မာပြန်တွင် ပါရှိသည့် အသောကကျောက်စာမျာ သည် ဘုရားကျောက်စာ, သိမ်ကျောက်စာ စသည်တို့ကဲ့သို့ ဘုရားအကြောင်း, သိ အကြောင်း စသည်ကို ပြဆိုသော သမိုင်းကျောက်စာမျိုးများ မဟုတ်ကြ၊ အသောက မင်းတရားကြီး အုပ်စိုးသော ဣန္ဒိယအင်ပါယာအတွင်း အနယ်နယ်အရပ်ရပ်ရှိ တိုင်းသူ ပြည်သား လူအများတို့ တဦးနှင့် တဦး ချစ်ချစ်ခင်ခင် သင့်သင့်မျှမျှ ချမ်းချမ်းသာသာ နေထိုင်နိုင်ကြစေရန် ဗုဒ္ဓဘုရားရှင်၏ တရားတော်နှင့်အညီ လိုက်နာ ကျင့်ကြံသင့်သော အချက်များကို ညွှန်ပြသည့် အဆုံးအမ ဩဝါဒများ ဖြစ်ကြလေသည်။

ထို ဆုံးမဩဝါဒများဖြစ်သည့် ကျောက်စာများသည် အသောက မင်းတရားကြီး၏ ထင်မြင်ယူဆချက် စိတ်ကူးယဉ်အတွေးအခေါ်သက်သက်မဟုတ်ကြ၊ ဘုရားရှင် ဟောကြား တော်မူခဲ့သော တရားများကို ရဟန်းသံဃာတော်များထံမှ အထူးသဖြင့် အရှင်မဟာမောဂ္ဂလိ ပုတ္တတိဿ မထေရ် အမှူးရှိသော သံဃာတော်များထံမှ ကျနစွာ နာယူသင်ကြားပြီးလျှ မိမိကိုယ်တိုင် ကောင်းစွာ နားလည် သဘောပေါက်သည့်အတိုင်း တိုင်းသူပြည်သား လူ အများတို့ လိုက်နာ ကျင့်ကြံစေရန် ကျင့်ဝတ်တရား ဆုံးမဩဝါဒစကားများ ဖြစ်ကြောင်း ကောင်းစွာ သိနိုင်ပေသည်၊ အဘယ့်ကြောင့်ဆိုသော် ဤ အသောက ကျောက်စာများတွ ပါရှိသမျှ စကားများ၏ ဆိုလိုရင်း အချက်များကို ထိုထို ဘုရားဟော ဒေသနာ ပါဠိတော်များတွင် အစေ့အင သာဓကတွေ့ရှိနိုင်သောကြောင့် ဖြစ်ပေသည်။

ဤ "အသောက ကျောက်စာပါ" ကျင့်ဝတ်ဆိုင်ရာ တရားစကားများသည် ဘုရား ဟော ဒေသနာတော်နှင့်အညီ ဖြစ်ရုံသာမက ထိုထို ဒေသနာတော်များ၏ သဘောသွား အဓိပ္ပါယ်များကို အသောက မင်းတရားကြီးကိုယ်တိုင် နက်နက်နဲနဲ နားလည်သဘောပေါ သည့်အတိုင်း တရားသဘောမှ အလုပ်သဘောရောက်သည်အထိ အကောင်အထည် ပေါ်စေ ရန် ထုတ်ဆောင်ပြဆိုထားသော အချက်များဖြစ်သဖြင့် (၁) ဗိဋကကျမ်းဂန်သင်အံ ပို့ချကြ သော ရဟန်းသံဃာတော်များအတွက်ရင်း, (၂) တိုင်းပြည်အုပ်ချုပ်ကြသော အစိုးရ အရာရှိများအတွက်ရင်း, (၃) လုပ်သားပြည်သူများအတွက်ရင်း အလွန်အကျိုးများဖွယ်ရာ တရားစကားများ ဖြစ်ပေသည်။

(၁) ရဟန်းသံဃာတော်များအတွက် အကျိုးများဖွယ် ဖြစ်ပုံမှာ- ထိုကျောက်စာ ပါ သဘောတရားများကို ဘုရားဟော ဒေသနာတော်များတွင် အရင်က မတွေ့ဘူးသေး ချင် ယခုတွေ့ရှိရသော အားဖြင့်ရင်း, တွေ့ရှိဘူးသော်လည်း ၎င်း သဘောတရားများ ကို အသောက မင်းတရားကြီးကဲ့သို့ ထိထိရောက်ရောက် သဘော ပေါက်သော အဖြစ်သို့ ရောက်ရခြင်းအားဖြင့်ရင်း, နားလည်သဘောပေါက်ပြီးသည်ကို ကျင့်ဝတ်အဖြစ်သို့ ရောက် သည်အထိ အကောင်အထည် ဖော်နိုင်သည်ကို သိရသောအားဖြင့်ရင်း အလွန်အကျိုးများ ဖွယ် ဖြစ်ပေသည်၊

(၂)

လောကကျိုး နှစ်မျိုးကို အဆောင်မြင်ဆုံး၊ အများကြေနပ်လောက်ဆုံး ဆောင်ရွက်ခဲ့သဖြင့် ဗုဒ္ဓဘာသာဆိုင်ရာ သမိုင်းကျောက်စာ ရာဇဝင်တွင် အထင်ရှားဆုံး ဖြစ်သော အသောက မင်းတရားကြီး၏ တိုင်းသူပြည်သားများ အပေါ် ကျောသားရင်သား မခြားနားဘဲ သားသမီးများပမာ သဘောထားပုံ၊ တရားမျှတစွာ စီမံဆောင်ရွက်ပုံ သည်များကို သင်္ခန်းစာယူ နမူနာထား၍ ဆောင်ရွက်နိုင်သဖြင့် အလွန်အကျိုးများဖွယ် ဖြစ်ပေသည်။

(၃) လုပ်သားပြည်သူများအတွက် အကျိုးများဖွယ် ဖြစ်ပုံမှာ- ကျောက်စာပါ ကျင့်ဝတ်များကို လိုက်နာကျင့်ကြံနေထိုင်ပါက ကြီးနိုင်ငယ်ညှင်းစသော မတရားမှုများ ကင်းပျောက်၍ မိသားစု စိတ်ခ‌ောတ်ပေါက်ပြီးလျှင် အချင်းချင်း ကူညီရိုင်းပင်းကာ ချမ်းသာသုခရနိုင်ကြောင်း နည်းလမ်းကောင်းကို သိရသဖြင့် အလွန်အကျိုးများဖွယ် ဖြစ်ပေသည်။

ဤသို့ သာသနာတော်ကျိုး၊ လောကကျိုး နှစ်မျိုးအတွက် အစိုးရနှင့်တကွ ရဟန်းရှင်လူ ပြည်သူလုပ်သား အားလုံးတို့အား အကျိုးများစေမည်ဖြစ်၍ ဤ အသောကကျောက်စာ မြန်မာပြန်သည် ပြည်ထောင်စု မြန်မာပြည်တွင် ယခုဖြစ်နေသည့် အခြေအနေနှင့်အလွန်သင့်လျော် လျောက်ပတ်သည်ဟု အရှင် အာဒိစ္စဝံသ စာပေ ဖြန့်ချိရေး အဖွဲ့က ထင်မြင်ယူဆပါသည်၊ ထို အဖွဲ့၏ အဓိက ရည်ရွယ်ချက်များမှာ (၁) ဆရာကြီးရေးသားသွားသော လက်ရေးစာမူများကို ရှာဖွေစုဆောင်းရန်နှင့် ရိုက်နှိပ်ထုတ်ဝေရန်၊ (၂) ရိုက်နှိပ်ပြီး၍ ကုန်နေသည့် စာအုပ်များကိုလည်း အသစ်တဖန် ထုတ်ပြန်ရန် တို့ဖြစ်၍ လွန်ခဲ့သော ၁၂၉၄-ခုနှစ်၊ ၁၉၃၂ နှစ်က ပုံနှိပ်ထုတ်ဝေခဲ့၍နှစ်ပေါင်းအတော်ကြာကုန်နေခဲ့သော အသောကကျောက်စာမြန်မာပြန်ကိုရှေးဦးစွာ ပုံနှိပ်ထုတ်ဝေရန် အဖွဲ့က သဘောတူဆုံးဖြတ်ခဲ့ပါသည်။

ထို ဆုံးဖြတ်ချက်အရ စာအုပ်ပုံနှိပ်ရာတွင် အဖွဲ့ဥက္ကဋ္ဌ အရှင် သေဋ္ဌိလ ကိုယ်တိုင် စာအုပ်အစမှ အဆုံးတိုင် ပရုဖ်( proof )ကို ဖတ်၍ မူလစာမူအတိုင်း ဝါကျ-ပုဒ်ကန့်--ဖြတ်ရပ်နည်း ကျနအောင် ကြီးကြပ် ပြင်ဆင်ကာ ရိုက်နှိပ်ပါသည်၊ ဤ စာအုပ်၌ ဝါကျထားသို ပုဒ်ကန့်ဖြတ်ရပ်ပုံ၊ စာအုပ်ရိုက်နှိပ်ထားရှိပုံမှာ အခြားမြန်မာ စာအုပ်များနှင့်မတူ တမူထူးခြား နောင်လာနောက်သားတို့ နည်းယူလောက်သည့် စည်းကမ်းနည်းလမ်းများနှင့်အညီ ကျကျနန စီစဉ်ထားသဖြင့် ရိုက်နှိပ်ရာတွင် အလွန်ဝန်လေးခက်ခဲသည်ကို ပမာမထားသည်းခံသော စံရှားပုံနှိပ်တိုက်ရှင်အား၎င်း၊ စာအုပ် ဖြစ်မြောက်ရေးအတွက် အဖက်ဖက်မှ စီစဉ်ပေးသော အရှင် သုစရိတာဘိဝံသအား၎င်း၊ စာမူကို အစမှအဆုံးတိုင် တည်းဖြတ်ရှပေးသော အရှင် ဉာဏိက နှင့် အရှင် ကလျာဏ တို့အား၎င်း အဖွဲ့၏ ကိုယ်စား အဖွဲ့ဥက္ကဋ္ဌက အထူးကျေးဇူးတင်ပါသည်။

အထက်တွင် ဖေါ်ထုတ် အကျဉ်းချုပ်ညွှန်ပြ ကောင်းလှသည့် မင်္ဂလာ အဖြာဖြာသော ဂုဏ်ပြည့်စုံကြွယ်ဝ သာသနာနှင့်လောက နှစ်ဝသောအကျိုး ပွါးတိုးစေရာ အမြိုက်ရတနာ အမှန် ဤကျောက်စာတော် မြန်မာပြန်ကို ဉာဏ်အလင်းပေါက် သဘောမှန် ရောက်သည် အထိ မိမိရရ ဖတ်ရှုကြလျက် အတ္တပရ နှစ်ဝ အကျိုး ပွါးတိုးစေကြောင်း ကျောက်စာပါ ကျင့်ဝတ်ကောင်းများကို နှစ်ထောင်းအားရ လိုက်နာကျင့်ကြံနိုင်ကြပါစေကုန်သတည်း။



ကျမ်းဆရာ ( အရှင်အာဒိစ္စဝံသ ပုံတော် )

# ကျမ်းပြုသူ၏ နိဒါန်း၊

ဤ အသောက ကျောက်စာ မြန်မာ–ဘာသာပြန်ဆို ရိုက်နှိပ် ထားရှိရာတွင် ကျွန်ုပ် ကိုယ်တိုင် အားရခြင်းနှင့် ကျမ်းစာ ကြည့်သူတို့ နှစ်မြိုက်စရာ အချက်များ ဖြစ်ပေါ်ကြ၏၊ ပထမ အချက်မှာ–ကျွန်ုပ်တို့ ဤ အသောက ကျောက်စာ မြန်မာပြန်ရာ၌ ကျွန်ုပ် ကိုယ်တိုင် ကြေနပ်ရခြင်း ဖြစ်၏,–ဆိုလိုရင်းမှာ ‘ဤ ကျောက်စာ ဘာသာသည် ကျွန်ုပ် နိုင်နင်းသော ဘာသာ ဖြစ်ခြင်း, ကျောက်စာ၏ အနက် သဘောမှာ ပိဋကတော်ကျမ်း သဘော ဖြစ်ခြင်း, အင်္ဂလိပ်, သက္ကတ-ဟိန္ဒီဘာသာပြန် အကူအညီ အမျိုးမျိုးကို မှီးငြမ်း ပြုရခြင်းများ အတွက် ကျွန်ုပ် ကြေနပ်ရ၏၊–’ဟူလိုသည်။

ဒုတိယ အချက်မှာ–ဤ ကျောက်စာကို မြန်မာဘာသာ ပြန်ဆိုရာ၌ ထိုထို ဘာသန္တရ–ဒေသန္တရ တို့တွင် နားလည် နှံ့စပ်တော်မူကြသော မန္တလေး အရှင် အဂ္ဂမဟာဘိဝံသ-အဘယာရာမ ရွှေဂူ ဆရာတော်, ကျွန်ုပ်တို့ ဓမ္မာစရိယ ဖြစ်၍, ဋီကာကျော် ယောဇနာကျမ်း, ဓမ္မပဒ အဋ္ဌကထာ မြန်မာ စကားပြေကျမ်း, အာယုဒါယ တွက်ချိုး, ဟောရာကျမ်းများကို ပြုစု ရေးသားသည့် ဆရာကြီး ဦးစံအောင်နှင့် သထုံ ရာဇဝင်, ကရင် ရာဇဝင် စသည် ကျမ်းပြု ကျွန်ုပ်တို့၏ နိဿယာစရိယ ဆရာကြီး ဦးပညာတို့နှင့် ထိုထို အချက်များ၌ နှီးနှောခွင့် ရခြင်း ဖြစ်၏။

တတိယ အချက်မှာ–ကျွန်ုပ်တို့ ဤ ကျောက်စာကို သဘော ကြေနပ်သည် တိုင်အောင် ပြန်ဆိုပြီးသည့် နောက်မှ ပညာရှိ ကြက်သရေဆောင် ရွှေစလွယ်ရ အငြိမ်းစား အရေးပိုင်မင်း ဦးကျော်ထွန်း K.S.M.က ကျွန်ုပ် ကျမ်းဆရာ့ ကိုယ်တိုင် မူတည် မှီထား ရေးသားသော ကျမ်း အရပ်ရပ်နှင့် ကိုးကား မှီးငြမ်း ပြုသော ကျမ်းဂန် အမျိုးမျိုး အင်္ဂလိပ်-သက္ကတ-ဟိန္ဒီ-ဘုရားဟော ပါဠိတော် အဋ္ဌကထာများဖြင့် သဘော ကြေနပ်သည် တိုင်အောင် ကြည့်ရှု ပြင်ဆင်ခြင်း ဖြစ်ပေ၏၊ ပညာရှိ ဦးကျော်ထွန်းကား ပညာ၌ အင်္ဂါ ကုန်အောင်စုံ တည်လျက် ဝိဘတ် ဝါကျ ထားပုံမှ စ၍, မိမိ အလိုကျသည် တိုင်အောင် ပြင်ဆင် ကူညီသူ ဖြစ်၍, ကျွန်ုပ်၏ ကျေးဇူး တင်ချက်ကို အထူး ခံထိုက်သူ ဖြစ်ပေ၏။

## ကျမ်းပလ္လင်၊

စတုတ္ထ အချက်မှာ—ယင်းသို့ ဆိုခဲ့သော အကြောင်းများဖြင့် ဤ မြန်မာပြန် အဘိဓာန ကျောက်စာကို ကြည့်ရှုကြမည့် မြန်မာပြည်သူ ရှင်လူ အပေါင်းတို့၏ ပုညကံကြောင့် ထိုမျှ အထူးကောင်းမွန်သော အခြေ အနေသို့ ရောက်ရှိ တည်နေသည်ကို စာအုပ် တခု ပြုလုပ် ရိုက်နှိပ်နိုင်လောက်အောင် ရန်ကုန်မြို့ ယူနီ ဗားရှိုဆစ်တီး-ဆင်းနေ့တ် လူကြီးများက ဗြိတိသျှ—ဘုရင်, ဗွန်နှိယ-ကောရာဇ် အိမ်ရှေ့ ဥပရာဇာ ဝေလ်ဆ်— မင်းသား၏ ဆုတော်ငွေ တထောင်ဖြင့် ချီးမြှောက် ကူညီခြင်း ဖြစ်ပေ၏၊ ဤသို့ ကောင်းမွန်သော ကျမ်းကို ကောင်းမွန်တိုင်း သိရှိ ဆုတော်ငွေ ထုတ်ပေး လှူဒါန်းသော ဆင်းနေ့တ် အဖွဲ့ လူကြီးများကို ဤ မြန်မာ-ဘာသာ အဘိဓာန ကျောက်စာ ထမြှောက် ရန် ကောန် ထောက်ပံ့ ကူညီသည့် အတွက် အထူး နှစ်သက်အပ်ကြ ပေကြောင်း။

ပဉ္စမ အချက်မှာ—ကျွန်ုပ်တို့ မြန်မာ—ဘာသာ၌ ဝါကျ ထားသို ပိုဒ်ကန့် ဖြတ် ရပ်ပုံ, စာအုပ် ရိုက်နှိပ် ထားရှိပုံများ စည်းကမ်း ကုလနား မရှိ, ပျက်ကွက် နေခဲ့ရာ, ဤ ကျောက်စာ မြန်မာပြန် ကျမ်း၌ ဆိုခဲ့သော ကောင်းခြင်း မင်္ဂလာများကြောင့် ဝါကျ ထားသို ပိုဒ်ကန့် ဖြတ် ရပ်နည်း, စာအုပ် ရိုက်နှိပ် ထားပုံနည်းများ အရ ကျန် သော အခြေတိုင် ကျွန်ုပ် သဘောကျ မြင်ဆင် ရိုက်နှိပ်ရခြင်း ဖြစ်ပေ၏၊ ၎င်း အတွက် အသစ် အဆန်းကြီး တခု ဖြစ်၍, အလွန် ဝန်လေးလျက် သည်းခံနိုင် ခက်သည်ကို သည်း ခံသော မြန်မပိဋက-ပုံနှိပ်တိုက်ရှင် အဂ္ဂမဟာပဏ္ဍိတ - ဆရာမြိုအား ကျွန်ုပ် ကျေးဇူး အထူး တင်ရ၏၊—ထိုသို့ အားဖြင့် ကောင်းခြင်း မင်္ဂလာ ပြည့်လျှမ်းစွာသော ဤ အဘိဓာန ကျောက်စာ မြန်မာ ပြန်ကျမ်းကို အားရမ်း ရှင်ကြည်စွာ ကြည့်ရှုနိုင် ကြကုန်စေသတည်း။

**အရှင် အာဒိစ္စဝံသ။**

အိမ်ရှေ့ဥပရာဇာ ဝေးလ်ဆ်မင်းသား ဆုတော်

# ခြီးမြှင့်ခံရကြောင်း၊

D. O. No. 1748/ 2 P. E.

University of Rangoon.
Dated Rangoon 27th June 1932.

Rev: Ashin Adicca Wamsa,
Ashin Adicca Wamsa Kyoung Tike,
Kandawglay P. O. Rangoon.

Dear Sir,

The Senate of the University at its meeting on 22 nd: June 1932, has awarded you the Prince of wales' Prize of Rs. 1,000/-for the year 1931,32 for your Translation in Burmese of the Asoka Inscriptions.

A cheque for Rs. 1,000/- being the value of the Prize will be issued to you in due course.

I am sending you under separate registered Post the Mss of your work.

Kindly acknowledge receipt.

Yours faithfully,

..............................................

Registrar.
University of Rangoon.

စာ နာမ်ပါတ် ၁၇၄၈/၂ ပီအီ

ရန်ကုန်သိပ္ပံကျောင်းကြီး
နေ့စွဲ။ ၂၇–ရက် ဇူလိုင်လ, ၁၉၃၂

အရှင်အာဒိစ္စဝံသ
အရှင်အာဒိစ္စဝံသ ကျောင်းတိုက်
ကန်တော်ကလေး စာတိုက်, ရန်ကုန်

အရှင် ဘုရား,

၁၉၃၂ ခု ဇူလိုင်လ ၂၂ ရက်နေ့ စည်းဝေးသော သိပ္ပံကျောင်းကြီး အုပ်ထိန်းသူ လူကြီးများ အဖွဲ့က ၁၉၃၁, ၃၂ ခုနှစ် ဝေလ်ဆ် အိမ်ရှေ့ ဥပရာဇာ မင်းသား၏ ဆုတော်ငွေ တထောင်ကို အရှင် ဘုရား မြန်မာ မြန်ဆိုသော အဘိဓာန ကျောက်စာ များ အတွက် ဆုတော် ပေးအပ်သည် ဖြစ်ပါကြောင်း။

မကြာမီ ဆုငွေ တထောင်တန် ငွေလွှဲ လက်မှတ် တခု အရှင်မြတ်အား ထုတ်ပေးလိမ့်မည် ဖြစ်ပါကြောင်း။

အရှင် ဘုရား၏ အဘိဓာန ကျောက်စာကို သီးသန့် စာရင်းသွင်း၍, စာတိုက်မှ ပို့ဆဲ ဖြစ်ပါကြောင်း။

ရရှိကြောင်း စာပြန်ပါမည့် အကြောင်း။

အရှင်ဘုရား ယုံကြည်လောက်သော

.................................................

စာရင်းကိုင် အရာရှိ
ရန်ကုန် သိပ္ပံ ကျောင်းကြီး။

D. O. No. 1823/2 P. E. University of Rangoon
Dated Rangoon 1st, July 1932.

Rev: Ashin Adicca Wamsa,
Ashin Adicca Wamsa Kyoung Tike,
Kandawglay P. O. Rangoon.

Rev: Sir,

In continuation of my letter No. 1748 / 2 P.E. Dated 27th June 1932, I send you herewith a cheque for Rs. 1,000/-being the amount of the Price of wales' Prize for the year 1931, 32 awarded to you for your translation in Burmese of the Asoka Inscriptions.

Kindly return the enclosed form of receipt duly stamped and receipted by you for audit purposes.

Yours faithfully,

..........................................

Registrar.
University of Rangoon.

စာနံပါတ် ၁၈၂၃/၂ပီ.အီ.

ရန်ကုန် သိပ္ပံကျောင်းကြီး
နေ့စွဲ ၁-ရက် ဇူလိုင် ၁၉၃၂

အရှင် အာဒိစ္စဝံသ
အရှင် အာဒိစ္စဝံသ ကျောင်းတိုက်
ကန်တော်ကလေး စာတိုက်, ရန်ကုန်။

အရှင်မြတ် ဘုရား,

၁၉၃၂ ခု ဇူန်လ ၂၇ ရက် ၁၇၄၈/၂ပီ.အီ နံပါတ်နှင့် လျှောက်ထားသော စာ အရ, ဤစာနှင့် အတူ အရှင်ဘုရား မြန်မာပြန်ဆိုသော အဘောဓ ကျောက်စာ အတွက် ၁၉၃၁, ၃၂ ခုနှစ် ဖေလ်ဆ် အိမ်ရှေ့ ဥပရာဇာ မင်းသား၏ ဆုတော်ငွေ တထောင်တန် ငွေလွှဲ လက်မှတ် တခု အရှင် ဘုရားအား ဆက်ကပ်ပါကြောင်း။

စာရင်း စစ်ဆေးခွင့် ရရန် အလို့ငှါ အရှင်ဘုရား ရရှိကြောင်း ပူးတွဲပါ ပုံစံ စာကို တံဆိပ်ခေါင်း ကပ်၍ ပြန်ပို့ရန် လျှောက်ထားပါကြောင်း။

အရှင်ဘုရား ယုံကြည်လောက်သော

..............................................

စာရင်းကိုင် အရာရှိ
ရန်ကုန် သိပ္ပံကျောင်းကြီး။



အထက်ပါပုံကို ရန်ကုန်ဝိဇ္ဇာနှင့် သိပ္ပံတက္ကသိုလ် ပါမောက္ခချုပ်၏

ခွင့်ပြုချက်အရ ပါဠိဌာနမှ ကူးယူရရှိသဖြင့်....

အထူးကျေးဇူးတင်ပါသည်။

# ကျမ်း အခန်းချုပ် မာတိကာ။

# အမှား အမှန် ပြင်ဆင်ချက်၊

အခန်း ၂, မျက်နှာ နာမ်ပါတ် ၉၁–၆ ကြောင်း၌ (အဝတြပေယျ—အပတာပေယျ) ပုပန် နှိပ်စက် မရှိစေရကြောင်းနှင့် မညှဉ်းဆဲ မသတ်ဖြတ်ရကြောင်းများကို ထို တောတောင် နေထိုင်သူတို့အား အသောက မင်းကြီးက ပြန်ကြား ပြဆို တော်မူခဲ့ကြောင်း၊———

ဟူသော စကား၏ အစား—

၎င်းတို့အား မလွှမ်းမိုး မဖိစီးကုန်ရာ, မပုပန်စေကုန်ရာ ဟု အသောက မင်းကြီးက အမိန့် ပြန်ဆို ထားရှိအပ်ပြီ၊———

ဟု ပြင်ဆင် ဖတ်ရှုကြရန်၊

ထို့မှ တပါး သတ်ပုံ သတ်ညွှန်း—ပိုဒ် ပုဒ်-အဖြတ်-အရပ် အနည်းငယ် မှားယွင်း ကျကျန်—ပိုမိုချက်များ, စာလုံးလျှောကျ ပြန်လည်ခြင်းများ ရှိစေကာ; အဓိပ္ပါယ် ပျက် ကွက်လောက်သည့် အရာများ မဟုတ်, သိနိုင်လောက်ရာများ ဖြစ်သောကြောင့် ၎င်းများ အတွက် ပြင်ဆင်ချက် ထားရန် လျစ်လျူ ရှုအပ်ကြောင်း။

**အရှင် အာဒိစ္စဝံသ။**

## က၊ အခန်း ၁၊

၁- ဂန္ဓာရမ္မ။
၂- အသောက ကျောက်စာတော်အတ္ထုပ္ပတ်။
၃- ကျမ်းရေးသား ထားရှိပုံများ။
၄- အသောက ကျောက်စာတော် မာတိကာချုပ်။
၅- ကျောက်စာ အဓိပ္ပါယ်ချုပ်။
၆- ကျောက်တိုင်နှင့်ကျောက်စာတွေ့ရာဌာနများ။

# အသောကမင်းတရားကြီး၏

# ကျောက်စာတော်

က၊ အခန်း ၁၊

၁၊ ဝန္ဒာရုက္ခ၊

## FOREWORD.

1. ASOKA of king's the greatest,
Was a Ruler of the best;-
For he is known as great and good,
In the world of east and west.

2. The fame of him spread far and wide,
In days of old in India's land;
And wise and simple came to him,
To gather wisdom from his hand.

3. In India all the pepole knew,
The greatness of this emperor's glory;
But in Burma we have not heard,
The whole of Dhamma's King's true story.

4. Though this king was but the moon,
And not the sun in the Buddhist light;
Yet the power of great ASOKA,
Gave Buddha's word a greater might.

5. He was a Teacher of the best,
His knowledge deep and wide;
And from the Scriptures he had learned,
To swim across Samsara's tide.

6. The Burmese have the glorious treasure,
Of the rock Scriptures to review;
For Buddha's Doctrine is the measure,
Of olden Truths that are ever new.

7. So I bring to all the story,
Of ASOKA'S love and might;
That we who live in Burma,
Can learn the truth of right.

8. Be true Burmese with love of right,
Guard both the old and new;
And in this book I give to you,
A message wise and true.



## ရင်း မြန်မာ အဖွဲ့၊

၁။ အသောက ကပ္ပါ မျှားဘုရင်,
အုပ်ချုပ်ခြား တရား မင်း ဘွတ်ရှင်၊
ကျောက်ဝှန်စိ့ ကပ္ပါနှံ့ ဘုရင်,
နေထွက်ရောက် နေပျောက် လူနှင့်ရှင်။

၂။ ကျောက်ဝှန် တက် လေးနက် သူ၏ ဂုဏ်,
မဏ္ဍာန်း ကျွန်ကြီး နာ်နှယ်ကုန်၊
တရားစကာ် ဟော မြွက် တို့ရှင့် ဂုဏ်,
ထက်မြင် ကြား တရား ကြီးငယ် ကုန်။

၃၊ မဒ္ဒြ ထက်ဝန်း ကျွန်းနှံ့ ဗိုလ်စုံ,
အသောက သိကြ ဂုဏ်မျိုးစုံ၊
မြန်ရှင့်ပိုင်း တို့တိုင်း မြန်မာစုံ,
ရှေးရိုးမျှ သိကြ ကျမ်းထွက်စုံ။

၄၊ အသောက မိုးလ တနှုန်း လျှင်,
နေမဟုတ် ဗုဒ္ဓ အယူတွင်၊
ကေရာင်ဖျား စွမ်းအား သော်လျှင်,
နေ့စံ လား အားကြီး ရောင်လျှံတွင်။

၅၊ မင်းသောက် မင်းဖျား တရား ပြည့်,
ဉာဏ်ရောင် သန့် ကျယ်ပြန့်နက်ရှိုင်းဝန်၊
တရား ကမ်းလှမ်း ဉာဏ်မြော် သူ ညွှန်,
သံသာဝဋ် များလွတ် ဉာဏ်ကြီး ဝန်။

၆၊ မြန့်တိုင်းချက် ထွက်စိမ့် နေသစ် ဂုဏ်,
ဉာဏ်ချိန် ဖွက် ကျောက်စက် သွေး ဂုဏ်၊
တိုင်းထွာ ချင့် တို့ရှင့် တရားဂုဏ်,
အမြဲ့ သစ် ခြေမြစ် ရှေးဟောင်းဂုဏ်။

၇၊ ငါ ဆောင်ပြ မြန်မာ့ ဗိုလ်ထုလယ်,
အသောက ကပ္ပါ ချစ်စွမ်း ကျယ်၊
တို့ နေရာမြတ် မြန်ရှင့် တိုင်းလယ်,
သိစိမ့်သော သဘော မှန့် ဂုဏ်ကျယ်။

၈၊ အမှန် ချစ် ဖြစ်စ တို့ မြန်မာ,
ဂုဏ်သစ် လောင်း ဂုဏ်ဟောင်း လက်စိမ့်ရာ၊
ငါ ဆင့်ကမ်း ဉာဏ်ကျမ်း တို့ မြန်မာ,
ကျောက် သတင်း ဉာဏ်ခင်း မှန်လိမ့်ရာ။

## ၂။ အသောက ကျောက်စာတော်အတ္ထုပ္ပတ်၊

ဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူပြီးနောက် † သာသနာတော် သက္ကရာဇ် ၂၃၅ ခုနှစ် အခါ အရှင် မဟာမောဂ္ဂလိ—ပုတ္တ—တိဿ မထေရ် အမှူးရှိ တတိယ - သင်္ဂါယနာတင် အရှင်မြတ်တို့၏ သာသနာပြု သဟာယ, သာသနဒါယကာ တဦးအဖြစ်ဖြင့် လွန်စွာ ကျော်ကြား ထင်ရှားခဲ့၍, ဝိနည်း ပါဠိတော်၏ အဖွင့် အဋ္ဌကထာ၌ မိန့်ဆိုပြထားလျက်, မဟာဝံသ, ဒီပဝံသကျမ်းတို့၌လည်း တခမ်း-တနား ချီးကျူးအပ်သော အသောက မင်းတြားကြီး မည်သည် ထင်ရှားဖြစ်ခဲ့ပြီ။

ထိုသို့ ဆိုခဲ့ပြီးသော ပိဋကကျမ်း မဟာဝင်ကျမ်းတို့ဖြင့် ဗုဒ္ဓဘာသာတို့ အတွင်း၌ အသောက မင်းတြား၏ဂုဏ်မှာ ထင်ရှားဖြစ်သကဲ့သို့ ဂရိက် ရာဇဝင်စာတမ်း, နန်းတွင်း မှတ်တမ်း များ၌လည်း ထင်ရှားခဲ့သည်ပင် ဖြစ်ကြောင်း၊ သို့ရာတွင်, ပိဋကကျမ်းနှင့် ဂရိက် ရာဇဝင် မှတ်တမ်းများ၌ အလွန်-ဟကြူး ချီးကျူး မွမ်းမံကြသည်ဟု မှတ်ထင် ရသည့်ထက် ပိုမို လွန်ကဲ၍ပင် အသောက မင်းတြား၏ ပကတိဂုဏ်သည် မြောက်မြား ထူးချွန်လျက် ရှိနေလေသည်။

ထို ထင်ရှားသော အသောက မင်းတြား၏ ဂုဏ်တို့သည်ကား ၎င်း၏ ပြုမူချက်ကို ဖော်ပြသော ၎င်းကျောက်စာများ ဖြစ်ကုန်၏၊ ၎င်း ကျောက်စာ များနှင့်တကွ ၎င်း၏ အတ္ထုပ္ပတ်ကို အင်္ဂလိပ်ဘာသာ, ဟိန္ဒီဘာသာ စသော များစွာသော ဘာသာအထူးတူး တို့ဖြင့် ရေးသားပြန်ဆိုထားကြသဖြင့် ယခုအခါ အသောက မင်းတြား၏ ဂုဏ်တို့သည် ကမ္ဘာတဝှမ်းလုံး၌ သားငှက် တိရိစ္ဆာန် အလား တောသား တောင်သူ လူရိုင်းများမှတပါး အားလုံး ကမ္ဘာသား ကမ္ဘာသူတိုင်းပင် သိနိုင်အောင် ပြန့်နှံ့လျက် နေကြကုန်၏။

အသောက မင်းတြား၏ ရှေးကျမ်းဂန်ထွက် ဂုဏ်များသည် ကြီးကျယ်ခမ်းနားကြ၏ ဆိုရစေကာ, ယခုအခါ ကမ္ဘာက သိရသော ၎င်း၏ ဂုဏ်များကို ထောက်ခဲ့လျှင်, နေလုံးမမြင်ရပဲ, ထွန်းလင်းသော နေရောင်အဘုင်းရှိ တိမ်ပန်း တိမ်စွယ် လုံ့လယ်ပြေးသွားသော တိမ်သား တိမ်တောင်တို့သဖွယ်သာ ဖြစ်လေသည်၊ စင်စစ်ကား ၎င်း၏ကျောက်စာ

---

† မှတ်ချက်၊ ၊အသောကမင်းသည် သာသနာ ၂၁၈ တွင် မင်းဖြစ်၏၊ ၂၁၈ တွင် ဘိသိက်ခံ၏-ဟု ဝိနည်း အဋ္ဌကထာ၌ ဆိုသည်၊ မှန်နန်း ရာဇဝင်ကြီး၌လည်း ဤအတိုင်း ဆို၏၊ [illegible]

မိန့်ချက်နှင့်တကွ ကပ္ပါက ယခုသိရသော ဂုဏ်တို့သည်ပင် ကြည်လင်သော လဝန်း နေဝန်းနှင့် တကွ ထွန်းပ ထိန်လက်သော အလင်းရောင်တို့ကဲ့သို့ ဖြစ်ကုန်၏။

ယင်းသို့ အားဖြင့် အသောက မင်းတြားကြီး၏ အထယ်ကိုယ်နှင့် တကွသော ဂုဏ်များသည် ကပ္ပါ အနှံ့ - အပြား အထပ်ထပ် ပြေးသွား၍ အဖန်ဖန် ကျော်ကြားလျက် နားငြီးသလောက် ရှိကြသည်ပင် ဖြစ်စေကာ ဤမြန်မာပြည်သား ဗုဒ္ဓဘာသာဝင်လူကောင်း တို့၏ အတွင်း၌ကား ကြီးမားသော မှောင်ထိုက်ကြီး၌ ဆိုက်ရောက်သည့် ပုံပမာ ထိုသို့ ထိန်လင်းစွာသော၊ အသောက မင်းတြားကြီး၏ ဂုဏ်ရောင် နေဝန်း သစ်မှာ မထွန်း လင်းပဲ့းပင် ရှိနေခဲ့လေသည်။

ထိုသို့ မချတ်– မယှင်း လင်းလင်းပြောင်လက် ပေါ်ထွက် ထင်ရှား ဆင့်သော အသောက မင်းတြား၏ ဂုဏ်ရောင် နေဝန်းသစ်များ မထွန်းပြောင် မထိန်လက်ရသေးသည့် အချက်က ဤမြန်မာပြည်၏ ကပ္ပါ အစွန်-အဖျား ကျဲကြောင်းကို ပေါ်ပြ–သိရှိစေ လေသည်၊ သို့ဖြစ်စေကာ၊ ကပ္ပါ၌ အမြဲး လည်လျက်ရှိသော နေသည် အလှည့်ကျ ထွန်းပ- ထွက်ပေါ် ထိန်လက်မြဲး ဖြစ်သကဲ့သို့ ထို့အတူ ယခုဤစာအုပ်ဖြင့် ထိုဆိုခဲ့သော နေရောင်ခြည် သစ်များ ထင်ရှား ထိန်လက်စေသောကြောင့် ဤမြန်မာပြည်၌လည်း အသောကမင်းတြား ကြီး၏ ဂုဏ်ရောင် နေဝန်းသစ်များ လင်းထိန် တောက်ထွန်းပြီဟု ဆိုရလေသည်။

အသောက၏ မူလကျောက်စာများမှာ ထိုခေတ်အခါက သုံးစွဲသော မာဂဓ ပါဠိ ဘာသာပင် ဖြစ်သော်လည်း၊ စင်ကြယ်သော မာဂဓပါဠိ ဘာသာများ မဟုတ်ကြ၊ သက္ကဋ၊ ပြာကရိတ—ဘာသာများနှင့် အများအားဖြင့် ရောနှော စပ်ဖက်လျက်ရှိလေသည်၊ ထို့ပြင်၊ ထိုကျောက်စာ ပါဠိဘာသာ သည်လည်း ထိုခေတ်သုံးဖြစ်၍ ရှေးကျသောကြောင့်ရှင်း၊ အရပ်သုံးသက်သက် ဖြစ်သောကြောင့်ရှင်း ယခုကျွန်ုပ်တို့အများသိ မာဂဓပါဠိဘာသာနှင့် များစွာ ခြားနား ကွဲလွဲလျက်ရှိလေသည်၊ ထိုသို့ ဖြစ်သောကြောင့် ထိုကျောက်စာမှ မိမိတို့ ဘာသာသို့ပြန်ဆိုရန် လွန်စွာ ခဲယဉ်းချက် တခု ဖြစ်လေသည်၊ ထို့ကြောင့် ထိုကျောက်စာများကို အစ ကနဦး ပြုလုပ်ပြန်ဆိုသူတို့သည်ကား လွန်စွာ ခက်ခဲသော ကိစ္စကို ပြုလုပ်ဆောင်ရွက်သူတို့ဖြစ်ကြကုန်၏။

ထိုသို့ ဆိုသင့်စွာ၊ အသောက ကျောက်စာရှိ စာလုံးများမှာ ယခုခေတ်သုံးစာလုံးများ မဟုတ်ကြ၊ ထိုခေတ်သုံး စာလုံးများသာ ဖြစ်ကြ၍၊ သိမြင်သူ တစုံ-တဦးမျှ မရှိပါပဲလျက် ယမ်းစမ်း မှန်းဆ ရှာဖွေခြင်း အားဖြင့်သာ နောက်ဆုံး၌ မှန်ကန်သော အခြေသို့ရောက်ရှိ ခဲ့လေပြီ၊ သို့ ယမ်းမှော်ဖတ်တတ်စေကာ၊ ရှေးဘာသာ ဖြစ်၍ အနက် – အဓိပ္ပါယ်ကို

လွယ်ကူစွာ သိနားလည်နိုင်ကြသည် မဟုတ်, များစွာ ခက်ခက်ခဲခဲ ကြံစည်ပြီးမှသာ သိနားလည်နိုင်ကြလေသည်၊ ထို့ကြောင့် ထိုသို့သော ခဲယဉ်းလှသည့်ကိစ္စကြီးကို ပြုလုပ် ဆောင်ရွက်သူတို့အား ကျွန်ုပ်တို့ မြောက်မြားစွာ ကျေးဇူးတင်ထိုက်ကုန်၏။

ကျွန်ုပ်တို့ ဗုဒ္ဓဘာသာဝင်များက မူကား မိမိတို့ ဂုဏ်သရေဆောင် အဘိဓာန်ကျောက်စာကြီးကို ပေါ်လွင်စေခြင်း, ၎င်းနှင့် တပြိုင်နက် ကျွန်ုပ်တို့ ဗုဒ္ဓဘာသာ၏ ဂုဏ်ကို ပေါ်လွင်စေခြင်းများအတွက် အဆပေါင်းများစွာပိုလွန်၍ပင် ကျေးဇူးတင်သင့်ကြလေသည်၊ ထိုအရေးနှင့် စပ်၍ ကျွန်ုပ်တို့ ဗုဒ္ဓဘာသာကို ကမ္ဘာ၌ ပေါ်လွင်စေရေးအတွက် ကျေးဇူးကို စိစစ်ရှာဖွေရမည် ဆိုလျှင်, အင်္ဂလိပ် လူမျိုးတို့ ဣန္ဒိယ နိုင်ငံကြီး၌ အုပ်စိုးလာခြင်းသည် ကျွန်ုပ်တို့ ဗုဒ္ဓဘာသာဝင်များအတွက် ဝမ်းသာဖွယ် တခုဖြစ်၏ဟု ပြောဆိုသင့်၏။

ထိုစကားကို ဆိုသင့်စွာ, အင်္ဂလိပ်လူမျိုးတို့က ဣန္ဒိယကို စိုးပိုင်သဖြင့် ၎င်းတို့ရှာဖွေ ပြုလုပ်ဆောင်ရွက်ခြင်းတို့ကြောင့်သာ အဘိဓာန် ကျောက်စာများ ပေါ်လွင် ထင်ရှား၍ ကမ္ဘာကတွေ့မြင်ရလေသည်၊ ထို့ကြောင့် ထိုသို့အားဖြင့် ခဲယဉ်းလှစွာ ကျွန်ုပ်တို့ဗုဒ္ဓဘာသာ၏ ကျေးဇူးကို ဆောင်ရွက်ကြပေသော အင်္ဂလိပ် အစိုးရများကို ကျွန်ုပ်တို့က များစွာကျေးဇူး တင်သင့်ကုန်၏၊ ထိုသို့လျှင် ကျွန်ုပ်တို့ ကျေးဇူးကို ဖြစ်စေလျက် အဘိဓာန်-ကျောက်စာ, ၎င်းအဋ္ဌကထာများကို ကမ္ဘာသိ ဖြစ်အောင် အင်္ဂလိပ်-ဘာသာဖြင့် ပထမဆုံး ပြန်ဆိုထားလေသည်။

ထို့နောက်မှ ဣန္ဒိယ-ပြည်နယ်ရှိ ဟိန္ဒီ,ဗင်္ဂါလီ စသော ဘာသာ မြောက်မြားစွာသို့ တဆင့်ပြန်ယူ၍ လူအမျိုးမျိုးတို့ သိကြကုန်၏၊ ယခု ဤမြန်မာ- ဘာသာဖြင့် ရေးသားပေါ်ပြသည့် အဘိဓာန်- ကျောက်စာသည်လည်း ထိုအင်္ဂလိပ်— ဘာသာကို အခြေမူလ တည်၍ပင် ဖြစ်ပေါ်ရလေသည်၊ ထို့ပြင် ဤမြန်မာ-ဘာသာ-ကျောက်စာမှာ ထိုမူလပင်မ ဖြစ်သော အင်္ဂလိပ်- ဘာသာကို မှီငြမ်း ပြုလုပ် ပြန်ဆိုထားပြီး သက္ကတ,ဟိန္ဒီဘာသာ— ကျောက်စာများကိုလည်း မှီငြမ်းပြုလုပ်ရလေသည်၊ အကြောင်းကား ထိုဘာသာတို့ဖြင့်လည်း ပြန်ဆိုပြီး အဘိဓာန်—ကျောက်စာများ ရှိကြသောကြောင့်တည်း။

ကျွန်ုပ်တို့ ဤမြန်မာပြန်ဆိုချက် အဘိဓာန်- ကျောက်စာ အတွက် ဂုဏ်ထူးကို ပေါ်ထုတ်ရသော်, ကျွန်ုပ်တို့ ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့၏ သင့်တင့်လျောက်ပတ်သော ပုဒ်ကဲထူးကြောင့် ဤမြန်မာ— ဘာသာ အဘိဓာန်-ကျောက်စာသည် အခြား ဘာသာတို့၏ အဘိဓာန်— ကျောက်စာတို့ထက် သာလွန် ကောင်းမွန်လေ သည်၊ အကြောင်းကား,

မြန်မာဘာသာသို့ပြန်ဆိုသော ကျွန်ုပ်သည် ဗုဒ္ဓဘာသာ ပိဋကတ်တော်များကို ကျနပိုင်နိုင်စွာ မိမိဘာသာ တခု ဖြစ်ရို တတ်မြောက်သူ မြန်မာလူမျိုးအစစ်, ဗုဒ္ဓ—သာသနာတော်ထမ်း ရဟန်း တပါး ဖြစ်သောကြောင့် ပေတည်း။

ပါဠိဘာသာကို တတ်သိသူ ပင် ဖြစ်စေကာ, နိပါတ်-အဠကထာသွား ပါဠိဝါကျမျိုး, ဝတ္ထုသွား ပါဠိတော် ဝါကျမျိုးကို သိစွမ်းကာမျှနှင့် ဤအဓိဿာက ကျောက်စာများကို မြန်မာဘာသာ ပြန်ဆိုရန် လွယ်ကူသည် မဟုတ်သေး, စပ်ရှပ်လှသာ အမှ ပါဠိဝါကျမျိုးသာမျှ၌ ကျနသူ ပင် ဖြစ်စေကာ, ဤအဓိဿာက ကျောက်စာမှာ ဆိုသူ အသွားအလွန် ထူးခြားလျက် ပင် ရှိလေသည်၊ ထို့ကြောင့် အင်္ဂလိပ် အတ္ထုနိုင်ငံပါဠိသာသာ—ပြန် ကျောက်စာမှာ ပါဠိ တို၌ အပိုဒ်-အကာန့် ဝါကျ သီးသန့်ခွဲမှုကို ပင် အမျိုးမျိုး ပြုလုပ်ထားကြကုန်၏၊ အထူး အားဖြင့် ဤကျောက်စာပါဠိ-ဝါကျသွားနှင့် ပါဠိသုံးစွဲထုံးများ—ဘာသာစကား—ပါဠိတော် သွားနှင့် များစွာ ဆင်၏၊ ထို စကား မှန်၏, ကထာဝတ္ထုကား ထိုခေတ်က ပေါ်ခဲ့ချက် ဖြစ်၏။

ယခု အခါ ပါဠိ- ဝါကျ နည်းမှီး လိုလားသူတို့ အကျိုးငှါ ကထာဝတ္ထု ပါဠိ ဆင်တူ သုံးစွဲပုံများကို အနည်းငယ် ထုတ် ပြထားအံ့။

× × × ×

၁၊ ဧသေ ဧစ ဒုန္နိဂ္ဂဟိတော ဟောဝ မေဝံ တဏ္ဍ ဒကျ၊

၂၊ န ဟေဝံ နိဂ္ဂဟေတဗ္ဗေ၊ တေန ဟိ ယံ နိဂ္ဂဟကာ်တိ, ဟိဝ ပုဂ္ဂလော ဥပလဗ္ဘတိ သစ္စိ ကဋ္ဌ—ပရမဋ္ဌေန၊

၃၊ ဧဝံန ဧဘာတတ္ထဟော ဘော ဟော ပဋိညာယ ဟေဝံ ပဋိဇာနန္တော်, နဟေဝံ နိဂ္ဂဟေတဗ္ဗေ-

၄၊ ဧသော ဧတ-ဧကဒေသ ဟေဝံ သမ္ဘာဝ, ဘာဝတော, အညောဂတာယ, အညော ပုဂ္ဂလော၊ တေန ဧတံ-ဧက-ဧတ္ထ ပုဂ္ဂလော ဟောတိ, အဇ္ဈတ္တိကံ၊

၅၊ ရူပံ အတ္တိ တိ? ဣတိ ဟေဝံ ဟောဝ နတ္တိ? တိ သောဝ တိ သော နတ္တိ တိ? န ဟေဝံ ဝတ္တဗ္ဗေ။—စသည်၊

ထို့ကြောင့် ဤအဓိဿာက ကျောက်စာ ပါဠိ-ဘာသာသည် ထိုခေတ် အခါ ထိုထို ဒေသသုံး အဓားစားနှင့် ရောထွေးလျက်, သက္ကတ-မြောက်ဘက် ဘာသာများလည်း များစွာ ပါဝင်ပြန် လေသည်၊ သို့ဖြစ် စေကာ, ကျွန်ုပ်မှာ ထို ဘာသာများ၌ လည်း ဥဏ်ကျက်စား ပြီး ဖြစ်သည်ဖြင့်, ထို ဘာသာတို့ကို သုံးစွဲ လေ့လာရာ အရပ်များ၌ ပင်လည်း ၆-နှစ်ကျော် နေထိုင် လေ့လာခဲ့သဖြင့်, ၎င်းတို့ အတွက် အနှောင့်-အရှက် မဲ့ ဖြစ်ပေ၏။

## အသောကကျောက်စာတော်၊

ထို့ပြင် ကျွန်ုပ်၏ အလျင် ဘာသာပြန်ဆိုထားကြသော အင်္ဂလိပ်, ဟိန္ဒီ, သက္ကတရှိ
ာက-ကျောက်စာများကို မှီခိုရခြင်းမှာ ကျွန်ုပ်တို့ ဤကျောက်စာအတွက် သာလွန်
င်းမြတ်ဖွယ် ထူးကဲသော အထောက်-အပံ့ ဖြစ်ပေ၏။

ထိုသို့ အားဖြင့် ကျွန်ုပ်မှာ ဤ အသောက-ကျောက်စာ၏ ကျနု ကောင်းမွန်သော
ဘာသာ ဖြစ်ရန် အတွက် မူလ ကျောက်စာ ဘာသာရင်းကို ကျွမ်းကျင်-ခြင်း, ၎င်း
ကျောက်စာ၏ အာဘော် ထွက်ပေါ်ရာ ဗုဒ္ဓဘာသာ တရားတော်- ပိဋကတ်ပြည့်စုံစွာ
မြောက်ခြင်း, ထိုထို ဘာသာပြန် အမှီသဟာယ်များ ကောင်းစွာရရှိခြင်း, ဤမျှလောက်
သော အင်္ဂါများ ထင်ရှား ရရှိခြင်းမှာ ဤမြန်မာ- ဘာသာကျောက်စာကို ဖတ်ရှု
ကြရမည့် ဗုဒ္ဓဘာသာ မြန်မာ လူမျိုးတို့ ပုညကံ ကောင်းမွန်ခြင်းမှ တပါး အခြား
ကြောင်း မရှိဖြစ်လေသည်။

ယင်း သို့လျှင်, စာ ကြည့်ရှုရမည့် ဗုဒ္ဓဘာသာ မြန်မာ လူမျိုး တို့၏ ပုညကံ
င့် ပေါ်ပေါက် ဖြစ်ထွန်းလာသော ဤ မြန်မာ-ဘာသာ အသောက-ကျောက်စာတော်
ကို ကျနု စေ့စပ်စွာ ကြည့်ရှုကြ၍, ထိုကျောက်စာတို့တွင် ပေါ်ပြထားအပ်သည့်
ည်ရန် မလွယ်ကူပဲ နက်နဲ ကောင်းမွန်လှသော ဗုဒ္ဓဘာသာတို့ ရတနာသိုက်ကြီးဖြစ်
ကျင့်ဝတ် တရားများကို မူလ ကျောက်စာ ရှင် အသောက မင်းကြီး အလား
ာသွား ထိခိုက်အောင် နှစ်မြိုက်စွာ ကျင့်ဆောင်နိုင်ကြစေသတည်း။

ဤ အသောက-ကျောက်စာများ၏ အနက်- အဓိပ္ပါယ် ဆိုင်ရာ ဂုဏ်ထူးကို အနည်း
ဆက်လက် ဆိုရသော်, ဤ အသောက-ကျောက်စာပါ တရားကျင့်ဝတ်များ၌ ထို မင်း
ကဲ့သို့ ပေါ်လွင် ထင်ရှားစွာ နားလည် ကျနုသူ— ရှင် မဟာ, လူ မပြား, အခြား ပုဂ္ဂိုလ်
တဦးကိုမျှ ဤကျောက်စာ မြန်မာပြန်ဆိုသူကိုယ်တိုင်အားဖြင့် မတွေ့ဖူးရသေးပဲ ပင်
ကြောင်း၊ ထိုစကား မှန်၏, ဤအသောက-ကျောက်စာ ဆိုသမျှ တော၌ ဘုရားဟော
သာကေ အဒေ့—အဝ ထုတ်ဆောင်ပြရန် စွမ်းဆောင်နိုင်သော ကျွန်ုပ် ကိုယ်တိုင်မှာ
ကျောက်စာ များ၌ ရေးသား ပါရှိသလောက် ပေါ်လွင်စွာ သဘော မကျဖူးသည့်
သော မှုများပြားလေသည်၊ ထို့ကြောင့်— ဤကျောက်စာပါ ဗုဒ္ဓ-ဘာသာတို့ ကျင့်
များကို စိတ်ထားဖြေးနက်စွာ ရှုစား အမှတ်ကြစေသတည်း။

## ၃။ ကျမ်း ရေးသားထားရှိပုံ

သို့ဆိုပြ ခဲ့တိုင်း မူဒ္ဒဘာသာဝင် သူတော်ကောင်း အပေါင်းတို့ အထူး
နာယူ ထိုက်သော အခြေခံ တည်နေသည့် အသောကာ ကျောက်စာ မြန်မာပြန်ချက်
စွက် ထူးခြားသည့် ရေးသားပုံ အခြင်းအရာ, ကျမ်းစာ ကြည့်ရှုသူတို့ ဝမ်းမြောက်
အနည်းငယ် ဆက်လက် ပြ ဆိုဦးအံ့၊ ဤအသောကာ ကျောက်စာတော် မြန်မာသာ
ကျမ်းကို ရေးသားသော ကျွန်ုပ်သည် ကျမ်းစာ ကြည့်ရှုသူတို့ အသိဉာဏ်အဆင့်
တိုးတက် လျင်မြန်စေခြင်း အကျိုးငှာ ဝါကျ-ပိုဒ်-ကန့်-ဖြတ်ရပ်နည်း စည်းမျဉ်းကို
စွာ ထားရှိ ရေးသား၏။

မည်သို့ ဝါကျ—ပိုဒ်—ကန့်—ဖြတ်ရပ်နည်း စည်းမျဉ်း မှန်စွာ ထားရှိ
(၁)ပထမဆုံး သင့်တန်လောက်ရုံ ဝါကျ အစ-အပေါင်းကို သီးသန့် ခွဲခြား၍
သည်၊ ၎င်းမှာ များသောအားဖြင့် အဓိပ္ပါယ် စကား- တရပ် ပြတ်ကောင်းရာ၌ဖြစ်၍
ရှုသူတို့အား အသိဉာဏ်ကို အထူး ပေးနိုင်သည့်အပြင်, စာပေ၌ စိတ်ထက်သန်ခြင်း
ဖြစ်စေနိုင်လေသည်၊ (၂) ဒုတိယ၌ စကား-ဝါကျအဆုံး-အဆုံးတွင် သာ ( ၊ )
တချောင်းဆွဲ ပိုဒ်များကို ထားရှိ၍, ဆိုခဲ့ပြီး ဝါကျစုပေါင်း၏ အဆုံးမှာ သာ ( ။ )
၂-ချောင်းဆွဲ ပိုဒ်များကို ထားရှိသည်၊ ထိုသို့ မဟုတ်မူ၍ ဝါကျ အတွင်း ထိုထို
နေရာများ၌ အပိုဒ် မထားချေ။

ထိုသို့ ပြုလုပ်ခြင်းမှာ စကား-ဝါကျ တခုကို ရှင်းလင်း လွယ်ကူ၍
ထွက်ပေါ်စေရန် ဖြစ်၏; ထို့ပြင်, ( ။ ။ ) ဤကဲ့သို့ ၂-ချောင်းဆွဲပုဒ်မကို မထ
မှာ အသုံးမဲ့ အရေး၌ လုံ့လနှင့် မင်-ခဲ ပြုန်းတီးခြင်းမှ ကာကွယ်ရန်ဖြစ်၏၊ (၃)
စကား- ဝါကျ တခု အတွင်း ထိုထို သင့်တော်ရာများ၌ ( , ) ဤသို့သော အမှတ်
လည်း ထားရှိ၏; ၎င်းမှာ ဝါကျ—ချင်း ရောနှောရာ, သရုပ်, ရေတွက် ပြရာ စသည်
သဖြင့် အဓိပ္ပါယ် "အသိဉာဏ်ကို ပိုမို သန့်ရှင်းစေ၏၊ (၄) ထေ့တွင် အကြောင်
နာမ်ပါတ်ကူးများတွင် ပုဒ် မပြတ်သင့်ရာ၌ ဖြစ်စေ, သံယုက် အတွင်း၌ဖြစ်စေ မပြ

ကင်ရှား ဖော်ပြရသော်, ကြောင်းကူး၌ 'ကြ—က်' 'အ—ဈွော' ဟူသော
ကဲ့သို့ မပြတ်စေရ; ထို့ပြင်, နာမ်ပါတ်ကူး၌ 'ဘာ-သာ' အာ-ဏာ စသည်ကဲ့သို့ စကာ
မပြည့်သော ပုဒ်များ, ယခင် ပြခဲ့ပြီး သံယုက် အတွင်းများ၌ မပြတ်စေရ; ၎င်းမှာ စာ
တို့အား အနှောင့်-အယှက်ကို မပေးစေမူ၍, ၎င်းတို့၏ မျက်စိအသရေကို ပေးကာမှ

(၇) ပဥ္စမဦး ဝိဘတ်ချန်ခေါ်ကြောင်း- တခွန်းဆုံးရာ ပုဒ်များတွင် တပုဒ်နှင့် တပုဒ် သီးသန့် ခွဲခြားထား၏ ၎င်းကား ပုဒ်- တပုဒ်ကို ခွဲခြမ်းခြင်းဖြစ်၍ စာ ဖတ်ရှုတ်ရေး၊ အဓိပ္ပါယ် သိနားလည်ရေးတွင် အထူး အားပေးနိုင်လေသည်; ထို့ပြင် စာပြင် ဆရာတို့အား စာကို အမှားမရှိပြင်ဆင်နိုင်ရန် အားပေးနိုင်လေသည်။

ယင်းသို့ ဆိုခဲ့သော စကားများသည်ကား ဤကျမ်း၌ ဝါကျ—ကန့်—သတ်—ဖြတ်ရပ် ပုံကို ပြဆိုချက် အကျဉ်းတည်း၊ ဤ ဆိုလတ္တံ့ စကားသည်ကား မြန်မာဘာသာ၌ ဝုစ်—ကာလ မှန်ထားပုံကို ပြဆိုချက်တည်း၊ ကျွန်ုပ်တို့မြန်မာ-ဘာသာတွင် စာရေး—ဆရာ များစွာတို့သည် ပါဠိဘာသာ ကျမ်းတို့၌သာ လေ့လာကြ၍ မြန်မာ ဘာသာ၌ မလေ့လာသူ၊ ဂရု အပြု နည်းပါးသူတို့ သာ ဖြစ်ကြ သောကြောင့် ဝုစ်-ကာလ-များကို မှားမှား ယွင်းယွင်း သုံးစွဲကြ-သူ များကုန်၏၊ ဥပမာ— သူတို့သည် သွား၏၊ (ဝုစ်လွဲ)ရေးအခါ၊ လိပ်က ဤသို့ ဆို၏၊ (ကာလလွဲ) ဤသို့ စသည်၊ စင်စစ်ကား မြန်မာ-ဘာသာ၌ ကာလကို အတိတ် အနာဂတ် တို့မှာ များစွာ မထင်ရှားစေမူ၍ ပစ္စုပ္ပန်ကာလ ကိုသာ သုံးကြကုန်၏။

ကျွန်ုပ်ကား ဤသို့ မဟုတ်မူ၍ ဝုစ်နှင့် ကာလကို မှန်ကန်စွာ ပင် သုံးစွဲ ရေးသား၏၊ ထို့ပြင်၊ ဘာသာ မြန်ဆို ထားပုံကို အနည်းငယ် ပြဆိုဦးအံ့။ ကျွန်ုပ်တို့ မြန်မာဘာသာသုံး ကျမ်းဆရာ များစွာတို့မှာ ပါဠိ-ဝါကျကိုသာ များစွာ နှစ်လုံး ပြု အားကြီးကြ သဖြင့် ၎င်းတို့ ရေးသားသော မြန်မာ-ဝါကျများမှာ ပါဠိဘာသာသွားများသာ များကုန်၏၊ ဥပမာ— အကြင် အရပ်၌ ဘုရားရှိ၏၊ ထိုအရပ်သို့ ကပ်ရောက်၏- စသည်ကဲ့သို့တည်း၊ ၎င်း ဝါကျသုံး များမှာ စာ ဖတ်သူတို့အား နား မလယ်စေရုံမျှမက၊ မူလ ၎င်း ဘာသာနှင့် အဓိပ္ပါယ်ကို ပင် ရည်စရာ ပြုလုပ် ပြောင်လှောင်ဖွယ်ကိုဖြစ်စေ သေး၏။

ထို့ပြင် မြန်မာကျမ်းရေး ဆရာ များစွာတို့သည် မိမိတို့ နိုင်နင်းသော ဘာသာ-စကား များကို အပြောက်-အမြား ထည့်သွင်း ရေးသားတတ်ကြကုန်၏; ၎င်းဖြင့် စာ ဖတ်သူ၏ အသိဉာဏ်ကို နှောင့်ယှက်၍ စာ ဖတ်ချင်စိတ်ကို ပျက်စီးစေလေသည်၊ ယင်း သို့ စသည် ဖြင့် ပါဠိဘာသာတတ် ဆရာတို့က မြန်မာ-စာပေကို ပျက်ပြယ် ချွတ်ချော်စေသကဲ့သို့ အင်္ဂလိပ်-ဘာသာတတ် ဆရာတို့က လည်း မြန်မာဘာသာမှာ အဓိပ္ပါယ်-လုံးလုံး မသိနိုင်လောက်အောင် ပင် ဖျက်ဆီးကြတတ်ကုန်၏၊ ကျွန်ုပ်မူကား ယင်းသို့ ဆိုခဲ့တိုင်း မြန်မာ-ဘာသာ ရေးသားထုံး စည်းပျက်များကို ရှောင်နိုင်သမျှ ရှောင်ရှားခဲ့သည် ဖြစ်၏။

ကျွန်ုပ်၏ ထင်မြင်ချက်ကား လူမျိုးတို့၏ စိတ်နေ စိတ်ထားသည်၎င်း၊ လုံ့လ အင်အား၊ သွားလာ နေထိုင်ပုံ၊ ပြောဆို - ကျင့်ကြံပုံများသည်၎င်း— ဤအရာများသည် စာပေကိုအမှီပြု၍ ဖြစ်ကြသည်; စာပေ ရေးသား-သုံးစွဲပုံ၊ ဖြတ်ရပ်-ပုဒ်ဖိကန့်ပုံ၊ ပုံနှိပ်ပုံ ကျန

ကောင်းမွန် သလောက် ထို ဘာသာရှင်တို့ အခြေအနေမှာ လည်း ကောင်းမွန်လေသည်
စာပေ နေထား မကျ သလောက် ထို ဘာသာရှင်တို့ အခြေအနေမှာ လည်း ပျက်ကွက်
သည် ဟု ထင်မြင်ပေ၏၊ ထို့ ကြောင့်, ကျွန်ုပ်၏ ထင်မြင်ချက်များကို ကျနစွာ စဉ်းစာ
ကြလျက်, ကျွန်ုပ်တို့ ဤ အဘိဓာန ကျောက်စာ မြန်မာဘာသာပြန် ရေးသားပုံကို ဂ
အထူး ပြု၍ တုမှု သင့်သည် ထင်က တုမှု ရေးသားကြ စေကုန်သတည်း။

## ၄။ အဘိဓာန ကျောက်စာတော်

## မာတိကာချုပ်၊

ကျ။ ရုဒ္ဒသ သိလာ ပတ္တာ'နုသာသနီ ၁၄-မျိုး(ရရှိရာ ဌာန- ၁×ဂီရနာရ,၂×ဓောလိ
၃×ဇောဂဍ၊ ၄×ကာလသိ, ၅×သဟဗာဇဂရဟိ, ၆×မာနသဟရာ)

ခ။ သတ္တသိလာထမ္ဘာ'နုသာသနီချပ်ရေ ၇-မျိုး (ရရှိရာဌာန—၁×ဒေဟလီသိဝလိ
က, ၂×ဒေဟလီမီရတ, ၃×ဧလ္လာဟာဗဒ်, ၄×ရဓိယ, လောရိယအရရာ, ၅×မထိယာ-လောရိယ
နုဂန္ဒဂရဟ, ၆×ရာမပုရ၊)

ဂ။ ခုဒ္ဒက သိလာပတ္တာ'နုသာသနီ ၅-မျိုး (ရရှိရာဌာန—၁-ဓောလိ, ၂- ဇောဂဍ
၃—သိဒ္ဓပုရ, ၄—အဟြောရာမ်, ၅—ရူပနာထ, ၆—ဗေရာတ, ၇—မသကိ၊)

ဃ။ ပုနခုဒ္ဒက သိလာပတ္တာ'နုသာသနီ ၇-မျိုး (ရရှိရာ ဌာန ၁-နိဂလိဗာ, ၂×လုမ္ဗိ
ဒေဝီ (ပဒရိယာ,) ၃×ဧလ္လာဟာဗဒ်, ၄×လောရိယာအရရာဇ, ၅×လောရိယာနန္ဒဂါရယ
(နုဝန္ဒဂါရဟ)

၎င်းများမှာ ယခု—အခါ ဤနိုင်ငံပြတိုက် ကလကတ္တား၌ တည်ရှိ၏; ၎င်းပုံတူစာ
အချို့မှာ လက်ခနော—နယ်ပြတိုက်၌ ရှိကြ၏။

# ၅။ ကျောက်စာ အဓိပ္ပါယ်ချုပ်။

## က။ ကျောက်ပြား ၁၄ ချပ် အရ အဓိပ္ပါယ်ချုပ်။

၁။ ပထမ ကျောက်ချပ် ဩဝါဒ— ပွဲလမ်းသဘင်နှင့် အသက်သတ်၍ ယဇ်ပူဇော်ခြင်းကို တားမြစ်သည်။

၂။ ဒုတိယ ကျောက်ချပ် ဩဝါဒ—ဆေးကုဆရာများထားရှိခြင်း, ဆေးပင်ဝါးပင်များစိုက်ပျိုးခြင်း, သီးပင်—ရိပ်ပင် စိုက်ပျိုး၍, ရေတွင်း-ရေကန် တူးခြင်းများကို ဖေါ်ပြသည်။

၃။ တတိယ .. ဩဝါဒ—ငါးနှစ် တကြိမ် တရားဟော နယ်လှည့် ထွက်ရန်, မိဘ ဆရာသမားတို့၌ ရိုသေရန်, သတ္တဝါ မသတ်ဖြတ်ရန်, အကုန်-အကျ မများရန် ဖေါ်ပြသည်။

၄။ စတုတ္ထ .. ဩဝါဒ—ပျော်ရွှင်ဖွယ် ဘုံဗိမာန် ဆင်ယာဉ် မြင်းယာဉ် စသည်တို့ကို ကြည့်ရှုရန် လှူယ်စေကာ, တရားသိမြင်ရန် ခဲယဉ်းကြောင်း, မိဘ-ဆရာတို့ စကားစသည် လိုက်နာရန်, အကျင့်သီလရှိမှ တရားတည်နိုင်ကြောင်း ဖေါ်ပြသည်။

၅။ ပဥ္စမ ဩဝါဒ—ကောင်းမှုပြုရန်ခဲယဉ်းကြောင်း, သူကောင်း သာ ကောင်းမှုပြု၍ သူယုတ်မာသည် ကား, ကောင်းမှုကို ဖျက်ဆီးကြောင်း, တရားကြီးကြပ် အမတ်များထားရှိကြောင်း ယောနက, ကမ္ဗောဇ စသော တိုင်းပြည်တို့၌ တရားဖြန့်ကမ်းကြောင်း ဖေါ်ပြသည်။

၆။ ဆဋ္ဌမ ... ဩဝါဒ— ပဋိဝေဒက—အမိန့်ရ အတင်အလျှောက်တော် ခန့်ထားကြောင်း၊ မိမိအမိန့်ချပြီး ဖြစ်စေကာ, မသင့်က ပြန်လည် လျှောက်တင်ခွင့် ပေး၍ လောကစီးပွား ကိုသာ ဆောင်ရွက်လိုကြောင်း ဖေါ်ပြသည်။

၇။ သတ္တမ...ဩဝါဒ -ယုံသည့် အယူဝါဒရှင်ကို မဆို, သံယမ ဘာဝသုဒ္ဓိကျင့်ဝတ်များ ရှိနိုင်ခဲ့လျှင်, ကျေးဇူးသိတတ်ကြောင်း, ထိုသို့ မဟုတ်လျှင်, ယုတ်ညံ့ကြောင်း ဖေါ်ပြသည်။

၈။ အဋ္ဌမ.... ဩဝါဒ— ဝိဟာရယာန မြတ်ကြောင်း, ဗောဓိပင်သို့ ဖူးမြော်ရန် ထွက်ကြွကြောင်း, ရဟန်း ပုဏ္ဏားတို့နှင့် တွေ့ဆုံရခြင်း မြတ်ကြောင်း ဖေါ်ပြသည်။

၉။ နဝမ... ဩဝါဒ လူတို့မင်္ဂလာ အထူးထူး ပြုကြစေကာ၊ တရားမင်္ဂလာသာ မြတ်ကြောင်း၊ တရားမင်္ဂလာဟူသည် အမိ အဘ ဆရာ-သမား စသည်၌ တရားမှန်သော ဝတ်အတိုင်းလိုက်နာခြင်း ဖြစ်ကြောင်း၊ ၎င်း သာ ပစ္စက္ခ တမလွန်အကျိုး ၂ ပါးကို ရစေကြောင်း ဖေါ်ပြသည်။

၁၀။ ဒသမ ဩဝါဒ—ယသ ကိတ္တိကို ဂရုမပြုစေကာ၊ မိမိနောက်သို့ အတုလိုက်၍ တရား ကျင့်ရေး အတွက် လိုလားသဖြင့် ယသ ကိတ္တိကို လိုရကြောင်း၊ ဆရာကောင်းနှင့် ထက်သန်သော လုံ့လ ကင်းလျှင် ကောင်းမှု ပြုရန် ခဲယဉ်းကြောင်း၊ ဖေါ်ပြသည်။

၁၁။ ဧကာဒသမ ဩဝါဒ-ဓမ္မဒါနလောက် မြတ်သော ဒါန မရှိကြောင်း၊ ၎င်းမှာလည်း အမိ- အဘ ဆရာ-သမား သည်၌ ဓမ္မကျင့်ဝတ် အတိုင်းကျင့်ခြင်းဖြစ်ကြောင်း ဖေါ်ပြသည်။

၁၂။ ဒွါဒသမ...ဩဝါဒ—အယူဘာသာဝင် ဟူသမျှအား ရှင်လူ မရွေး မိမိလူ့ဒါန်း ပူဇော်ကြောင်း၊ မိမိအယူဝါဒကို သာ လေးမြတ်ပူဇော်၍ အယူခြားကို ပူဇော်မှု၊ မထေမဲ့မပြုရကြောင်း၊ အယူဝါဒချင်း နှီးနှောရန် လိုကြောင်း၊ တဦးနှင့် တဦး သာမဂ္ဂီဖြစ်ရန် လိုကြောင်း ဖေါ်ပြသည်။

၁၃။ တေရသမ...ဩဝါဒ— ကလိင်္ဂပြည်ကို အောင်မြင်ကြောင်း၊ ၎င်းအတွက် သံဝေရကြောင်း၊ ၎င်းမှာ တရားကျ အောင်မြင်ပုံ မဟုတ်ကြောင်း၊ သံယမ သမစရိယ မဒ္ဒဝဖြင့် အောင်မြင်ခြင်းသာ ဓမ္မဝိဇယ ခေါ်ရကြောင်း၊ ယောနက စသည် နိုင်ငံများစွာကို တရားဖြင့် မိမိ အောင်ခဲ့ကြောင်း၊ ဓမ္မဝိဇယ သာ မရှုံးသော အောင်ခြင်းဖြစ်ကြောင်း ဖေါ်ပြ၏။

၁၄။ စုဒ္ဒသမ... ကျောက်ချုပ်ဩဝါဒ— ကျောက်စာများ၌ ထိုမျှ ကျယ်ဝန်းသော နိုင်ငံတော်ကြီး အတွင်း၌ များစွာဖြန့်နှံ့ရ၍ နှုတ်က ပြောဆို မိန့်မြွက်တိုင်း ရေးသားစေသဖြင့် စကား အကျဉ်း အကျယ် အမျိုးမျိုး ကွဲပြားနေကြောင်း ပြဆိုသည်။

## ခ။ ကျောက်တိုင်ကျောက်စာ ၇ အရ အဓိပ္ပါယ် ချုပ်။

၁၅။ ပဌမ ကျောက်တိုင်ဩဝါဒ—ပစ္စက္ခ တမလွန်ကျိုး ၂-ပါးစုံကို သာမန်တရားလိုကာမျှ၊ ဆင်ခြင်ဉာဏ် ရှိကာမျှ၊ သာမန် နားထောင် လိုက်နာကာမျှ စသည်နှင့် မဖြစ်နိုင်

၁၆။ ဒုတိယ...သြဝါဒ— တရား၌ ကောင်းစွာပြုကျင့်ခြင်း ဟူသည် တရားအသစ်ပွားစီးစေခြင်းဖြစ်ကြောင်း၊ ထိုကြောင့် တရားသစ် တိုးမှုကို ပြုကြောင်း ပြဆိုသည်။

၁၇။ တတိယ...သြဝါဒ— မကောင်းမှု မကောင်းကျိုး ကိုမြင်လင့် သကဲ့သို့ မကောင်းမှုပြုက လည်း မကောင်းကျိုး ရမည်ဟု သိသင့်ကြောင်း, ကောင်းမှု၌ စဏ္ဍိက္က, နိဋ္ဌုရိယ, ကောဓ, မာန, ဣဿာ တရားများ မဖိစီးမိစေသင့်ကြောင်း ပြသည်။

၁၈။ စတုတ္ထ...သြဝါဒ— ထိုမြည်သော တရား၌ တရားသဘောဖြင့် တိုင်းသူ ပြည်သားတို့ အားလုံး ဖြစ်စေရေးမှာ ပဓာန ရှင်ဘုရင် တာဝန် ဖြစ်စေကာ, အုပ်ချုပ်သူ ဟူသမျှ လက်အောက် အစိုးရတို့ ထူးခြား လည်း ဖြစ်ကြောင်း, စစ်တိုက်မှု မဖြစ်ပွား ဒက်-အပြစ်ပေး မများပဲ, အလတ်စား လမ်းကို သွား ကိုသင့်ကြောင်း ပြဆိုသည်။

၁၉။ ပဉ္စမ...သြဝါဒ—သတ်ဖြတ်ခြင်း မပြုရ, အားမွဲပေးသော သတ္တဝါ များနှ သူရှပ် တော မီး မရှို့ ရကြောင်း၊ အသက်ရှိ သတ္တဝါ ချင်း မတိုက်ခိုက်ရ— သတ္တဝါ တဦးဖြင့် သတ္တဝါ တဦးကို မကျွေးမွေးရကြောင်းနှင့် အသက် မသတ်ဖြတ်ရသော နေ့ရက်များကို ပြဆိုသည်။

၂၀။ ဆဋ္ဌမ...သြဝါဒ—မိမိတရား ပွားစီးရန် လုပ်ကိုင်ပုံ, မိမိကိုယ်တိုင် တရားကျင့်၍ ဆွေမျိုး မိတ်ဆွေ သင်္ဂဟ ညည့်၌ တရားကျင့် စေရပုံ ဖော်ပြသည်။

၂၁။ သတ္တမကျောက်တိုင်သြဝါဒ—တိုင်းပြည်၌ တရား အမြဲ ဖြစ်နေရန် ကြိုးစားခဲ့ပုံ ပြောက်နိုင်ခဲ့ကြောင်း, မိမိမှာ တရား ကျင့်ဝတ် ပြောက်ရန် တရား နည်းလမ်း, တရား အဆောက် ခြင်းများကို ပြုလုပ်ကြောင်း, ဒါနမှ စသည်မှာ အရေး မကြီးသော ကောင်းမှု ဖြစ်စေကာ, တရားလမ်း မှင့်လှင်းစေရန် ဖော်ပြသင့်ကြောင်း, မိမိကိုယ်တိုင်၏ ကောင်းမှုနှင့် မိဖုရား သားတော်များ ဘွားတော်မျိုးတော်တို့ ကုသိုလ်များကို ဖော်ရှားဖော်ပြစေကြောင်း, တရား ပွားစည်းရေးမှာ ဓမ္မတာ နိယာမ နှင့်ဗြတ္တိ ၂ မျိုးကြောင့် ဖြစ်စေကာ, ဓမ္မတာအားဖြင့် ကုသိုလ်တရား ဖြစ်ပွားရေးမှာ နည်းပါး၍, နိဗြတ္တိ—တိုက်တွန်းခြင်းဖြင့် ကုသိုလ်ဖြစ်ပွားရေး သာ များကြောင်း, မိမိသည် ၂-မျိုးစုံဖြင့်ပင် ကုသိုလ်တရားကို ဖြစ်စေကြောင်း စသည် ဖော်ပြသည်။

# ၈၊ ကျောက်ချပ်ငယ် ကျောက်စာ ၅ အရ အဓိပ္ပါယ်ချုပ်။

၂၂။ ပထမ ကျောက်ချပ် ဩဝါဒ— အမတ်များနှင့် မြို့ကြပ် မြို့ကွပ်များတိုင်းသူ ပြည်သားတို့ အစီးအပွား လိုလားရမည့် အကြောင်း, အနည်းဆုံး တဦးတယောက်၏ အကျိုး ဖြစ်ကို ပင် ကျင့်နိုင်က ကျင့်သင့်ကြောင်း, အပြစ်ဒဏ် ထားခြင်းမှာ အများကို ဆင်းရဲ စေကြောင်း, ဣဿာ, အာသုရောပ, နိဋ္ဌုရိယ, အတုလနာ, အနာဝုတ္တိ, အာလသိယ, ကိလမထ- တရားရှိသူတို့ အစီး- အပွား ဆောင်၍ မဖြစ်ကြောင်း, တရားကျင့်၍ နတ်ရွာ, မကျင့်၍ အပါယ် ရောက်ကြောင်း, ဤတရားကို အမြဲ နာယူရမည့် အကြောင်းနှင့် မြို့ရွာ အုပ်ချုပ် သူတို့က ကြီးကြပ်ရမည့် အကြောင်းပြဆိုသည်။

၂၃။ ဒုတိယ... ဩဝါဒ— ပထမ ကျောက်စာနှင့် အလားတူပင် မိမိက တိုင်းသူ ပြည်သားများကို ငဲ့ညှာ ထောက်ထား၍ တရားကျင့်ရန် တိုက်တွန်းသည့် အတိုင်း လိုက်နာ ကျင့်ဆောင်ကြရန် တိုက်တွန်းကြောင်း ဖေါ်ပြသည်။

၂၄။ **တတိယ...** ဩဝါဒ—မိမိသည် ပထမ ၂-နှစ်ခွဲ ပတ်လုံး သာမန် ဥပါသကာ ဖြစ်ခဲ့၍ အထူး မရှိခဲ့စေကာ, နောက်တနှစ်ကျော်လောက်၌ သံဃာများထံ အထူးဆီးကပ် မှီဝဲ၍ တရားနာကြားသဖြင့် တရားဆိုင်ရာ ဗဟုသုတဖြစ်ရကြောင်း, တရားကျင့်လျှင်, ကျင့် ကြံ ပြုလုပ်မှုထက် ၂-ဆ တိုးကြောင်း စသည် ဖေါ်ပြသည်။

၂၅။ စတုတ္ထ...ဩဝါဒ— ဤကျောက်စာမှာ အရင်းပိုင်းနှင့် အများပိုင်း မရှိ, ပျက်ပြားနေ၏၊ အမိ- အဘ ဆရာသမားတို့၌ တရားအတိုင်း ကျင့်ရမည့် အကြောင်း ပြသည်။

၂၆။ ပဉ္စမ ကျောက်ချပ် ဩဝါဒ— မဂဓတိုင်း အတွင်းရှိ သံဃာတော်များထံ ဝင်ရောက်၍ တရားဆွေးနွေးကြောင်း, အရိယာဝံသ သုတ် စသော သုတ်ပေါင်း ၁၀ ခန့်မှာ သူတော်တရား အရှည်- အမြင့် တည်ရန် သိးသန့် ရေးသားထားကြောင်း ဖေါ်ပြသည်။

## ဿ။ ကျောက်တိုင်ငယ် ကျောက်စာများ အရှ အမိပ္ပါယ်ချုပ်။

၂၇။ ပထမ ကျောက်တိုင် အမှတ်အသား— ဘုရား ဖွားရာ လုမ္ဗိနီသို့ လာရောက် ဖူးမျှော်၍ ကျောက်တိုင် ကျောက်တိုက် တည်ထားခဲ့ကြောင်း ပြဆိုသည်။

၂၈။ ဒုတိယ ကျောက်တိုင် အမှတ်— ကောနာဂုံ ဘုရားရှင်၏ စေတီတော်ကို ပူဇော်၍ ထပ်ဆင့် ပြင်ဆင်ခဲ့ကြောင်းပြဆိုသည်။

၂၉။ တတိယ ကျောက်တိုင်အမှတ်— သံဃာတော်များ၏ အလုပ်အကြေးအဝတ် ဖြူဝတ်ဥပါသကာများ ထားရှိကြောင်း, ၎င်းတို့ ပြုရန် ဝတ်တရားများ ပြဆိုသည်။

၃၀။ စတုတ္ထ ကျောက်တိုင် အမှတ်— ၎င်းမှာ ပျက်စီးနေ၏၊ အဓိပ္ပါယ်မှာ ယခင် အလို ပင် ဖြစ်၏။

၃၁။ ပဥ္စမ ကျောက်တိုင် အမှတ်— ၎င်းမှာလည်း ယခင်အတိုင်း ပျက်စီးနေ၏၊ အဓိပ္ပါယ်မှာ ယခင်နှင့် တူ၏။

၃၂။ ဆဋ္ဌမ ကျောက်တိုင် အမှတ်— အသောက မင်းကြွားကြီး၏ ဒုတိယမိဘုရား ကြီး၏ ကုသိုလ်တော် အမွ·ဝစ္ဆိကာရာမ ကျောင်းတော် ပြုလုပ်ကြောင်း ပြ၏။

၃၃။ ဂူလိုဏ် ကျောက်စာများ— လိုဏ်ပြုလုပ်၍ တစုံတဦးသော အာဇီဝကအား လှူဒါန်းကြောင်း မှတ်တိုင် ၃-ခု။

ဤကား အသောက ကျောက်စာ ၃၅ ချပ် အတွက် အဓိပ္ပါယ် ချုပ်တည်း။

## ၆။ ကျောက်တိုင်နှင့် ကျောက်စာ တွေ့ရာဌာနများ။

### က။ အမည်နှင့်အကြောင်းအရာ။

အလ္လဟာဗဒ- † Allahabad–အလ္လဟာဗဒမြို့ ခံတပ်–စစ်တန်းလျား အိမ်များအနီး၌ ကျောက်တိုင် တွေ့ရ၏၊ ၎င်းမှာ ကောသမ္ဗီမှ မုဟာမေ့ဒင် ပရော့

† ဤအမှတ်ပါ ဌာနများမှာ ခြင်္သေ့ရုပ်နှင့် မြင်းမှား ခံနေသောလှသော ကျောက်တိုင်ကြီး များ ရှိသော ဌာန။

ဘုရင် ရွှေ့ပြောင်းဟန်ရှိ၏၊ လ္လဟာဗဒ—ကား ဂင်္ဂါနှင့် ယမုနာမြစ် ၂ ခု ဆုံရာ ရွှေးက ပယာဂခေါ် ဆိပ်ကမ်း နေရာတည်း။

ကာလသိရွာ–Kalsi–ဒေဟရာဒွန် ဒိစတြိတ် U P. နယ်၊ ကျောက်စာကို မဆူရီ မီးရထား ရုံမှ အနောက်ဖက် ၁၅ မိုင်ကွာ သယာရမျှဂ်– လမ်း ကာလသိရွာနှင့် ထမိုင်ခွဲ၍ ကျောက်တောင်ပေါ်၌ တွေ့ရ၏။

ကာလိင် Kalinga အိန္ဒိယ အရှေ့ပိုင်း ဗင်္ဂလားပင်လယ်ကမ်း အနီး—အပါနယ်။

ကောသမ္ဗီ Kawsambi ကျောက်တိုင်မှာ မူလ ကောသမ္ဗီကပင် ဖြစ်၏၊ သို့ရာတွင်, လ္လဟာဗဒ၌ ပြောင်းရွှေ့ တည်ခန့်၏၊ လ္လဟာဗဒ နယ်၌ ကောသမ်ခေါ် ရှိုင်း— လူမျိုးတို့ မြို့တခု ယခု ရှိနေ၏၊ သို့ရာတွင်, ဗုဒ္ဓဘာသာ ကောသမ္ဗီမှာ လ္လဟာဗဒမှ ၇ ရက် ခရီးကွာ ပါဘိုနိုတော အရပ်(မြို့ဟိုးကုန်းတော)ဖြစ်ဟန်ရှိ၏၊ ကျောက်တိုင်မှာ ဗာရဟတ်(ဘာရဟုတ်)အရပ်၌ တည်ထားခဲ့ဟန် ရှိ၏။

ဂိရနာရ Girnar (တောင်) ရှေးက ဇုနာဂရယာ, သို့မဟုတ် ဥပကောဒတမြို့, ကထိဝါရနယ်, [ရှေး-က သုရာသျှတြ—သုရဋ္ဌနယ်] အဌ၊ ဂိရနာရတောင် ၂ ခု အကြား၌ တည်၏။

ဇာတိင်္ဂရာမေသရ Zatinga-Rameswara မိုက်ဆိုရ်ံ မြောက်ပိုင်း စိတလ ဒုရဂ ဒိစတြိတ်၊ ဇောဂဒ (ဓ) Zawgada or Zawgadh မဒ္ဒရဋ္ဌနယ် ဂဥ္ဇာမ— Gamjam ဒိစတြိတ်။

ဒေဟလီ တောပရ † Dehli Topra ဒေဟလီမြို့အနီး ဖိရောဇာဗာဒ် မြို့ဟောင်း ကိုထိသ ထိပ်၌ တည်၏၊ အမ္ဗာလ ဒိစတြိတ် တောပရ အရပ်မှ ရွှေ့ပြောင်းထား၏၊

ဒေဟလီ မိရာတ † Dehli Mirarth or meerut ဒေဟလီမြို့ ပျက် နေရာ၌ တွေ့၏ ၎င်းမှာ မိရာတ် အရပ်မှ ရွှေ့ထား၏။

ဓောလီ Dhawli (ရွာ)ဩရိဿာနယ် ပုရီ ဒိစတြိတ်, ဘုဝနေသာရမှ တောင်ဖက် ၇ မိုင်ကွာ ဓောလီရွာ အနီး တောင်ထိပ်။

နာဂရာဇုနီ Nagrazuni ဂယာ အနီး နာဂရာဇုနီတောင် ဂူလိုဏ်အတွင်း၊

နိဂလိဝ † Nigliwa အင်္ဂလိသ်နယ် ဗသတီ ဒိစတြိတ် မြောက် နေပါလနယ်တွင်း နိဂလိဝရွာ အနီး နိဂလိဝခေါ် ပင်လယ်၏ အနောက်ကမ်း၌။

ဗရာဗရ Brabar ဂယာ အနီး ဗရာဗရ တောင် လိုဏ်ဂူတွင်း။

ဗေဆာတ Bairat ရာဇပုတာနနယ် ဗေရာတခေါ် ရှေးမြို့ဟောင်းကြီး အနီး ပန္နတောင် ခြေရင်း အိမ်ပမာနရှိ မီးတောင် ကျောက်တုံးကြီး တောင်မျက်နှာ အောက်တွင် ထွင်းထား၏။

ဗြဟ္မဂိရိ Brahmagiri မိုက်ဆိုးရိုနယ် မြောက်ပိုင်း စိတလဒုရဂ ဒိစတြိတ် ဇဘိဂ်ရာမေသာရ, ဗြဟ္မဂိရိ, သိဒ္ဓါပုရ, ၃ နေရာကား ရှေးမြို့ဟောင်းကြီးနေရာ။

ဘာဗြူ Bhabru ဗေရာတမြို့ အနီး ပန္နတောင်မှ အခြားတောင်ထိပ် ဗုဒ္ဓဘာသာကျောင်း ဝင်းအတွင်း ရာဇပုတာနာ နယ် [Mysore]

မသကိ Maski နိဇာမဒိုင်နယ် မသကိ အရပ်။

မာန်သဟရာ Mansahra [မာနသေရ] ဟဇာရ ဒိစတြိတ် အဗေ့ာတ္တာဗဒမှ ၁၄–မိုင်ကွာ အနောက်မြောက်။

ရာမပုရဝါ † Rampurwa ဗိဟာရ မြောက်ပိုင်း စမ္မာရန ဒိစတြိတ်။

ရူပနာထ Rupnath ဣန္ဒိယ အလယ်ပိုင်း ဇဗလပုရ ဒိစတြိတ် သလိမနာဗာဒ မီးရထားရုံ အနောက် ၁၄ မိုင်ကွာ။

လုမ္မိနီ † Rummindei ငြိတိသျှ အစိုးရပိုင် ဗသတီး ဒိစတြိတ် ဒုလဟာမှ အရှေ့မြောက် ၆ မိုင်ခန့်ကွာ နေပါလနယ်တွင်း ဘဂဝါနပုရရွာမြောက်တမိုင်ကွာရုမ်မိနဒေဝီ ခေါ် ပူဇော်ရာဌာန။

လောရိယာ အရရာဇ † Lauriya Arraj ကေသရိယာမှ အနောက်–မြောက်ဖက် မိုင် ၂၀ ကွာ အရရာဇ မဟာဒေဝခေါ် ဟိန္ဒူဘုရားကျောင်း အနောက်တောင် တမိုင်ခန့်ရှိ လောရိယာ ရွာငယ်ကလေး။

လောရိယာ နန္ဒဂ်ရဟ † Lauriya Nandanagarh စမ္မာရန် ဒိစတြိတ် ဗေတ္တိယာမှ မြောက်ယွန်း အနောက်မြောက် ၁၅ မိုင်ကွာ ဖြစ်၍ မထိယာမှ မြောက် ၃ မိုင်ကွာ နေပါလသွား ဗေတ္တိယာလမ်း အနီး လောရိယာခေါ် ရွာကြီးအနီး။

သဟဗာဇဂရဟိ Sahbazagarhi ဣန္ဒိယအနောက်–မြောက်ပိုင်းနယ်ပေသျှဝရ ဒိစတြိတ် ယူဇုဖဇယ်ပိုင် ပေသျှဝရမှ ခန်း မိုင် ၄၀ ကွာ သဟဗာဇဂရဟိ အရပ်။

သဟာသရာမ Sahasram ဗိဟာရ တောင်ပိုင်း သဟာဘာဒ ဒိစတြိတ် သဟာသရာမမြို့ အရှေ့ တောင်ထိပ် ဂူလိုဏ်၌။

သာဉ္စိ † Sanchi ဣန္ဒိယ အလယ်ပိုင်း ဘောပါလ ဒိုင်နယ် သာဉ္စိစေတီကြီး တောင်ဖက် တာဝင်ဝ၌၊ [စေတီသာက]။

သာရနာထ † **Sarnath** မိဂဒါယ- မိဂဓါဝုန် ဗာရာဏသီမြို့ မြောက် ၄ မိုင်ခန့်ကွာ ဆာရ်နာထ် ခေါ် အရပ် ဓာတသိဟခေါ် စေတီ၏ အနောက် မြောက်ဖက်။

သိဒ္ဓါပုရ **Siddapur** မိုက်ဆိုးရ်မြောက်ပိုင်း စိတလဒုရုဂ ဒိစတြိတ် ဗေရာတ မြို့ဟောင်းကြီး နေရာ။

သောပါရ **Sopar** ဗုံဗေမြောက် ဌာနာ ဒိစတြိတ် အနောက်ဖက်ကမ်း ရေးက သုမ္ပါရက ခေါ် ဆိပ်ကမ်း အရပ်။

## ၁။ ကျောက်တိုင်နှင့် ကျောက်ပြား။

အသောက မင်းကြီးသည် ကျောက်စာများ၌ ဖေါ်ပြပါရှိချက်အတိုင်း တရားစာတော်များကို ကျောက်တိုင် ကျောက်ပြားတို့၌ ထွင်းစေ၍ ဗုဒ္ဓဘာသာ တရားတော်နှင့် မိမိအလုပ်များ ထင်ရှားစေ၍ နောက်လာနောက်သားတို့ တရားမှန် လိုက်နာကျင့်ကြံ ကြစေရန် အလို့ငှာ များစွာသောနေရာတို့၌ စိုက်ထူစေခဲ့ပြီ၊ ယခုအထိ ကျောက်တိုင်နှင့် ကျောက်စာများ တွေ့ရှိရသော ဌာနများမှာ ၁၃ ဒိစတြိတ် ဒိုင်နယ်ရှိ၍ ကျောက်စာပေါင်း ၃၀ ကျော် ရှိ၏၊ သို့သော်, ထိုမျှမဟုတ်သေး, များစွာတွေ့ရဖွယ် ရှိသေးကုန်၏။

အသောက ကျောက်စာများမှာ အချို့အလွတ်စိုက်ထား၍ အချို့မှာ ပကတိရှိပြီး ကျောက်တောင်များ၌ ပြုပြင်ရေးထုထားလေသည်၊ အချို့မှာ ဂူလိုဏ်စသည်၌ဖြစ်၏၊သို့ရာတွင်, ထိုထိုကျောက်စာတို့သည် လူအများသိကြစေရန် ဖြစ်၍ လူသွား လူလာ များရာ, မြို့ပြကြီး,စေတီ ဗုဒ္ဓိုး,တန်ခိုးကြီးရှိရာ ဌာနများ၌ ဖြစ်ကုန်ရာပြီ၊ အချို့ကျောက်ပြားကြီးများမှာ အနံ ၂၄ ပေ,အမြင့် ၁၀ ပေအထိ ရှိကြ၏၊ ကျောက်တိုင်များမှာ ယခုအခါ ၁၀ ဌာန၌သာ တွေ့ရ၏၊ ၎င်းတို့မှာ လုံးဝန်း ၃ ပေ,အမြင့်ပေ ၄၀ အထိ ရှိကြ၍ အလွန် အထူးကောင်းမွန်ကုန်၏၊ ကျောက်သားဘိုင်များမှာ သဲကျောက်,သို့မဟုတ် ကျောက်မှုန့်ဖြင့် ပြုပြင် လုပ်ကိုင်ထားရှိ၏။

ကျောက်တိုင်များ ထိပ်၌ ဂဠုန်ရုပ်, ခြင်္သေ့ရုပ်, စသည် ထုလုပ်လျက် တင်ထား၏၊ အချို့မှာ အရုပ်တခုမျှရှိ၏၊ အချို့မှာလေးရုပ် ရှိကုန်၏၊အရုပ်ထုလုပ်ရေး,ကျောက်တိုင်ပြုလုပ်ရေးအတတ်၌အပြည့်—အစ်အကောင်းဆုံးတတ်မြောက်ကြသဖြင့်ယခုခေတ်အခါ၌ကိုယ်တော

ကျောက်များကို မည်သို့စပ်ဖက် လုပ်ကိုင်သည်ဟုမျှမသိနိုင်ကြ ဖြစ်ကုန်၏၊ ကျောက်များမှာ ဆိုခဲ့တိုင်းကျောက်မှုန့်များကို လုပ်ကိုင်ထားသည်ဟုပင် သိရ၏။ သို့ရာတွင်, အရောင်တလက်လက် အစဉ်မပြတ် ထိုးထွက်၍ မပျက် မပိုန်နိုင် မြဲနိုင် ချောမောလှသောကြောင့် ပကတိကျောက်အားဟုပင် အများတို့ ထင်မှတ်ကြကုန်၏။

လွန်ခဲ့သော နှစ်ပေါင်း ငါးရာခန့် အစဦးလောက်, သာသနာတော် သက္ကရာဇ် ၁၉၇၀ ကျော်အခါလောက်က ဟူနီယသို့ ဝိနည်းပိဋက ရယူလိုသည့် ကိစ္စနှင့် ရောက်ရှိသော တရုတ်–ရဟန်းတော် ဖာဟီယေနကမူ မိမိမျက်မြင်ဖြစ်သော ပါဋလိပုတ်မြို့တော်ရှိ အသောကနန်းတော်ကို ချီးကျူးရေးသားရာ၌–ဤလောက လူတို့ပြုလုပ် မဖြစ်နိုင်, နတ်အသုရာတို့ ဖန်ဆင်း တည်ဆောက်ထားသည်ဟု ၎င်းအတ္ထုပ္ပတ္တိ၌ ဆိုထား၏၊ ၎င်းမှာ 'စကားမှို့ဆို, များမို့ချဲ့' ထားက ဖြစ်သည်ဟု ဆိုရစေကာ, ယခု ဒီဠ ကျောက်တိုင်များနှင့် ချိန်ဆလျှင်, မလွန်လှချေ၊ ဝမ်းနည်းဖွယ်ကား ထိုကျောက်ဆစ် ကျောက်စပ် ပညာများ ကွယ်ပသဖြင့် ယခုအခါ အမွေ–အနှစ် မကျန်ခဲ့ခြင်း ဖြစ်ပေ၏၊ [အသောက မင်းတြားကြီး၏သာသနာရေး, လောကရေး ဆိုင်ရာလုပ်ငန်း အစုံအလင်, ၎င်းအတ္ထုပ္ပတ္တိ အပြည့်အစုံကို ဗုဒ္ဓဘာသာကျမ်းဂန် ဆိုင်ရာ ပါဠိ–အဋ္ဌကထာ–ဋီကာ မဟာဝံသ–ဒီပဝံသ များနှင့် ဘာသာခြား ဆိုင်ရာ ဂရိးကျရာဇဝင်, နန်းတွင်း မှတ်တမ်းများပါ, ဥရောပ ပညာရှိတို့ အဆို အရပ်ရပ်နှင့် တိုက်ဆိုင်ရေးသားထားရှိသော အသောက ကျော်အတ္ထုပ္ပတ္တိ၌ ကြည့်၍ သိမြင် ကြရလိမ့်မည်။]

ဤမျှကား အသောက ကျောက်စာ အတ္ထုပ္ပတ္တိ, ကျမ်းရေးသားထားရှိပုံ, ကျောက်စာ မာတိကာချုပ်, ၎င်းအဓိပ္ပါယ်ချုပ်, ကျောက်တိုင်နှင့် ကျောက်စာတွေ့ရှိရာ ဌာနများကို ကျောက်စာဖတ်ရှုသူတို့ သိသင့်ရာ, သိလိုရာ ဖြစ်သည့် အတိုင်း ဘာသာခြားကျမ်းက အကျယ် စပ်ဆိုင်ရာ ပြထားချက်မှ အကျဉ်းပြုရာ ပထမ ခန်း ဖြစ်သတည်း။

# ခ၊ အခန်း ၂။

## ကျောက်မြားကြီး ၁၄ ချပ် ကျောက်စာ ဩဝါဒများ။

## ခ၊ အခန်း ၂၊

## အထ စုဒ္ဒသ သိလာ ပဏ္ဍာ နု သာဆနိယော၊

## ပထမ-သိလာ’နုဆာသနိ၊

### ၁၊ မူလပါဠိ၊

အယံ့ ဓံမလိပိ ခပိံ ဂလသိ ပဝတသိ ဒေဝါနံ ပိယေန ပိယဒသိနာ ရာညာ လေခါပိတာ၊ ဣဓ န ကိံစိ ဇီဝံ အာရဘိတွာ ပဇူဟိတဗျံ, န’ပိ စ သမာဇော ကတဗျော၊ ဗဟုကံ ဟိ ဒေါသံ သမာဇမှိ ပသတိ ဒေဝါနံ ပိယော ပိယဒသိ ရာဇာ ဒခတိ၊ အတ္ထိ ပိ စ ဧကစာ သမာဇာ သာဓုမတာ ဒေဝါနံ ပိယသ ပိယဒသိနော ရာညော၊ ပုရာ မဟာနသမှိ ဒေဝါနံ ပိယဒသိနော ရာညော အနုဒိဝသံ ဗဟူနိ ပါဏသတသဟသာနိ အာရဘိသု သူပါထာယ၊ သေ ဣဒါနိ ယဒါ အယံ ဓံမလိပိ လေခိတာ; တဒါ တိဏိ ယေဝ ပါဏာနိ အာရဘိယံတိ သူပါထာယ, ဒွေ မောရာ, ဧကော မိဂေါ၊ သေ (သု) ပိ စ မိဂေါ န ဓုဝေါ၊ ဧတာနိ ပိ စ တိဏိ ပါဏာနိ ပဆာ န အာရဘိသရေ။

[ကာလသီ၊ ဂီရနာရ၊ ဓောလိ၊ ဇောဂဍ၊ သဟာဗာဇဂဍီ၊ မာနသာဟရာ — အရပ်များရှိ ကျောက်စာမူများမှ သဘော သက်ရောက် ညှိနှိုင်း ကူးယူချက်၊]

---

၁၊ မသိတ္တာ ဣတိ အတ္တဝိတဏ္ဍံ၊ ၂၊ ပါဏသတသဟဿာနိ—ဣတိ ဗဟူသု မူလေသု၊

# ၂၊ မူကွဲများ၊

အယံ—ဣယံ-,အယိ၊ခံမလိပိ—ခံမလိပိ,ဒြမဒိပိ၊ ဒေဝါနံ-ဒေဝနံ,ဒေဝနံ၊ပိယေနပိယေ-နာ, ပြိယေန, ပိယေ၊ ပိယဒသိနာ—ပြိယဒြသိန, ပြိယဒသိနာ၊ ရညာ-လာဇိနာ, ရညော၊ လေခါပိတာ—လေခိတာ, လိခပိတ, လိခပိတ, လိခါ၊ ဣဓ-ဟိဓ ဟိဒ၊ န-နာ, နော၊ ကိဉ္စိ—ကိဆိ, ကိစိ၊ ဇီဝံ-ဇီဝေ၊ အာရဘိတ္ဝာ အာလဘိတု, အရဘိတု, အရဘိတ၊ ပဇုဟိတဗ္ဗံ—ပဇော-ဟိတဝိယေ, ပြဇုဟိတဗ္ဗံ, ပဇောဟိ, ပြယုဟောတဝေ, ပြယုဟောတဝိယေ၊ စ-စာ, ဈ၊ သမာဇော-သမာဇေ, သမဇ, သမာ၊ ကတဗ္ဗော—ကဋဝိယေ, ကဋဝ, ကကဋဝိယ၊ဗဟုကံ-ဗဟုက, ဗဟုကာ၊ ဒေါသံ-ဒေါသာ, ဒေါသ၊ သမာဇမှိ-သမာဇသာ၊ သမာဇသိ, သမဇသ၊ ပဿတိ-ဒခတိ၊ အတ္ထိ—အဌိ၊ စ-စာ, တု, ဈ၊ ဧကစာ-ဧကတိယာ, ဧကတိ, ဧကတိယ၊ သမာဇာ—သမာဇ, သမဇ, သမယေ၊ သာဓုမတာ-သာဓုမတ, ဒေဝါနံပိယဿ-ပိယဿ, ပြိယသ, ပြိအသ၊ ပိယဒဿိနော-ပိယဒသိနေ, ပိယဒသိသ, ပြိအဒြသိသ၊ ရညော—လာဇိနေ,ရဇိနေ၊ ပုရာ-ပုလေ, ပုလုဝံ,ပုရ၊ မဟာနသမှိ-မဟာနသသိ, မဟနသသိ၊ အနုဒိဝသံ—အနုဒိဝ,အနုဒိဝသော၊ ဗဟူနိ-ဗဟုနိ၊ ပါဏသဟဿာနိ—ပါနသတ သဟဿာနိ,ပြာဏ—သတ—သဟဿြာနိ, ပြဏသတသဟဿြနိ၊ အာရဘိသု—အာလဘိယိသု, အရဘိယိသု၊သူပတ္ထာယ-သုပဌာယေ,သုပ ါဏာယ,သုပဌာယေသုပထာယေ,သုပဏြယေ၊တေ, တော၊ဣဒါနိ-အဇ, ဣဒနိ၊ ယဒါ-အဒါ,ယဒ၊ တဒ ါ—တဒ၊တီဏိ—တိံနိ, ဒြိယော၊ ယေဝ-ဧယဝ ါဧဝ,ယေ,ဝေ ါပ ါဏာနိ—ပါနာနိ,ပြာဏာ,ပြဏ,ပြဏနိ၊အာရဘိယံတိ—အာလဘိယံတိ, အာရဘိယတိ, အာရ,ဘရေ,လဘိယ, ဟံဉ တိ ဒုဝေ-ဒွေ၊ မောရာ—မဇုလာ, မဇူလာ, မဇုရဒုဝိ၊ ဧကော—ဧကေ၊ မိဂေါ—မိဂေ,မဂေါ, မြုဂေါ,ြမိဂေ၊ ဒုဝေါ—ဒုဝေ,ဒုဝ,ဒြုဝံ၊ တောနိ—တေ, တေနိ၊ တီဏိ—ဒြိ,တိံနိ,တိနိ၊ ပဆာ—ပဆ၊ အာရဘိသရေ—အာလဘိယိသံတိ, အရဘိသံတိ။

၃၊ မှတ်ချက်၊ မူကွဲများကို ဤအတိုင်း ပြဆိုနေခြင်းမှာ အကျိုး မများလှ၊ ထို့ကြောင့် နောက်စာတို့၌ ဤသို့ မပြုမူ၍, အထူး ပြဖွယ် သင့်ရာ၌သာ ပြသင့်သမျှ ပြအံ့၊ သို့ရာတွင်, မူ အလျည်းကျ လဲးလှယ် ရေးသားခြင်းဖြင့်လည်း သိစေလိမ့် သတည်း။

# ၄၊ မြန်မာနိဿယ ပြန်ချက်၊

အယံ ဓံမလိပိ—ဤတရား စာတော်ကို၊ ခပိံဂလသိ--ခပိံဂလ မည်သော [သက္ကတ,—ဟိန္ဒီ ဆရာတို့က ကပိံဇလ ဟု ရေးကြ၏၊] ပဗ္ဗတသိ—တောင်ထက်၌၊ [ဤခပိံဂလသိ ပဗတသိ ဟူသော စကားမှာ ဓောဂဉနှင့် ဓောလိ အရပ်ရှိ ကျောက်စာတို့၌ သာ ပါရှိ၍, အခြား ကျောက်စာများ၌ မရှိ၊ အကြောင်းကား ထို အရပ်များ၌သာ တောင်ရှိ၍, အခြားတို့၌ တောင်မရှိသောကြောင့်တည်း၊]† ဒေဝါနံ ပိယေန ပိယဒသိနာ ရာဉာ—မင်းတကာတို့ ချစ်ကြည် လေးစား အပ်၍, ဝါ-မင်းတကာထက် ချစ်နှစ်သက်ဖွယ် ဂုဏ်ထူးရှိ၍. [ဤစကားမှာ 'ရာဇာဓိရာဇာ, ရာဇာဘိရာဇမနုဇိန္ဒော—ဟူသော အသုံးအစွဲနှင့် ညီမျှသော ထိုခေတ်သုံးပါဠိ ဟု ဆိုရန် ရှိ၏၊] ပိယဒသိ ဟု ဝှဲချီခပ်နိုပ် အရှင် မဟာကာသပမထေရ်မြတ်၏ ဗျာဒိတ်တော်ကို ရရှိသော [အနာဂတေ*ပိယဒါသော နာမ ကုမာရော ဆတ္တံ ဥဿာပေတွာ အသောကော နာမ ဓမ္မရာဇာ ဘဝိဿတိ၊—သုတ် မဟာဝဂ္ဂဋ္ဌကထာ၊ ဤ၌ 'ဒါသ'ဟု ရှိသည်မှာ သဒ္ဒတ္ထယုတ္တိ မသင့်; ပိယဒဿိ နာမ ဟု ရှိသင့်၏၊ ထိုသို့ဖြစ်လျှင်; ဤကျောက်စာနှင့်လည်း ညီ၍, အတ္ထယုတ္တိလည်း ရှိရာ၏၊] အသောက မင်းတရားမြတ်ကြီးသည်၊ လေခါပိတာ—ရေးထုထားစေတော်မူအပ်သတည်း၊ [မှအချို့၌ လေခိတာ ဟုရှိ၏၊ ထိုသို့ ဖြစ်ရခြင်းမှာ 'တဗ္ဗု ကိဠံ အသမတ် လိခိတ်, အသဒိသ် ဝါ သံခေယောကာရဏာ ဝါ အာလောစယိတွာ လိပိကာရာ' ပရာဓေန'—ဟု စုဒ္ဒသမသိလာ' နုသာသနီ ၌ အဆိုရှိသည့် အတိုင်း အချို့မှာ အသောက မင်းကြီး ကိုယ်တော်တိုင် မြွက်ကြားတိုင်း ရေးသားချက်, အချို့မှာ အကျဉ်းချုပ် စကား မြွက်ကြားတိုင်း ရေးထားကြချက် ဖြစ်ကြ၏၊ ထို့ကြောင့် လိခိတာ, လိခါပိတာ ၂-ချက်ပင် သင့်၏။]

ဣဓ—ဤအရပ်--ဒေသ ဤနယ်ပယ်၌၊ ကိံစိ ဇီဝံ—တစုံ—တခုသော သတ္တဝါကို၊ အာရဘိတွာ-သတ်ဖြတ်၍၊ န ပဇုဟိတဗ္ဗံ၊—ယဇ် မပူဇော်အပ်၊ [ဤ စကားဖြင့် အသောက မင်း လက်ထက်က သတ္တဝါ သတ်၍ ယဇ်ပူဇော်ခြင်းကို တားမြစ် နှိပ်ကွပ်ကြောင်း

---

† မှတ်ချက် ၁၊ ပေါ်ဠလိပုတ်မြို့သား ဆရာမာစတာရ သမ္မကား ''The Gods' beloved Gracious king'' ဟူ၍ အင်္ဂလိပ်ဘာသာ ပြန်ဆို၏၊ ဒေဝသဒ္ဒါသည် ဥပပတ္တိဒေဝ, သမ္မုတိဒေဝ အနက်တို့ကို ဟောသည်ဖြစ်၍ ဤ ၂ နက်စလုံးဖြင့် မြန်မာပြန်နိုင်၏၊
* မှတ်ချက် ၂၊ ဤပါဠိသည် မဟာပဒိနိဗ္ဗာန သုတ်အဖွင့် အဋ္ဌကထာ၌ ရှိသည်၊ ရေးထားဖူးရေးကူး မှားခြင်းကြောင့် ဤသို့ မှားဟန်တူသည်၊ ကျောက်စာအတိုင်း အမှန်မှာ 'ပိယဒဿိ' နာမ ကုမာရော'ဟု ဖြစ်ရ၏, မှတ်သင့်၏။ U. K. D.

ထင်ရှား၏။] စ—ထို့ပြင်၊ သမာဇော—ယစ်ပူဇော်ပွဲ၊ ပျော်ပွဲ၊ ကစားပွဲ စသော ပွဲသဘင်ကို၊ နာပီ ကတဗျော၊ —မပြုလုပ်-မခင်းကျင်းရ၊ ဟိ-တားမြစ်ရခြင်း အကြောင်းကား၊ ဒေဝါနံ ပိယော ပိယဒသိ ရာဇာ မင်းတကာတို့ ချစ်မြတ်နိုး အပ်၍ ပိယဒဿီ မည်သော အသောက မင်းကြီး ကြီးသည်၊ ပဿတိ—ဉာဏ်ဖြင့် ရှု၍၊ [ပဿိတ္ဝာ ဟု ရှိရန် သင့်၏၊] သမာဇမှို-ပျော်ပွဲ၊ ယစ်ပူဇော်ပွဲ များ၌၊ ဗဟုကံ ဒေါသံ-များစွာသော အပယ် လား ကြောင်း အပြစ်ကို၊ ဒခတိ— မြင်တော်မူ၏၊ စ—အကျိုးကို ရှာရပြန်မူ၊ ဒေဝါနံ ပိယသ ပိယဒသိနော—မင်းတကာတို့ ချစ်ကြည် လေးမြတ် အပ်၍ ပိယဒဿီ မည်သော အသော က မင်းကြီးသည်၊ သာဓု—မတာ—နတ်ရွာ ရောက်ကြောင်း ကောင်း၏ ဟု သိမှတ်အပ် သော၊ ဧကစာ—အချို့ တလေမျှသော၊ သမာဇာ-ဘုရား ပူဇော်ပွဲ၊ ကျောင်း ပူဇော်ပွဲ စသော ပွဲသဘင်သည်၊ အထိ ပိ-စင်စစ် ခြွင်းချက် ထားရှိသေး၏။

ပုရာ—ဤတရား စာတော် မထားမီ ရှေး အခါက၊ ဒေဝါနံ ပိယသ ပိယဒသိနော ရာဇော—မင်းတကာ တို့ နှစ်တောင်း လေးမြတ် အပ်၍ ပိယဒဿီ မည်သော အသောက မင်းကြီး၏၊ မဟာနသမှိ—စားတော်ချက် အိမ်တော်၌၊ သူပထာယသေ—ပွဲတော်ဟင်းလျာ အလို့ငှာ သာလျှင်၊ အနုဒိဝသံ—နေ့စဉ် နေ့တိုင်း၊ ဗဟူနိ—များမြောက် လှကုန်သော၊ ပါဏ သဟဿာနိ—သားငှက် သတ္တဝါ အထောင် တို့ကို၊ အာရဘိသု—သတ်ဖြတ်ကြကုန်ပြီ၊ (သေ,— သို့မဟုတ် သော—ပုဒ်မှာ အနက် မရသာ၊ ရေးရင်းမူ၌ ယေဝ သို့မဟုတ် စေ ဖြစ်ရန် ရှိ၏)၊ ဣဒါနိ—ယခု၊ ယဒါ—အကြင် အခါ၊ အယံ ဓံမလိပိ—ဤ တရားစာ တော်ကို၊ လေခိတာ—ရေးထား အပ်ပြီ၊ တဒါ— ထိုအခါမှ၊ ဒုဝေ မောရာ—ဥဒေါင်း ၂ကောင်တို့ရင်း၊ ဧကော မိဂေါ—သမင် တကောင်ရင်း၊ တီဏိ ယေဝ ပါဏာနိ— ဤသတ္တဝါ ၃ ခုတို့ကို သာလျှင်၊ သူပထာယ—စားတော်ဟင်းလျာ အကျိုးငှါ၊ အာရဘိယံတိ—သတ်ဖြတ်အပ် ကုန်၏၊ စ—ကေန် ဝိစစ်မူကား၊ သေ (တေသု) ပိ—ထိုသတ္တဝါ ၃ ကောင်တို့ အနက်လည်း၊ မိဂေါ—သမင်ကို၊ နဓုဝေါ—နေ့စဉ်အမှန် မသတ်အပ်၊ စ—ကေန် စင်စစ်ကား၊ တောနိ ပိ တီဏိ ပါဏာနိ—ဤ သတ္တဝါ ၃ ဦးတို့ကိုလည်း၊ ပဆာ—နောက် အနာဂတ်၌၊ နအာရ ဘိ သရေ—မသတ်ဖြတ် ရကုန်လိမ့် သတည်း။

၅၊ [မှတ်ချက်၊ —ဤဆိုခဲ့သော နိဿျ နက်မျိုးကိုလည်း နားလည်သူ့ အတွက် ပိုမို၊ နားမလည်သူ့ အတွက် လည်း စင်စစ် မလိုအပ် ဖြစ်သောကြောင့် နောက်နောက် ကျောက်စာ များ အတွက် မရေးသား ပဲ ထားရှိ အံ့ သတည်း။]

## ၆၊ မြန်မာဘာသာပြန် ၁၊

### အသက်သတ်၍ ယဇ်ပူဇော်ခြင်းကိုမြစ်ချက်၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိဟု ဝှဲချီ—ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြီးမြတ်ကြီးသည် ဤမည်သော တရားစာတော်ကို (ဤ ခပိ ဂလ တောင်ထက်၌) ရေးသား တည်ထားစေတော်မူအပ်သည်၊ ဤ နိုင်ငံနယ် ဒေသ-ပတ်ဝန်းကျင်၌ တစုံ-တခုသော သား—ငှက် တိရစ္ဆာန် သတ္တဝါကိုမျှ သတ်ဖြတ်၍ ယဇ် မပူဇော်ရ၊ ထို့ပြင် [အပျော်ပွဲ, ယဇ် ပူဇော်ပွဲ, နတ်ကပွဲ စသော] ပွဲလမ်း သဘင်များကို လည်း မခင်းကျင်းရ၊ သို့တားမြစ် ပိတ်ပင်ရကြောင်းကား, မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိဟု ဝှဲချီ—ခပ်နိုပ် အရှင် မဟာကဿပ မထေရ်၏ ဗျာဒိတ်တော်ကို ခံယူရရှိသော အသောက မင်းကြီးမြတ်ကြီးသည် တရား ဉာဏ်ဖြင့် ကြည့်ရှု ဆင်ခြင်၍ ပွဲလမ်း သဘင်၌ အပြစ်များစွာ မြင်တော်မူရ၏၊ စိစစ် ခွဲခြမ်းဝေဖန်ပြယ်ကား, မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိဟု ဝှဲချီ—ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြီးကြီး၏ကောင်း၏ဟု အရေး တယူ သတ်မှတ်တော်မူအပ်သော [ဘုရား ပူဇော်ပွဲ, ကျောင်း ပူဇော်ပွဲ စသော] အချို့ အချို့သော ပွဲသဘင်များကား ရှိပေသေး၏၊ [ထိုသို့သော ကုသိုလ်ရေး ပွဲများကို မတားမြစ် ဟူလို၊] ဤတရား စာတော်ကို မရေးသားမီ, ရှေးအခါကာလ၌ မင်းတကာတို့ ချစ်ကြည် လေးစား အပ်၍ ပိယဒဿိဟု ဝှဲချီးခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြီးမြတ်ကြီး၏ စားတော်ချက် အိမ်တော်၌ ပွဲတော် ဟင်းလျာ အလို့ငှါ ထောင်ပေါင်း များစွာသော သားငှက် သတ္တဝါတို့ နေ့စဉ်နေ့တိုင်း သတ်ဖြတ် သေကြေကြကုန်ပြီ၊ ဤ ယခု တရား စာတော် ရေးသား ထားရှိပြီး အခါမှာကား ဦးခေါင်းငှက် ၂ကောင်, သမင် တကောင်, ဤ ၃ကောင်သော သားငှက်တို့သာ သတ်ဖြတ် သေကြေရကုန်၏၊ စိစစ်ပြန်လျှင်, ထိုသတ္တဝါ ၃ကောင်တို့ အနက် သား သမင်မှာ အမြဲ—မဟုတ်, ဦးခေါင်း ၂ကောင်သာ အမြဲ ဖြစ်ကုန်သည်၊ ငင်စစ် တမူကား ထို သားငှက်တို့သည် မျှ လည်း နောက်သော အခါ မသတ်ဖြတ် မသေကြေ ဖြစ်ကုန်လိမ့်သတည်း။

၇။ ဥပဒေသ။ ဤကျောက်စာကို ဖတ်ရှု စဉ်းစားလျှင်၊ အသောက မင်းတရားကြီးသည် ဗုဒ္ဓဘာသာဝင် ဖြစ်သည့်အလိုက် ဘုရားရှင်၏ ဆုံးမချက် တရားတော်၌ လေးလေးနက်နက် သက်ဝင် ယုံကြည်၍ တကယ်တန်း လေ့လာသူ ဖြစ်ကြောင်း သိနိုင်၏၊ ကျွန်ုပ်တို့လည်း ဤ မင်းတရားကြီး ကဲ့သို့ သက်ဝင် ယုံကြည်ကြသူ ဟုတ်– မဟုတ် ကိုယ့်ကိုယ်ကို စစ်တမ်းထုတ်သင့်ကုန်၏။

၈။ မှတ်ချက် ၁။ ဤကျောက်စာ၌ သတ္တဝါကို သတ်၍ ယဇ် မပူဇော်ရန် တားမြစ်ခြင်းသည် မိမိ နန်းတော်မှ စ၍ နိုင်ငံတော် အလုံး၌ သတ္တဝါများကို သတ်ဖြတ်ခြင်း နည်းပါးရန် အစ ပြုလုပ်ခြင်း ဖြစ်၏၊ ၎င်းကို ထောက်၍ သတ္တဝါ-သားငှက်များကို မသတ်ဖြတ်ရန် တားမြစ်ခြင်း ဖြစ်ကြောင်း သိအပ်၏၊ ထို စကားဖြင့် 'သားငှက်များအပေါ်၌ တရားသဖြင့် လိုက်နာ ကျင့်ဆောင်ခြင်း' ဟု ဘုရားဟောတော်မူချက် မင်းကျင့်တရားအတိုင်း လိုက်နာခြင်း ဖြစ်ကြောင်း သိရာ၏၊ ထိုစကားမှန်၏၊ အသက်ရှိခြင်း တူညီ ကြလျက် နှိပ်စက် လွှမ်းမိုးနိုင်သော အားဗလ ရှိသော လူဇာတ် ဖြစ်သည် တကား ဟု သားငှက် သတ္တဝါတို့အား တရားမဲ့ သတ်ဖြတ်ခြင်းမှာ မသင့်တော်ချေ၊ ထိုသို့ မသင့် မတော် ပြုလုပ်ခြင်းကို အမှန် အတိုင်း တားမြစ် နိုင်သူသည် အာဏာပိုင် မင်း သာ ဖြစ်လေသည်၊ ထိုသို့ အားဖြင့် အာဏာပိုင် မင်းတို့သာ ပြုစွမ်းနိုင်သော အမှုကို ပြုခွင့်၌ ပြုလုပ်သော အသောက မင်းတရား၏ အမှုမှာ အတု ယူဖွယ် ကောင်းလေစွ။

၉။ မှတ်ချက် ၂။ ဝွဲချိ စပ်နှိပ်-ဟူရာ၌ ဝွဲ ဟူသည် ဝှယ အဝှယ ဟူသော ပါဠိ ပုဒ်ပျက်တည်း၊ ဝှယ မှ ဝှယ်—ဝွှဲ—ဝွဲ—ဝွဲး ဟု ပြောင်းလဲ လာ၏၊ ၎င်းများအနက် ဝွဲ မှ ဖွဲ—ဖွဲ့—ဘွဲ့ တို့သို့ ပြောင်းလဲ လာ၏၊ ၎င်းတို့တွင် ဖွဲ့ မှာ မြန်မာ စကား တည်း၊ ဘွဲ့ မှာ ရှည်မြင့်စွာက အမှားတည်း; ဥပမာ ကပ္ပ မှ ကပ္ပါ ဖြစ်၍၊ ၎င်းမှ လောက ဝေါဟာရသို့ လိုက်သဖြင့် ကံ့ဖာ, ကံ့ဘာ ကမ္ဘာ ဟု အရေး အသား မှားယွင်း၏, သို့တည်း၊ ဝွဲ—ဗွဲ— ဟူသည် အမည်ဟု ဆိုလို၏၊ ထို့ကြောင့် ဝွဲမည် ဘွဲ့မည် ဟု ရေးသား ခေါ်ဝေါ်လျက် ရှိ၏၊ ဤနေရာ၌ ပညာရှိ U.K.D. က, 'ဝွဲချိ'၏, အစား ဝွဲချီး, သို့ မဟုတ် ဘွဲ့ချည် ခပ်နှိပ် ဟူ၍, ရေးသားသင့်သည် ထင်ပေသည်၊ ဝွဲး ဟူသည် ချီးမွမ်းသည် ဆိုလိုသည်၊ ၎င်းမှ ဖွဲ့ ဖြစ်သည်၊ ဖွဲ့ မှ ဘွဲ့ ဖြစ်လာသည်၊ ဥပမာကား ဗုရား မှ ဘုရား ဖြစ်လာသကဲ့သို့ တည်း' ဟု ဆို၏၊ ထိုစကားဖြင့် ဝွဲ ဟု မရှိသင့်, ချိ ဟု လည်း မရှိသင့် ဟု ဆိုလိုရင်းကို ပြ၏၊ ၎င်း အာဘော်မှာ 'ချီးမွမ်း ခြင်း' အနက် ဟု ဖွင့်ပြ၍ မှတ်သားချက်ကြောင့်

သာ ဖြစ်၏၊ ထို စကားမှန်၏; ဥ္ဆွဲ ဟု ရှိသင့်၏; သာစကား ဆွဲ-တွဲ ဟူသော မြန်မ
ဝေါဟာရများ ပင် ဖြစ်၏၊ ချိ—အချိ—ဟူသည် လည်း အစ ပြုခြင်း, သတ်မှတ် ပိုင်းခြာ
ခြင်း, ဆောင်ယူခြင်း—အနက်အားဖြင့် ထင်ရှားသော မြန်မာသုံး စကား ပင် တည်
ကျွန်ုပ်တို့ ဆိုလိုသော အနက်မှာ 'ချီးမွမ်းခြင်း' ဟု မဆိုလို; ဘွဲ့မည် ဟူသကဲ့သို့ ဥ္ဆွဲချီ
အမည်သတ်မှတ် ခေါ်ဝေါ်အပ်သော ဟု အနက် ဆိုလို၏၊ ထို့ပြင် ဗုဒ္ဓမှ ဘုရား ဖြ
သည်ဟု U.K.D. ဆိုချက် အရ အခန်း ၅, မဟာသိယာ သီလာ ထမ္ဘလေ ဦးဖေ
နာမ်ပါတ် ဂ-၌ ကြည့်ရှုနိုင်၏။

ဤ ဆိုလတ္တံ့ စကား ကျွန်ုပ် အလိုကျ ဘုရား အဆုံး အဖြတ်ကား—ဘုရားပုဒ်သည်
ပုဇာရဟ ဟူသော ပါဠိဘာသာပုဒ်မှ လာ၏၊ ထို့ကြောင့် ပုဂံ ရှေးကျောက်စာဟောင်
များ၌ 'ပုရှာ' ဟုရင်း 'ဖုရှာ' ဟု ရင်း 'ဘုရှာ' ဟုရင်းခေါ်ဝေါ် ရေးသားပါရှိလေသည်၊ ပုရှာ
မှာ ပုရဟာ×ပုရဟား ဟု လွယ်ကူစွာ ဖတ်ရှုတ်ခြင်းဖြစ်နိုင်၏၊ ဥပမာ—အရဟံ မှ အရှ
ရင်းမှ အရှင် ဟု ပြောင်းလွှဲခဲ့၏, ထို့ထည်း၊ ၎င်းကိုနှစ်လုံး မပြုမိကြ၍, ဥစ္စာသျှင်အနက်
ဟော အသျှင် နှင့် ရေးမှားကြ၏၊ ဥစ္စာ—ပစ္စည်း ပိုင်သူရှင်၊ အစိုးရသူအနက်ဟော ၌သာ
အသျှင် ဟူသော သာဓုတ္တကို ရေးရမည်၊ ပူဇော်ရာ အနက်ဟော ရဟန်းတို့ အမည် ရှေ့၌
ကား အရှင် ဟု သာ ရေးသားရမည်၊ ဤအရဟံ မှ အရှင် ဖြစ်လာသကဲ့သို့ပင်, ပုဇာရဟ
မှ ပုဇ်ရး ဟု ဖြစ်ခဲ့ပြီ၊ ၎င်းမှ ပူဇော်ရာ ဟူသော မြန်မာ စကားနှင့် ဇ် ကို အသံ
ပြုလုပ် ဖတ်ခြင်း အားဖြင့် ပုရား, ပုရဟ, ပုရှာ, ပုရှး ဟု အသီးသီ ဖြစ်ခဲ့ရာပြီ၊ ၎င်း ပ
ကို ဖု ဟုရွတ်ဆတ်ခြင်းမှာ ရှမ်းလူမျိုးတို့ ရွတ်လေ့ ဖြင်၏၊ ပ ကို ဗ×ဘ နှင့် ရင်း, ဥ ကို
အ နှင့် ရင်း ရွတ်ခြင်းမှာ ရည်မြင့်စွာက မြန်မာတို့ထုံးကြီး ဖြစ်၏၊ ထို့ကြောင့် ပုရားမှ
ဗုရား, ဖြား, ဗျား, ဘုရား, ဘြား, ဘျား ဟု ဖြစ်ခဲ့လေသည်; ဖြာ, ဗျာ, ဘြာ,ဘျာ ဟု
သော စကား များ လည်း ဖြစ်လာ၏။

# ဒုတိယ သိလာနုသာသနီ၊

## ၂၊ မူလပါဠိ၊

သဝတ ဝိဇိ°တမှိ ဒေဝါနံ ပြိယသ ပြိယဒသိနော ရာဉော ဧဝ 'မပိ, ယေ စ အံတာ, ယထာ စောဍာ ပံဍ°ယာ, သတိယ-ပုတော, ကေရလ-ပုတော, အာဝ တံဗပံဏီ°, † အံတိယောဂေါ နာမ ယောန-ရာဇာ, ယေ စာပိ အံခွေ တသ အံတိယောဂမာ သာမ°တာ ရာဇာနော၊ သဝတ ဒေဝါနံ ပြိယေန ပြိယဒသိနာ ရာဇ°နာ ဒွေ စိကိဆကာ ကတာ; မနုသ—စိကိဆာ စ, ပသု—စိကိဆာ စ၊ ဩသဓာနိ စ ယာနိ မနုသော' ပဂါနိ စ, ပသော'ပဂါနိ စ၊ ယတြ ယတြ နတ္ထိ, သဝတ ဟာရာပိတာနိ စ, ရောပါပိတာနိ စ၊ ဧဝ 'မေဝ မူလာနိ စ ဖလာနိ စ ယတြ ယတြ နတ္ထိ, သဝတ ဟာရာပိတာနိ စ, * ပံထေသု စ ရုခါနိ ဥဒပါနာနိ စ ရော ပိတာနိ, ခါနာ ပိတာနိ (ဥဒပါနာ နိ ရုခါနိစ ခါနာပိတာနိ ရောပါ ပိတာနိ) ပရိဘောဂါယ ပသု-မနုသာနံ။

၃၊ မှတ်ချက်—(ဥဒပါနာနိ ...... ....ရောပါပိတာနိ) ဤအကွင်းတွင်းရှိ စကားများ မှာ မူအချို့၌ ပြောင်းပြန် ဖြစ်ရှိနေသည်ကို ပြထားခြင်းမျှ ဖြစ်၏။

## ၄၊ မြန်မာဘာသာပြန် ၂၊

### ဆေးအရာနှင့် ဆေးပင် ဝါးပင်၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍၊ ပိယဒဿီဟု ဘွဲ့ချီ ခပ်နှိပ် အရှင်မဟာ ကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ—ရရှိသော အသောက မင်းတရားမြတ်ကြီး၏, အောင်မြင် အုပ်စိုးတော်မူရာ နိုင်ငံတော် တွင်း အရပ် အားလုံး၌ကဲ့သို့, ထို့အတူ အောင်မြင် စိုးပိုင်သည့် နယ်စွန် အတွင်း၌ ပါဝင် ကုန်သော စောဠတိုင်း, ပံဍျတိုင်း, သတျ-ပုတြတိုင်း, ကေရလ ပုတြတိုင်း, တမ္ဗပဏ္ဏိတိုင်း အထိရင်း, အံတိယောဂ

---

† ဂရိုက်ပြည် ဆိုင်အိုနီးစ် နယ်ကို အစိုးရသော Antio chos— အန္တိ°ယောခေါ့ခ် အမည်ရှိမင်းကို ရည်၍ အံတိယောဂ ဟု ရေးသား ထားဟန် ရှိ၏။—U.K.D.

† မှတ်ချက်၊ ၊ရာမဝတီသရ သမ္ဘူ ဆိုသူ ဒေဝနာဂရီ အက္ခရာဖြင့် ပုံနှိပ်ထားသော အသောက ကျောက်စာ၌မူကား— မဒေသု လုခါနိ လောပိတာ, ဥဒပါနာနိ စ ခါနာပိတာနိ ပဋိဘောဂါယ ပသု-မုနိသာနံ ဟူ၍ မာဂဓ ပါဠိ ပေါကျသော မှန်ကန်စွာနှင့် ရှိ၏၊ ၎င်းကို မာဂဓ—ပါဠိ အစစ် အမှန် ပြန်ဆိုလျှင်,- မဂ္ဂေသု ရုက္ခာနိ ရောပိတာနိ, ဥဒပါနာနိ စ ခဏိတာနိ ပဋိဘောဂါယ ပသု မနုဿာနံ—ဟု ပြန်ဆိုရာ၏။— U.K.D.

အမည် ရှိသော ယောနက မင်းနှင့် ကကု ထိုမင်း၏ လက်အောက် ဖြစ်ကုန်သော သာမန္တရာဇ် မင်းတပါးတို့ နိုင်ငံ၌ ၎င်း, အလုံးစုံသော ဤတိုင်းနိုင်ငံ ဒေသတို့၌ မင်းတကာတို့ ချစ်ကြည် လေးစား အပ်၍ ပိယဒဿီ ဟု ဗွဲ့ချီ-ခပ်နိပ် အရှင် မဟာကဿပ မထေရ်—မြတ်၏ ဗျာဒိတ်တော် ကို ခံယူ—ရရှိသော အသောက မင်းတြားမြတ်ကြီးသည် လူ ဆေးကု ဆရာ,တိရစ္ဆာန် ဆေးကုဆရာ ဟု ဤသို့ ၂ မျိုး ၂ စားသော ဆေးဆရာတို့ကို တည်ထောင် ထားရှိတော် မူအပ်ကုန်၏။

ထို့ပြင့်,လူတို့အား ၎င်း, တိရစ္ဆာန် သား-ငှက်တို့အား ၎င်း, အသုံး ဝင်သော ဆေးပင်—ဝါးပင် တို့ကို လည်း ထိုထို မရှိ—ကင်းမဲ့ရာ အရပ် တိုင်း၌ ဆောင်ယူ စိုက်ပျိုးစေအပ်ကုန်၏၊ ဤ အတူလျှင် မရှိ—ခေါင်းပါးသော အရပ်-ဒေသတိုင်း၌ သစ်မြစ်-သစ်ဥနှင့် သစ်သီးပင်တို့ကို လည်း ဆောင်ယူ စိုက်ပျိုး စေအပ်တုန်၏၊ ထို့မှ တပါး လည်း ထိုထို ခရီးလမ်း တို့၌ သား—ငှက် တိရစ္ဆာန်နှင့် ခရီးသွားသူ လူတို့ နားခို မှီဝဲ—သုံးဆောင်စေရန် သစ်ပင် အစားစား စိုက်ပျိုး ထားရှိစေ၍ ရေတွင်း ရေကန် တို့ကို လည်း တူး—ဆယ်တည်ထားစေအပ်ကုန်၏။

၅၊ ဥပဒေသ—ဤ ကျောက်စာကို ကြည့်ရှု ဆင်ခြင်ခြင်းဖြင့် အသောက မင်းတြား၏ စိုးပိုင်တော် မူသော တိုင်းပြည်ရုံ ပမာဏကို သိနိုင်၍, ၎င်းမင်း၏ သုတ္တန် ဒေသနာ အရ, တိုင်းနေ—ပြည်သူတို့ အကျိုး, သား—ငှက် တိရစ္ဆာန် တို့ အကျိုးကို မည်မျှ လေးနက်စွာ ကျင့်ဆောင်ကြောင်း ထင်ရှားလှပေသည်၊ ၎င်းဖြင့် မင်းစိုးတို့ မည်သည် မိမိ ကဲ့သို့ တိုင်းနေ—ပြည်သူတို့၏ ၎င်း, သား-ငှက်တို့၏ ၎င်း အကျိုး—စီးပွား တို့ကို ကျင့်ဆောင်ရာသည်, ဟု နည်းညွှန် လမ်းပြ ဆုံးမ တော် မူ၏—ဟု သိနိုင်၏၊ ထို့ပြင်,ဤ ကျောက်စာ အရ အသောက မင်းတြားလက်ထက်တော်က သူနာ ကုသရာ ဆေးရုံနှင့် ဆေး ဆရာများ တည်ထောင် ထားရှိကြောင်း ထင်ရှား၏၊ ဗာရာဏသီ နယ် မိဂဒါဝုန် အရပ်ရှိ အသောက ကျောင်းကြီး၏ အရှေ့တောင်ဖက်တွင် ထို ကျောင်းဆိုင်ရာ ရဟန်းတော်များ အတွက် ဆေးရုံ အပိုင်း အခန်းကြီးတခု ထင်ရှား ပေါ်လွင်လျက် ပင် ရှိ၏၊ ၎င်းဖြင့် လည်း နောက်သား တို့ စံနမူနာ ယူရန်ကို ပင် ညွှန်ပြ၏။

၆၊ မှတ်ချက် — စောဠတိုင်း ဟူသည် ကိုရိုးနယ် ပတ်ဝန်းကျင် အရပ် ဖြစ်၍ တြိကျဲ့နာပလ္လိ အရပ် အနီးမှာ ဥဒယ—ပူရ ခေါ် မြို့တော် ဖြစ်ခဲ့လေပြီ။

ပဉ္စ တိုင်း ဟူသည် တမိလတို့ အရပ်ဌာန တောင်ဖက် အကျဆုံး အပိုင်း ဖြစ်၍ ဖြစ်ဥဒေသ ခေါ် ယခု ပဋ္ဌကျ မဒြာသ်နယ် အနီး မဒုရာနှင့် တိနိဝိလ္လိ နယ် ဖြစ်လေသည်၊ ၎င်း၏ မြို့တော်မှာ မဒုရာ, သို့မဟုတ် မထုရာ ဖြစ်လေပြီ။

သတျ ပုတြ-သတိယပုတ်အရပ်ကား ကဠိ (ကာဂျီဝါသ်) အနီး အပါး အရပ် ဖြစ်သင့်၍, ၎င်းကို သတျဝရတ် ဟူ၍ လည်း ခေါ်၏။

ကေရလ ပုတြ-ကေရလပုတ် အရပ်ကား မာရဝါ၏ အရပ်ရှိ သမုဒြာကမ်း တလျှောက် ဖြစ်လေသည်။ ။ဤ ဆိုခဲ့ပြီး နှစ်ပုဒ်တို့တွင် ပါဝင်သော ပုတြ သဒ္ဒါသည် ထို၌ နေသူကို မှုချအားဖြင့် ဟော၍, ဒေသ ဟူသော အနက်ကိုကား အမိ-အဖ တို့ကို ဥပစာ ပြုလုပ် ထားလေသည်။

"တံဗ ပဏ္ဏိ တိုင်းကား အချို့သူတို့ ကြံစည် တွေးတော ကြသည့် အတိုင်း ဒက္ခိဏဒေသရှိ မြစ်ငယ်မျှ မဖြစ်သင့်၊ ဤ အရာ၌ တမ္ဗပဏ္ဏိ မှာ သီဟိုဠ်ကျွန်းသာ ဖြစ်၏၊ ဂိရနာရ အရပ်ရှိ ကျောက်စာ ပါဠိ၌ အာတမ္ဗပဏ္ဏိ ဟူသော စကားပါရှိရာ, အဓိပ္ပါယ်မှာ ဤနေရာမှ သီဟိုဠ်ကျွန်း အထိ ဟု 'အာ' ၏ ပြန့်နှံ့ခြင်း အနက်ကို မှတ်ယူရာ၏" ဟု ဤသို့ ဟိန္ဒီ ဘာသာပြန် ဆရာတို့ ဆိုသော်လည်း သီဟိုဠ်ကျွန်းကို အသောကမင်း ပို့စိုးကြောင်း ပိဋက အဋ္ဌကထာများ၌ မလာ, မဟာဝင်၌လည်း မရှိသော ကြောင့် ကျောက်စာ ပညာရှိများ ကြံစည် ယူဆချက် အတိုင်း ဒက္ခိဏဒေသရှိ မြစ်ပတ်ဝန်းကျင်ကို ပင် ယူအပ်၏။

# တတိယသိလာ နုံသာသနီ

## ၃၊ မူလပါဠိ၊

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ ဝေံ†အာဟ (တိ); ဒုဝါဒသဝသာ' ဘိသိ—
တေန မယာ အယံ အာဏာပယိတေ၊ သဗ္ဗတ္ထ ဝိဇိတေ မမ ယုတာ—လူဇု ကေ စ
ပဒေသိကေ စ ပံစသု ပံစသု ဝဿေသု†အနုသံယာနံ နိခမံတု, ဧတာယေဝ အဿယ,
အံနာယေ ပိ ကံမနေ၊ ဝေံ ဣမာယ ဓံမာ' နုသထိယာ ယထာ အံနာယေ ပိ ကံမနေ
သာဓု မာတာ—ပိတိသု သုသူသာ, မိတ—သံထုတ—နာတီသု စ,ဗြာဟ္မဏ—သမဏာနံ
သာဓု ဒါနံ, ပါဏာနံ သာဓု အနာရံဘော, သာဓု အပဗျယတာ အပဘံဍတာ၊
သာဓု၊ ပရိသာ ပိစ ယုတေ အာညပယိသတိ, ဂဏနသိ ယုတာနိ ဂဏနာယံ
အာဏာပယံ သတိ, ဟေတုတော စ ဝိယံဇနတော စ။

၄၊ မှတ်ချက်၊ ၊အာဟ—ကို ပါဠိ—သက္ကဋဗျာကရဏ်းများ၌ အတိတ်ကာလ
သာ ရုပ်ရှိကြောင်း အဆိုများ၏၊ ပါဏိနိ—၁၊၄၊၈၄၌ 'အာဟ'၏ ပစ္စုပ္ပန်—အတိတ်
ရုပ် ၂ မျိုး ဆို၏၊ နိယာမ် ဆရာတို့ကား 'ဣဒါနိ အာဟ၊ ရှိက ကေန်၊ ပစ္စုပ္ပန်၊ အမှန်
အာဟ ဟောမြဲ တည်း' ဟု ဆိုကြ၏၊ သို့ရာတွင်; 'သဟာဗာဇဂ၀' အရပ်ရှိ
ကျောက်စာမူ၌ 'အဟတိ' ဟု ပင် ရုပ် ရှိ၏၊ ထို အခါက ထို အရပ်သုံး ပါဠိဘာသာ
ထုံး ဟု သာ မှတ်ဖွယ်ရှိ၏၊ အနုသာယာနံ ဟု ကာလသီ, ဓောဂဍ, ဓောလီကျောက်စာ
မူများ၌ ရှိ၏၊ အနုသံယာနံ ဟု ဂိရိနာရ မူ၌ ရှိ၏၊ အနုသံယနံ ဟု သဟ ဗာဇဂဝ
နှင့် မာနသေရာ မူတို့၌ ရှိ၏၊ အချို့ သက္ကဋ—ဟိန္ဒီ—ဘာသာများ၌ အနုသန္ဓာန ပုဒ်နှင့်
အနက် ပြန်ထားကြ၏၊ ပါဠိလိပုတ် မြို့သား ရာမာဝတာရ ထမှ အမည်ရှိ ကျောက်စာ
ပညာရှိကမူကား အနုသံယာန ပုဒ်နှင့် အနက် ပြန်ထား၏၊ လှည့်လည်ခြင်း အနက်
ဟော အနုသံယာနံ ပုဒ်ကိုသာ သဒ္ဒတ္ထယုတ္တိ ရှိ၍ ကျွန်ုပ်တို့ နှစ်သက်ကုန်၏။

# ၅။ မြန်မာတာသာပြန် ၃။

## ငါးနှစ် တကြိမ် နယ်လှည့် တရားဟောထွက်စေခြင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိ ဟု ခံ့ညားခဲ့ဖွယ်ရှိ အရှင် မဟာကဿမ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းကြီးမြတ်ကြီး မိန့်ပြန့်တော်မူသည်။ ငါ ဘုရင် မင်းကြီးသည် အဘိသိက် သွန်း၍ တဆဲ့နှစ်နှစ် အခါ ဤတရား စာတော်ကို ထုတ်ပြန်တော် မူအပ်သည်။ တိုင်းနိုင်ငံတော် အလုံး၌ရှင်း, ငါမင်းကြီးနှင့် စပ်ဆက်သည့် လက်အောက် ဘုရင်ခံတို့ အုပ်စိုးရာ ဝန်ဆာမ်း နိုင်ငံတော အလုံး၌ ရှင်း, လက်အောက် မဟာရာဇာ—စော်ဘွားတို့ အုပ်စိုးရာ ပဒေသရာဇ် နိုင်ငံတော် အလုံး၌ ရှင်း ငါးနှစ်-ငါးနှစ်လျှင် တကြိမ် တကြိမ်ကျ တရားတော်ကို နိုင်ငံတော်၌ ကျင့်ဆောင် လိုက်နာကြစေရန် တရား-ဓမ္မ ညွှန်ပြ ဟောပြောရေး အတွက် ရှင်း, ထိုမှတပါးသော ပုညကြိယာများ အတွက် ရှင်း, နယ်လှည့် ထွက်ကြစေကုန်။ ဤတရားတော် ဆိုင်ရာ သြဝါဒနှင့် အလားတူပင် တရားတော်နှင့် ပတ်သက်ရာ အခြားအမှုများ၌လည်း ပြုကျင့် လိုက်နာကြစေကုန်။ ရှင်းတို့ကား—အမိ-အဘတို့နှင့် အဆွေ-ခင်ပွန်း ချစ်ကျွမ်းဝင်သူ, ဆွေမျိုး ဉာတိတို့၏ အဆုံး-အမကို နားထောင်-လိုက်နာခြင်းသည် (ပစ္စုပ် တမလွန် ချမ်းသာကြောင်း) ကောင်းလှ၏။ ရဟန်း-ပုဏ္ဏားတို့အား လှူဒါန်းခြင်းသည် လည်း (နတ်ရွာ နိဗ္ဗာန် ရရောက်ကြောင်း) ကောင်းလှ၏။ သတ္တဝါတို့ကို မညှဉ်းဆဲ မသတ်ဖြတ်ခြင်းသည်လည်း (ဘေး-ရန် ဥပဒ် မကပ်ရကြောင်း) ကောင်းလှ၏။ အကုန်-အကျ မများစေပဲ, ချွေတာသုံးစွဲခြင်း,အသုံးအဆောင် ပစ္စည်း-ပရိက္ခရာ နည်းပါးခြင်းသည်လည်း(ဤပစ္စက္ခ ကြောင့်ကြမျှ မရှိ နေရကြောင်း) ကောင်းလှ၏။ (ဤ ထုတ်ပြန်ချက် တရား-အမိန့်တော်ကို သိရှိကြားနာသူ) ပရိသတ်များကလည်း မိမိတို့နှင့်ဆိုင်စပ်ရာ၌ အမိန့်ပြန်ကြားကြစေ၊ အသင်း အပင်း၌ စပ်ဆိုင်သူများလည်း ဆိုင်ရာအသင်းအစု၌ အကြောင်းချုပ်အားဖြင့်ရှင်း, အကျယ် ဝေဖန်ခြင်း အားဖြင့် ရှင်း အမိန့်ပြန်ဆိုကြစေ။

၆။ ဥပဒေသ။———ဤကျောက်စာကို ကြည့်ရှု-တွေ့မြင်ရခြင်းဖြင့် အသောက မင်းကြီးသည် ကိုယ်တော်မြတ် အသား ဖိုင်နိုင်ငံ-သူတို့ကိုလည်း တရားကျင့်ရန်

အထူး လိုလားတော်မူကြောင်း နှင့် ၎င်းက ကျင့်ရန် ညွှန်ပြချက် တရားများသည်လည်း အလွန်ကောင်းမွန်သည့် ကြီးမားသောအကြောင်းတို့ ဖြစ်ကြသည်ဟု သိနိုင်၏၊ ၎င်းဖြင့် ယခု ဗုဒ္ဓ ဘာသာဝင်တို့လည်း မိမိတို့ဩဇာ ပြန့်နှံ့ရာအရပ် အသီးအသီး၌ တရားတော်နှင့်အညီ ကျင့်ဆောင်ရေးတွင် တိုက်တွန်း နှိုးဆော်ရမည်ကို ညွှန်ကြားလေသည်။

မှတ်ချက်၊ ဤ ကျောက်စာ၌ ချွေတာရေးနှင့် အသုံးအဆောင်ပရိက္ခာရာ နည်းပါးစေရန် ဆုံးမချက်များမှာ 'သန္တုဿကော စ သုဘရော စ အပ္ပကိစ္စော စ သလ္လဟုကဝုတ္တိ' ဟူသော ပါဠိတော်လာ ဘုရား ဩဝါဒများနှင့် ညီညွတ်စွာ ဖြစ်၏၊ သို့ရာတွင်, ကျောက်စာ ဩဝါဒမှာ ထို လက်ထက် ထိုအခါ၌ အခါ ပင် အပို အလွန် ဖြစ်သော အသုံး - အဆောင် ပရိက္ခာရာနှင့် အပို - အလွန် သုံးစွဲ ဖြုန်းတီးခြင်းများ မဖြစ်ကြရန် ဆုံးမခဲ့ကြောင်း ဆို၏၊ ထို့ကြောင့် ယခု-အခါ ကဲ့သို့ ခေတ်ကြပ်ကြီး၌ ကြုံကြိုက်ရသော သူတို့အတွက် ချွေတာရေးနှင့်အသုံး-အဆောင် ပရိက္ခာရာ နည်းပါး လျော့ပေါ့စေရေးမှာ ဆိုရာ မရှိ,အားကြီး လိုက်နာသင့်တော့လေ၏။ ထို စကားတွင် အပဗျယတာ - အကုန် အကျ မများခြင်း ဟူသော စကားဖြင့် ပကတိ ဥစ္စာ ဝင်လမ်း မရှိသူကို မဆိုလို၊ ဝင်ငွေကား ပစ္စည်း ဝင်ခွင့် အမြဲ ရှိနေသူ့အား မင် အပို အမို မကုန်ကျစေပဲ, လိုသမျှ, မရှိလျှင် မပြီး - ဆိုရသော အရာကိုသာ ကုန်စေရ-မည်, သို့မဟုတ် ကုန်ကျသဖြင့် အကျိုး ထင်ထင် ရလောက်ရာ၌ သာ ကုန်စေ ရမည် ဟု ပြ၏၊ အပ ဘဏ္ဍတာ - အသုံး - အဆောင် နည်းပါး စေခြင်း ဟူသော စကားဖြင့် လည်း ထို့ အတူ အိမ်ထောင် - ပရိဘောဂ အဝတ် - အစား စသည် များစွာ ဖြစ်စေ ခွင့်ရှိသော သူ့အား ပင် အတော် - အသင့် ဖြစ်စေရမည်ကို ပြဆို၏၊ လိုရင်း ကိစ္စ မဟုတ်ရာ၌ ကုန်ကျခြင်းမှာ ဆင်းရဲကြောင်း ဖြစ်သောကြောင့်တည်း။

# စတုတ္ထ သီလာ နုသာသနီ၊

## ၄၊ မူလပါဠိ၊

အတိကာတံ အတရံ ဗဟူနိ ဝါသသတာနိ ဝဎိတော ဧဝ ပြာဏာရံဘော, ဝိဟိံသာ စ ဘူတာနံ, ဉာတီသု အသံ—ပြတိပတီ, သမဏ—ဗြာဟ္မဏာသု အသံ ပြတိပတီ၊ တေ အဇ ဒေဝါနံ ပြိယသ ပြိယဒသိနော ရာညော ဓံမ-စရဏေန ဘေရီဃောသော; အဟော ဓံမဃောသော၊ ဝိမာန ဒသနံ စ ဟတ္ထိ ဒသနံ စ အဂိ(ဇောတိ)ခံဓာနိ,အံ—ညာနိ စ ဒိဗျ—ရူပါနိ ဒသယိတွာ (တု) ဇနံ၊ ယာဒိသော ဗဟူဟိ ဝါသသတေဟိ န ဘူတ—ပုဗ္ဗေ, တာဒိသေ အဇ ဝဎိတေ,ဒေဝါနံ ပြိယသ ပြိယဒသိနော ရာညော ဓံမ-နုသဋိယာ၊ အနာရံဘော ပြာဏာနံ, အဝိဟိံသာ ဘူတာနံ, မာတာ—ပိတီသု သု-သူသာ, ထေရ (ဝုဍ္ဎ)သု သုသူသာ, ဧသေ စ အညေ စ ဗဟုဝိဓေ ဓံမ—စရဏေ ဝဎိတေ, ဝဎယိသတိ ဧဝ၊ ဒေဝါနံ ပြိယော ပြိယ—ဒသီ ရာဇာ ဣဒံ ဓံမ-စရဏံ၊ပုတ္တာ ပိ ပုတ္တာ စ နတ္တာရော စ ပနတ္တိကာ (စ) ဒေဝါနံ ပြိယသ ပြိယဒ-သိနော ရာညော ပဝဎယိသံတိ (ဃော၀) ဓံမ—စရဏံ၊ ဣဒံ အာဝ (အာဝ) ကပ္ပံ ဓံမမှိ စ တိဋ္ဌံတာ၊ ဓံမံ အနုသာသိသံ†·တိ၊ ဧသ ဟိ သေဋ္ဌေ ကမံ, ယံ ဓံမာ နုသာ-သနံ၊ ဓံမ-စရဏံ ပိ စ န ဟောတိ အသီလသ၊ သေ ဣမမှိ အတ္ထမှိ ဝဍ္ဎိ စ အဟီနိ စ သာဓု; ဧတာယ အဋ္ဌာယ ဣဒံ လိခါပိတံ၊ ဣမဿ အတ္ထဿ ဝဍ္ဎိ ယုဇံတု, ဟီနိ စ မာ အာလောစယိံသု၊ ဒွါဒသဝဿာဘိသိတ္တေန ဒေဝါနံ ပြိယေန ပြိယဒသိနာ ရညာ လေခါပိတံ။

၅၊ [မှတ်ချက်၊ †မူအားလုံး၌ ပင် 'အနုသာသိသံတိ' ဟု ရှိကြ၏; တိဋ္ဌံ ထိုကို ထောက်၍ ၎င်း၊ အဋ္ဌကထာတရကို ကြည့်၍ ၎င်း; အနုသာသိ ယန္တု ဟု နေသင့်ကြောင်း သိသင့်ကုန်၏၊ သမဏ ဗြာဟ္မဏာနံ-ဟု ခေါလိမ့် တခု၌ သာ ရှိ၏၊ အခြားမူတို့၌ ရေး အတိုင်း ဝိ၏။]

# ၆၊ မြန်မာဘာသာပြန်၊ ၄၊

## တရားကြွေးကျော်ချက်၊

ရာပေါင်း များစွာသော နှစ်တို့ ပတ်လုံး သေးငယ်သော သတ္တဝါတို့ကို သတ်ဖြတ်ခြင်း, ကြီးမားသော သတ္တဝါတို့ကို ညှင်းဆဲခြင်း, ဆွေမျိုး–ဉာတိတို့၌ ဝတ်တရား ကြေလည်အောင် မကျင့်ဆောင်ခြင်း; ရဟန်း-ပုဏ္ဏား-သူတော် သူမြတ်တို့ အပေါ်၌ တရား နည်းကျ မကျင့်ဆောင်ခြင်း–ဤမကောင်းမှု တရားအားလုံး တိုးပွား ပြန့်စည်လျက် သာ အသက် အပိုင်းအခြား ကာလကို ကုန်လွန်-ပြန့်တီးခဲ့လေပြီ၊ ထို့ကြောင့် ယနေ့ ယခုအခါ မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ချီ ခတ်နိုင်, အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းကြီးမြတ်ကြီးသည် ကိုယ်တော်တိုင် တရားတော်ကို ကျင့်ဆောင် ကိုက်နာခြင်းဖြင့် တရားစည်ကြီး ရိုက်တီး ကြွေးကျော်လိုက်သည်; တရားတော် ဟူသော ကြွေးကျော်သံသည် အော်! အဖန်ဖန် ဝမ်းမြောက်စဖွယ် ဖြစ်စွာ့တကား!။

ဤ လောက၌ ထိုထို ရှုမခန်းသော ဘုံနန်း-ဗိမာန် အထွေထွေကို ကြည့်ရှု-ရှင်ပျရခြင်း; တန်းဆာ အတင့်-အတယ် ဆင်ယဉ်ထားသော ဆင်ယာဉ်-မြင်းယာဉ်စသည်ကို ကြည့်ရှု ချမ်းမြေ့ရခြင်း, အတင့်အတယ် ထွန်းညှိ ရှို့မြှိုက်သော မီးပန်း, မီးပုံတုန်း, မီးပန်းဆိုင်-မီးစု မီးတောက်ကို ကြည့်ရှု နှစ်သက်ရခြင်း, (ဤသို့ စသည်ဖြင့်) ဤမှ တပါး များစွာသော ရှင်ပျ ပျော်မွေ့ဖွယ် ဝတ္ထု အာရုံတို့ကို ကြည့်ရှုကြ၍, (အချိန် အခါ ကုန်ဆုံးကြသော) လူ အပေါင်းတို့အား မင်းတကာတို့ ချစ်ကြည်-လေးစားအပ်၍ ပိယဒဿီ ဟု ဝှဲ့ချီ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ရရှိသော အသောက မင်းကြီးမြတ်၏, တရား အဆုံး-အမ စာတော်ဖြင့် ရာပေါင်း များစွာသော ကာလပတ်လုံး ရံခါ တဆစ် မဖြစ်ပေါ်ဘူးသော တရားတော်ကို ကျင့်ဆောင်ခြင်း အခွင့်ကြီးမှာ ယခု အခါ တိုးတက် ပြန့်ပွားဆဲ ရှိလေသည်။

သတ္တဝါတို့ကို မသတ်ဖြတ်ခြင်း, ထင်ရှား ဖြစ်သော သတ္တဝါတို့ကို မညှဉ်းဆဲ မနှိပ်စက်ခြင်း, မိခင်-ဘခင် ကျေးဇူးရှင်တို့ စကားကို နာထောင် လိုက်နာခြင်း, အသက် ဂုဏ်အားဖြင့် ကြီးမြတ်သူတို့ အဆုံး-အမကို လိုက်နာ ကျင့်ဆောင်ခြင်း– ဤသို့ခဲ့ပြီး တရား ကျင့်ဝတ်တို့ကိုရင်း, ဤမှ တပါး မြောက်မြားစွာသော တရား ကျင့်ဝတ်တို့ကိုရင်း, ဤသို့ အားဖြင့် တရား ကျင့်ဝတ်တို့ကို တိုးတက် ပွားစည်းအောင် ကျင့်ဆောင် လိုက်နာ

ကြလျှင်, အနာ-ရောဂါ ကင်း၍, ကျန်းမာခြင်း, ဥစ္စာ-ပစ္စည်း တိုးတက်ခြင်း စသည်ဖြင့် ကြီးပွား တိုးတက် ကြရလိမ့်သတည်း၊ ဤသည်ကား မင်းတကားတို့ ချစ်ကြည် လေးစား အပ်၍, ပိယဒဿီ ဟု ဝှဲချီ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းတြားမြတ်ကြီး၏, တရား ကျင့်ဝတ်များ ဖြစ်၏။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲချီ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူရရှိသော အသောက မင်းတြား မြတ်ကြီး၏, သားတော် အစဉ် မြေးတော် အဆက်, မြစ်တော် အညွန့်တို့သည်လည်း (ငါ မင်းတြား၏,) ဤတရား ကျင့်ဝတ်များကို ကျင့်ဆောင် ဆင့်ပွား ကြကုန်စေသတည်း၊ ဤ ငါး၏, တိုင်းပြည် အလုံးသည် ကပ္ပါ အားလုံး အာယုကပ် ဆုံးသည် တိုင်အောင် တရား ကျင့်ဆောင်၍, သီလ၌ လည်း တည်ကြကုန်စေသတည်း၊ ဤ ငါမင်းတြား၏, တရား ကျင့်ဝတ်တို့ကို အဖန်ဖန် ဟောကြား ညွှန်ပြ ဆုံးမ ကြစေသတည်း၊ ဤသို့ တရား ကျင့်ဝတ်တို့ကို ဆုံးမ ကန့်မြစ်ခြင်းသည် သာလျှင် ပစ္စုပ္ပန် တမလွန်၌ တိုးတက် ကြီးပွားကြောင်း ဖြစ်၍, မြင့်မြတ်သော မင်းတို့ ကိစ္စ ဖြစ်သတည်း။

(ဤလောက၌) အကျင့် သီလ မတည်ရှိသော သူအား တရား ကျင့်ဝတ်မျှ ပင် မရှိနိုင်ချေ၊ ထိုသို့ ဖြစ်ရကား ဤဆိုခဲ့ပြီး တရားတည်ထောင်ရေး ကိစ္စကြီး၌ တိုးတက် အားထုတ်, မဆုတ် မယုတ် မလျော့ပေါ့ခြင်းသည် ပစ္စုပ္ပန် တမလွန် ၌ တိုးတက် ကြီးပွား ဖွယ် ဖြစ်၍, ကောင်းမွန်လှလေသတည်း၊ ဤသို့သော တရားအကျင့်ဖြင့် ဤမျှသော တိုးပွားခွင့် အလို့ငှါ သာလျှင် ဤ တရား စာတော်ကို ရေးသား တည်ထားခဲ့သတည်း၊ ဤဆိုခဲ့သော စီးပွား မျှော်လင့် တရား ကျင့်ရေး ကိစ္စကြီး၏, ကြီးပွား တိုးတက်ရေးကို သာ အားထုတ် ကြိုးပမ်းကြကုန် စေလသော်၊ ထိုသို့ မဟုတ် ဆုတ်ယုတ် ပျက်ပြားရန် မနှစ်မြို့ကပ်ပဲ, ဖြစ်ကြကုန်စေလသော်၊ အဘိသိက် သွန်းခတော်မူ၍, တဆဲ့နှစ်နှစ်မြောက် ရှိသော အခါ မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲချီ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်း တြားမြတ်သည် ဤတရား စာတော်ကိုရေးသား တည်ထားစေအပ်သတည်း။

၇၊ ဥပဒေသ၊ ။ဤအရေး ကျောက်စာကို ဘတ်ရှုခြင်းဖြင့် အသောက မင်းတြာ
မြတ်ကြီးသည် မိမိ သက်ဝင် ယုံကြည်သော ဗုဒ္ဓဘာသာ တရားတော်၌ မည်မျှ လေးနက်စွာ
သက်ဝင် ယုံကြည် ရှိကြောင်း, ထိုသို့သော တရားကို မကျင့် မဆောင်ကြ၍ သာ လောက
ဆုတ်ယုတ်ကြောင်း, သို့ ကျင့်ဆောင်လျှင်, လောကကြီး ကောင်း ကြီးပွားကြောင်း အလ
ယုံကြည်၍., ထို သို့သော တရားကောင်းနှင့်, ဝေးကွာ ကင်းလွတ်ခဲ့သော အခါ ကာလ
များကို လည်း နောင်တ ရတော်မူလျက်, ထို့အတိုင်း လည်း လိုက်နာရန် လေးလေ
နက်နက် တိုက်တွန်းတော် မူခဲ့လေသည်၊ ဤ တရားများဖြင့် ကျွန်ုပ်တို့ နောက်နောက်
ဗုဒ္ဓဘာသာဝင်များအား လည်း မိမိ ကဲ့သို့ တရား ကျေးဇူးကို သိရှိ ကျင့်ဆောင်ကြရန်
ညွှန်ပြသည်။

ထို့ပြင်, တရား ကျင့်ခြင်းသည် အနာရောဂါ ကင်းလွတ်ခြင်း ဟူသော ကျန်း
မာရေးနှင့် ဥစ္စာ စီးပွား တိုးတက်ရေးကို လည်း ဖြစ်စေသည် ဟု ညွှန်ပြထား၏၊ ၎င်းဖြင့်
လောက၌ ချမ်းသာ ကြွယ်ဝ-လိုသော် ၎င်း, ရောဂါ ဥပဒ် ကင်းစင်လိုသော် ၎င်း တရား
အကျင့်ကို သာ အားထုတ်ကြ ဟု အသောက မင်းတြား အလိုကို ညွှန်ပြ၏၊ ဗုဒ္ဓဘာသာ
ဝင်ဟူသမျှကား ဤ ဩဝါဒကို သဘော မကျ ဟု ငြင်းပယ်မည့် သူ မရှိရာ၊ အကြောင်းကား
တရား ကျင့်ဆောင်ခြင်း ဟူသည် သူ့ အသက်ကို မသတ်ဖြတ်ခြင်း, သူ့ ဥစ္စာကို မခိုးယူခြင်း,
စသည် ဖြစ်၍ထိုအတိုင်း လိုက်နာ ကျင့်ဆောင်ကြလျှင် လောက နေသူတို့ ရောဂါ ဥပဒ်
ကင်းရှင်းရေး, စီးပွား ဥစ္စာ တိုးတက်ရေးမှာ ထင်ရှားလှလေ၏၊ ဗြာဟ္မဏ ဓမ္မိက သုတ်၌
နွားကျဲ့ကို သတ်ဖြတ် စားသောက်သော အခါမှ စ၍, ဤလူ့ပြည်၌ ရောဂါမျိုး ၉၈-ပါး
ထိုက်ရောက်လာသည် ဟု ဘုရားဟောလေသည်။

၈၊ မှတ်ချက်။ ။ဤကျောက်စာတွင် ဝိမာနဒဿနံ စ ဟတ္ထိဒဿနံ စ အဂ္ဂိခန္ဓါနိ,
အံ့နာနိ စ ဒိဗျာနိ ရူပါနိ ဒဿယိတွာ ဇနေ ယာဒိသေ ဗဟူဟိ ဝဿသတေဟိ န ဘူတ-ပုဗ္ဗေ,
တာဒိသော အဇ ဝဍ္ဎိတေ ဒေဝါနံ ပိယဿ ပိယဒဿိနော ရာညော ဓမ္မ နုသဋိယာ-ဟူသော
စကား၏ အဓိပ္ပါယ်ကို-'ဤ နိုင်ငံတော်၌ ထိုထို ရှုမငြီးသော ဘုံနန်း ဗိမာန် အတွေ
ကို ကြည့်ရှုရှင်ပျခြင်း, တန်ဆာ အတင့်-အတယ် ဆင်ယင်ထားသော ဆင်ယာဉ်
မြင်းယာဉ် စသည်တို့ကို ကြည့်ရှု ချမ်းမြေ့ ရခြင်း,အတင့်-အတယ်ရှိ ပြိုက် ထွန်းညှိသော

မိးပန်း, မီးပိတုန်း, မီးပန်းခိုင်, မီးစု-မီးတောက်တို့ကို ကြည့်၍ နှစ်သက်ရခြင်း ဤသို့ သောဖြင့် ဤမှ တပါး များစွာသော ရှင်ပျ ပျော်မွေ့ဖွယ် ဝတ္ထုအာရုံတို့ကို လည်း တိုင်းနိုင်ငံသူတို့အား ကြည့်ရှုကြစေ၏၊’-ဟု ပြန်ဆို၍, ‘ဤစကားရပ်ဖြင့် တရားသဖြင့် စိုးအုပ် တော်မူခြင်းကြောင့် နိုင်ငံတော်ကြီး စည်ပင် သာယာစွာ ရှိသည်ကို ဖော်ပြသည်’-ဟု ပညာရှိ U. K. D. က ပြင်ဆင်ရန် အလိုရှိလေသည်။

ရှင်း U. K. D. ၏ ထိုသို့ ပြန်ဆိုလိုသော အာခေတ်မှာ ‘ဒသယိတွာ’ ဟူသော ပုဒ်၌ မူအချို့တွင် ‘ဒသယိတု’ ဟု ရှိနေသောကြောင့် ဖြစ်၏၊ ပါဠိသွား အတိုင်း ကျောက်စာ—ပါဠိအရ ဆိုလျှင် အသင့် ဟု ပင် ဆိုရန် ရှိ၏၊ သို့သော်, ကျွန်ုပ်၏ အလိုမှာ, ထိုထို ပွဲလမ်း သည်ကို ရှုကြည့်ခွင့် မပြုပဲ, မင်းစိုးတို့က တားမြစ်ထားရသည် ဟု လောကထုံး မရှိသောကြောင့် ရှင်း, ရှင်းများကို မင်းစိုးတို့က ကြည့်ရှုခွင့် ပြုလုပ်စေရသေး ၏ ဟူသော အဓိပ္ပါယ်မှာ လည်း အရေး မပြုလောက် ဟု ထင်မြင်၏၊ ထို့ကြောင့်, ပွဲလမ်း သဘင် ကြည့်ရှုရခြင်း သည်နှင့် ကာလ ကုန်ခဲ့သော် လည်း မိမိ လက်ထက်တော်၌ တရားပွဲများ ပေါ်ထွန်းလာသည် ဟု ဆိုလိုကြောင်း အဓိပ္ပါယ်ကို ကျွန်ုပ် သဘောကျ၏။

(U. K. D. ၏ [illegible])

# ပဉ္စမသိလာ နုသာသနီ။

## ၅၊ မူလပါဠိ၊

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ ဧဝံ အာဟ ; ကလာဏံ ဒုကရံ ယော အာ–ဒိကရေ ကလာဏဿ, သော ဒုကရံ ကရောတိ၊ သေ မယာ ဗဟုံ ကလာဏံ ကတံ၊ တံ ယေ မမ ပုတြာ စ ပေါတြာစ ပပေါတြာ စ; တေဟိ ယေ မေ အပတာ အဿံတိ, အာဝ ကပံ, တထာ ယေ အနုဝတိ သံတိ; တထာ တေ သုကတံ ကဗ်တိ၊ ယေ တု ဧကဒေသံ ပိ ဟာပယိသံတိ, သေ ဒုကဋံ ကဗ်တိ၊ သုကရံ ဟိ ပါပေ ဟိ နာမ သုပဒါလယေ၊ သေ အတိကံတံ အံတရံ နော ဘူတပုဝံ ဓံမ-မဟာမာတာ နာမ၊ သေ မယာ တေဒသဝသာ ဘိသိတေန (မေ) ဓံမ-မဟာ မာတာ နာမ ကတာ၊ တေ သဝ-ပါသံဍေသု ဗျာပတာ, ဓံမာ ဓိဋ္ဌာနာယ စ ဓံမဝဍိယာ ဟိတ-သုခါယ စ။

ဓံမ-ယုတာ စ ယောနကံ ဗောဇ-ဂံဓာရာနံ ရဋိက-ပိတိနိကာနံ, ယေ ဝါ ပိ အံနေ အပရံတာ ဗြာဟ္မဏကိဘေသု အနာထေသု ဝုဓေသု (စ) ဟိတ-သုခါယ, ဓံမ-ယုတာနံ အပလိဗောဓာယ ဗျာပတာ၊ တေ ဗံဓန-ဗဓဿ ပဋိဝိဓာနာယ အပလိ-ဗောဓာယ မောခါယ စ အယံ အနုဗံဓ ပဇာဝတိ (ဝါ) ကတာ ဘိကာရော တိ ဝါ ထေရေ (မဟာလကေ) တိ ဝါ ဗျာပတာ၊ တေ ပါဋလိပုတေ (ဟိ) စ ဗာဟိရေသု စ နဂရေသု သဗေသု ဩရောဓနေသု မေ ဧဝံ ပိ ဘာတီနံ မေ ဘဂိနီနံ, ယေ ဝါ ပိ အံနေသု ဉါတိသု သဗတ ဗျာပတာ၊ တေ ယော အယံ ဓံမနိသိတော တိ ဝါ, ဓံမာ ဓိဋ္ဌာနော တိ ဝါ, ဒါနသံယုတော တိ ဝါ, သဝ-ပုဌဝိယံ ဝိဇိတေ မမ ဓံ-မယုတသိ ဗျာပတာ၊ တေ ဓံမ-မဟာမာတာ ဧတာယ အဌာယ ဓံမလိပိ လိခိတာ; စိ-ရဌိတိကာ ဟောတု; တထာ စ မေ ပဇာ အနုဝတတု (တိ) တု။

၆၊ မှတ်ချက်၊ ။ဓံမယုတာ စ ယောန ကံဗောဇ-ဂံဓာရာနံ ဟူရာ၌, 'ဓံမယုတသ' ဟု အခြား မူအားလုံး ရှိ၏၊ တမူ၌ 'ဓံမယုတသာ' ဟု, တမူ၌ 'ဓံမယုတသ စ' ဟု ရှိကြ၏၊ အတ္ထယုတ္တိနှင့် နောက်၌ ဆိုလတ္တံ့ပုဒ်ကို ကြည့်၍ 'ဓံမယုတာ' ဟု လိုအပ်၏။

# ၇၊ မြန်မာတာသာပြန် ၅၊

## ကောင်းမှုပြုရန်ခဲခက်ကြောင်း၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိ ဟု ဝှဲ့ချီ–ခပ်နှိပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းတရား မြတ်ကြီး ဤသို့ မိန့်မြွက်တော်မူပြီ၊ ကောင်းမှု ကုသိုလ် မည်သည် ပြုလုပ်နိုင်ခဲရကား ထိုကောင်းမှုကို စတည် ပြုလုပ်သူသည် ပြုနိုင်ခဲသော ကိစ္စကို ပြုသည် မည်၏၊ ထို့ကြောင့် ငါ မင်းမြတ်သည် ကောင်းမှု ကုသိုလ် များစွာကို ပြုလုပ်တော်မူပြီ၊ ထို ငါ့ ကောင်းမှု တော်များကို ငါမင်းတရား၏ သားတော် အစဉ့် မြေးတော် အဆက်၊ မြစ်တော် အညွန့် တို့သည် ၎င်း၊ ၎င်းတို့နှင့်တကွ ငါ၏ နောက်၌ ဆက်ခံ စံနေကုန်သော ဆွေတော် မျိုးတော်တို့သည် ၎င်း ဤကမ္ဘာ အဆုံးတိုင် ထို့နည်းတူ သာ လျှင် တမှု လိုက်နာကုန် ကြအံ့၊ ၎င်းတို့လည်း ပြုနိုင်ခဲသော ကောင်းမှုကိုသာ ပြုသည် မည်ကုန်၏။

ထိုသို့ မဟုတ်ပဲ၊ ငါ့အမိန့်တော် အချို့–အဝက်မျှကို ပင် ဆုတ်ယုတ် လျော့ပါး စေကုန်ငြားအံ့; ထိုသူတို့သည် မကောင်းမှုကို ပြုသည် မည်ကုန်၏၊ ထိုကားမှန်၏; ယုတ်မာ ဆိုးဝါးသူတို့ မည်သည် ကောင်းမွန်စွာ ပြုအပ်သည့် ကောင်းမှုကို ဖျက်ဆီးရန် လွယ်ကုန်၏၊ ရှည်မြင့်လှစွာ အခါကာလ ကုန်လွန်ခဲ့သည် တိုင်အောင် တရားတော်ကြပ် အမတ်ကြီးဟို မည်သည် မရှိဖူးချေ၊ ငါ ဘုရင် မင်းမြတ်သည် အဘိသိက် ခံ၍ တဆဲ့သုံးနှစ်မြောက် အခါ၌ တရားတော်၏ ကြီးကျယ် မြင့်မြတ်ရေးအတွက် တရားကြီးကြပ် အမတ်ကြီးတို့ကို ခန့်ထားတော်မူခဲ့ပြီ၊ ထိုအမတ်ကြီးတို့ကို ဗုဒ္ဓဘာသာမှ တပါး အခြား အယူဝါဒ အထူးထူး ရှိသူတို့ အတွင်းတွင် တရားတော် မှန် တာရှည်-လေးမြင့် တည်တွန်းရန် ၎င်း၊ ကပ္ပါသူ ကပ္ပါသား အများ သူငါတို့ ချမ်းသာရေး တိုးတက်စေရန် ၎င်း အမှုတော် ထမ်းရွက် စေကုန်ပြီ။

ထိုမှ တပါး ထိုတရားကြီးကြပ် အမတ်ကြီးတို့ကို ယောနကတိုင်း၊ ကမ္ဗောဇ တိုင်း၊ ဂန္ဓာရတိုင်း၊ မဟာရဋ္ဌတိုင်း – ဂုဇရဋ္ဌတိုင်း၊ ပိတိနိက်တိုင်းသူတို့ အတွင်း၌ ၎င်း၊ ဤမှ တပါး အပရန္တ တိုင်းသားတို့ အတွင်း၌၎င်း၊ ထိုထို တိုင်းတို့၌ နေထိုင်ကုန် သောပုဏ္ဏား၊ သူကြွယ် ကိုးစားရာမဲ့သူ အိုခင်း ကြီးရင့်သူတို့၏ စီးပွား–ချမ်းသာရေး

အတွက် ၎င်း, တရားကျင့်ဆောင်သူတို့အား အနှောင့်—အရှက် ကင်းရန်၎င်း အမှုတော် ထမ်းစေကုန်ပြီ၊ 'ဤ သူသည်ကား ကျေးဇူးပြုလုပ်ပေသူ ဟု ၎င်း, ဤသူကား ကျေးဇူး သိတတ်သူ ဟု ၎င်း, ဤသူကား ဂုဏ်အရွယ် ကြီးသူတည်း ဟု ၎င်း (သိရှိကြ၍) နှောင်ဖွဲ့ ခြင်း, သတ်ဖြတ်ခြင်းကို တားမြစ် ပိတ်ပင်ရန် ၎င်း, မနှောင့်—မရှက် လွှတ်လပ်စေရန် ၎င်း ထိုတရား ကြီးကြပ် အမတ်ကြီးတို့ကို အမှုတော်ထမ်း စေကုန်ပြီ။

ထို တရား ကြီးကြပ် အမတ်ကြီးတို့ကို ဤပါဋလိပုတ် ပြည်တော်၌ ၎င်း ပါဋလိ ပုတ် မြို့တော်မှ အပ အခြား အားလုံးသော မြို့တို့၌ ၎င်း, ငါ ဘုရင်၏ နန်းတွင်းသူ အပေါင်းတို့၌ ၎င်း, ထို့—အတူ ငါဘုရင် မင်းတရား၏ ညီတော်, နှောင်တော်, အမ— တော်, နှမတော်တို့ အတွင်းတွင် ၎င်း, ထို့မှ တပါး အခြား ဆွေတော် မျိုးတော် အား လုံးတို့ အတွင်းတွင် ၎င်း, ယင်းသည့် သူအားလုံးတို့ အတွင်း၌ အမှုတော် ထမ်းစေကုန် ပြီ၊ ငါ ဘုရင် မင်းတရား၏ နိုင်ငံတော် အရပ်ရပ် တရား ကျင့်ရေး နှင့် စပ်ဆိုင်ရာ ဌာန၌ မည်သူသည် တရား ကျင့်ဝတ်၌ တည်မှီ နေထိုင်သည်, မည်သူသည် တရားကျင့်ဝတ်ကို တည်မှီရာ ပြုလုပ်သည်, မည်သူသည် အလှူ—ဒါနရေး၌ အားထုတ် လုံ့လပမ်း နေသည် ဟု ၎င်း, ဤအားလုံးသိနိုင်ရန် ထိုတရား ကြီးကြပ်ရေး အမတ်ကြီး တို့ကို အမှုတော် ထမ်းစေ ကုန်ပြီ၊ ဤသို့ တရားတော်၏ တိုးတက်မြင့်မြတ်ရေး အကျိုးငှာ သာ လျှင်, ဤ တရား စာတော်ကို ရေးသား ထားရှိခဲ့သည့် အတိုင်း ဤတရားသည် ရှည်လျားစွာ တည်နေစေ သတည်း၊ ထိုတရား အတိုင်း လည်း ငါဘုရင်၏ တိုင်းသူ ပြည်သား အားလုံး လိုက်နာ ကြစေသတည်း။

၈။ ဥပဒေသ—ဤကျောက်စာတော်ကို ကြည့်ရှု-သိရှိ-ရခြင်းဖြင့် အသောက မင်းတရားမြတ်သည် ကာပ္ပ ါလောက၌ တရားတော် ညွှန်ပြတိုင်း ကောင်းမှု မည်သည် အလွန်ပြုနိုင်ခဲခြင်း အမှန် သိရှိ၍, ကိုယ်တော်တိုင် ထိုခဲယဉ်းသော ကောင်းမှု ကို ပြုလုပ်ပြီးလျှင်, မိမိ အလား အခြားသူတို့ လည်း တရား လာတိုင်း ကောင်းမှု— ကို ပြုလုပ်ကြစေရန် အထူး ကြောင့်ကြလျက်, ဤတရား ကျင့်ရေးမှာ ကပ္ပ ါ အဆုံး တည်တန့် မြဲခိုင်ရန် ကြိုးပမ်းတော်မူ၍, တရားပြု, တရားကြပ် အမတ်ကြီးများ အ— ထူး ခန့် ထား ရှိကြောင်း ထင်ရှားလေသည်၊ မိမိ တိုင်းနိုင်ငံတွင်းနှင့် ဆိုင်စပ်ရာမျှ မဟုတ်သေးပဲ, အခြား အယူ တပါး မင်းတပါးတို့ ပြည်ထောင် နိုင်ငံတို့၌ လည်း ထို့ အတိုင်း တည်တန့်အောင် ကြံစည် ဆောင်ရွက်ခြင်းမှာ သာလွန် ချီးကျူးဖွယ်

ဖြစ်လေသည်၊ ဤသို့ပြု လုပ်ပုံကို ပြသော ကျောက်စာဖြင့် ဗုဒ္ဓဘာသာဝင် တို့အား ထို အဓောသက မင်းတရား ကဲ့သို့ တရားတော်၏ မြင့်မြတ်ပုံကို ကိုယ်ကြို ဥာဏ်မိ သိရှိကြရန်, သိရှိရေး၌ လေ့လာကြရန်, တနည်းနည်း အားဖြင့် မိမိတို့ တရားကို အများ လိုက်နာရေး၌ အားစိုက်ကြရန် နည်းညွှန် တိုက်တွန်းလေသည်။

၉၊ မှတ်ချက်၊ ၊ပါသဏ္ဍ ဟူရာ၌ ဤကျောက်စာ အလိုမှာ ဗုဒ္ဓဘာသာမှ တပါးသော အယူ အားလုံးကို သို့မဟုတ် အယူ ရှိသူ အားလုံးကို ပင် ဆိုလိုဟန် ရှိ၏၊ သို့ရာတွင်, ဤ စုဒ္ဒသသိလာပဏ္ဍာ နှသာသနီ ပါ ဒွါဒသမ သိလာပဏ္ဍာ နှသာ သနီ၌ကား, 'ယော ဟိ ကောစိ အတ-ပါသံဍ ပူဇယတိ, ပရပါသံဍ ဝါ ပရဟတိ' ဟု အယူသာမန်ကို ပင် ဆိုလေသည်၊ သို့ ဖြစ်စေကာ, ဟိန္ဒူ, သို့မဟုတ် ဗြာဟ္မဏ— ဘာသာ၌, ထိုပါသဏ္ဍ အယူကို မကောင်းဟု ပင် သမုတ်အပ်၍, ပါခဏ္ဍ ဟု ခေါ်၏၊ ဟိန္ဒူဘာသာ-အဓိပ္ပါယ်မှာ အယူကျိုး, အယူပျက် ဟု ဆိုလို၏; ပိုင်းပိုင်း ချိုးနှိပ် ဖျက်ဆီးအပ်သော အယူ ဟု လည်း ဆိုလို၏၊ သို့ရာတွင်, သက္ကဋ ပုဒ်ရင်းမှာ တာ— လုဇ 'သ' နှင့် ဖြစ်၍, ရွတ်ပုံ သာ ခြားနား၏၊ ဟိန္ဒူမှာ-ကား အရေး အက္ခရာ ပင် ခြားနားလေသည်၊ ထို့ပြင်, မာဂဓ အဘိဓာန်ကျမ်း၌ လည်း,

> ကုဋ္ဌိသကာဒိက-စတု၊
> တ္တိံသ, ဒွါသဋ္ဌိ ဒိဋ္ဌိယော,
> ဣတိ ဆန္ဒရုတိ ဧတေ၊
> ပါသဏ္ဍာ သမ္ပကာသိတာ၊

ဟု ဗုဒ္ဓဘာသာမှ တပါးသော အယူ ၉၆-ပါးကို ပြထားအပ်၏၊ သဒ္ဒတ္ထဓောသမ နီတိ ခေါ် သက္ကဋ အဘိဓာန်၌ ကား ဝေဒကျမ်း အယူကို ဖျက်ဆီးသော အယူဟူ၏၊ စင်စစ်ကား မိမိတို့ နှစ်သက်ရာ အယူမှ တပါးကို ပါသဏ္ဍ အယူ ဟု ဘာသာတိုင်း က ဆိုရိုး စကား ဟု မှတ်ရန် ရှိ၏၊ ထို့ကြောင့် အရှင် သာရိပုတ္တမထေရ်မြတ်၏, အာ- ဘော် ပြုရာ သမ္မသာဒနီယသုတ် အဋ္ဌကထာ၌ 'အယံ ယော'တ္ထ အဓိပ္ပါယော, ဘဂဝါ, အဟံ သာဝက—ပါရမီဉာဏ် ပဋိလာဘနတ္ထာ ပဋ္ဌနဝုတိ—ပါသဏ္ဍောသု န အညံ ကေ ပိ သမဏံ ဝါ ဗြာဟ္မဏံ ဝါ ဥပသင်္ကမိတ္ထာ သာဝက—ပါရမီဉာဏံ ပိ ပဋိလဘိ'— သည် မိန့်ဆိုလေသည်။ [ပါသဏ္ဍ အယူ အကြောင်းကို ဤစုဒ္ဒသမ သိလာ နှသာ— သနီ၏, ဒွါဒသမ သိလာနှသာသနီ၌ ဆက်လက် ကြည့်ရှုနိုင်သေး၏။]

ဂ။ ၊ယောန-ယောနိုး(ယွန်း)တိုင်း ဟူသည် ဂန္ဓိယ၏ အနောက်မြောက်ဖက်ရှိ ယခု ပါရှားခေါ် နယ်မှ ဂရိက် (ရိုးမ) အထိ တိုင်းပြည်ကို ယူ။

ဂန္ဓာရ ဟူရာ, ကံဗောဇ ဟူရာ တိုင်းပြည် များမှာ လည်း အဖဂါနီပြည် အရှေ့ပိုင်းမှ သိန္ဓုမြစ် အထိ ဟိမဝန္တာတောင် အနောက်ပိုင်းနှင့် †ပန်ကျာပ်ပြည် အ— နောက် မြောက်ပိုင်းနယ်, ယခုပစ္စကွတွင် ကန္ဓဟာရ, ကမ္ဗုံး ခေါ် အရပ်တို့ကို ဆိုသည်၊ ထိုဆိုပြီး တိုင်းပြည် ၃ ခုမှာ အသောကပိုင် ပြည်များ ဟု ယူရန် ရှိ၏; တနည်းနည်းအား ဖြင့် ၎င်းဩဇာ ပြန့်နှံ့ကြောင်းကား ထင်ရှားလေသည်။

ရဋ္ဌိက—ဟူရာ၌, ယခုဗုံဗေ-ပူနာနယ် အားလုံး ဆိုင်ရာ ဂူဇရာဋ်, မဟာရာဋ် အရပ်များကို ဆိုသင့်၏၊ ပိဋိနိက—ဟူသည် ပိုက်ထနိက် ဟု ဟိန္ဒူများ ခေါ်ခေါ်ပုံကို ထောက်လျှင်, ယခု အခေါ် ဗံကျာပ်နယ် ပထာန်ခေါ် အရပ်ကို ပင် ယူရန်ရှိ၏၊ အပရန္တ ဟူသည် ထိုဆိုခဲ့ပြီး နယ်များမှ အနောက် အပဂန်ပြည်ကို ယူရန် ရှိ၏။

---

†ပံကျာပ် ဟူသည် ပဉ္စာပ—ပဉ္စ+အာပ—ရေချောင်း ၅ မျိုးဆုံရာဟု ဆိုလို၏၊ အင်္ဂလိပ် **အစွဲရေးမှာ အသံကြား မှား၍ အကျဲရာပါ မှားယွင်း ရှိနေ၏။**

# ဆဋ္ဌ-သိလာ'နုသာသနိ။

## ၆။ မူလပါဠိ။

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ ဧဝံ အာဟ; အတိကာတံ အံတရံ န ဘူတ-ပုဝံ သဝံ ကာလံ အထကံမံ ဝါ ပဋိဝေဒနာ ဝါ၊ တေ မယာ ဧဝံ ကတံ; သဝံ ကာလံ ဘုံဇမာနသ မေ အံတေ ဩြရောဓနမှိ, ဂဘာဂါရမှိ, ဝစမှိ စ ဝိနီတမှိ စ ဥယာနမှိ စ သဝတြ ပဋိဝေဒကာ ဌိတာ အဌံ မေ ဇနသ ပဋိဝေဒေထ ဣတိ၊ သဗတြ စ ဇနသ အဌံ ကရောမိ အဟံ၊ ယံ ပိ စ ကိံစိ မုခတော အာဉာပယာမိ သွယံ ဒါပကံ ဝါ သာဝါပကံ ဝါ, ယံ ဝါ ပုန မဟာမာတေဟိ အတိယာယိကေ အာရောပိတံ ဟောတိ; တာယ အထာယ ဝိဝါဒေ ဝါ နိဇ္ဈတိ ဝါ သံတော ပရိ-သာယံ အနံတရိယေန ပဋိဝေဒေတဗံ မေ တိ သဝတြ သဝံ ကာလံ ဧဝံ မေ အာဉာ-ပိတံ၊ နတ္ထိ ဟိ မေ တောသော ဥဋ္ဌာနမှိ အထသံတီရဏာယ ကတဗံ၊ မတံ ဟိ မေ သဝလောကဟိတံ၊ တသ စ ပုန ဧသ မူလံ ဥဋ္ဌာနံ စ အထသံတီရဏာ စ၊ နတ္ထိ ဟိ ကံမတရံ သဝလောကဟိတမှာ၊ ယံ စ ကိံစိ ပရာကမာမိ အဟံ, ကိံတိ ဘူတာနံ အာနံဏံ ဂစ္ဆေယံတိ; ဣဓ စ ကိံစိ သုခယာမိ, ပရတြ စ သွဂံ အာရာဓယေတု တိ၊ သေ ဧတာယ အထာယ အယံ ဓံမလိပိ လေခါပိတာ ကိံတိ စိရဋ္ဌိတိကာ ဟောတု တထာ စ မေ ပုတြာ ပေါတြာ စ ပပုတြာ စ မေ ပရာကမံတု သဝလောက-ဟိတာယ၊ ဒုကရံ စ ဣဒံ အညတြ အဂေန ပရာကမေန။——သောဘော။

၇။ မှတ်ချက်။ ။မူ တခုတည်း ဖြင့် လည်း မပြည့်စုံ, အားလုံး မူများနှင့် ရောနှော စပ်ဟပ်ရရာမှာ လည်း အဓိပ္ပါယ် ရမျှသာ မှန်းဆနိုင်သဖြင့် ကတ္တား ကတ္တိ အနေ အထားမှာ များစွာ အရေး ပြုဖွယ် မရှိပုံကို, အဋ္ဌမ ဓ'ဝ နာဂသော သရုပ် အခေါ်ဖ အတိုင်း ဝရှ ဖိုက်ကြစေသတည်း။ ဤကျောက်စာမှ ရှေ့-နောက် ကျောက်စာ အားလုံး အတွက် မှတ်ယူကြစေကုန်။

# ၈။ မြန်မာဘာသာပြန် ၆။

## သတင်းကြား အမတ်ခန့်ထားခြင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဖွဲ့ချီ ခပ်နိုင် အရှင်—မဟာကာသာပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ—ရရှိသော အသောကာ ကြား—မင်း မြတ်သည် ဤသို့ မိန့်ခွန်း ပြန်ဆိုလေပြီ၊ နှစ်ဆက် အသက် ကာလ များစွာ ကြာလွန်လှသည် တိုင်အောင် ပင် အခါ လေးမြင့်စွာ မင်းရေး ကိစ္စ ဆိုင်စပ်ရာ မည်သည် ၎င်း, မင်း၏ အမိန့်—အာဏာကို သင့်—မသင့် အကြောင်း—အကျိုး ပြန်လှန် ပြောကြားခြင်း မည်သည် ၎င်း မဖြစ်ပူးခဲ့လေ၊ ထို့ကြောင့်, ငါဘုရင် မင်းတရား-သည် ဤ ဆိုလတ္တံ့ အတိုင်း အမိန့် ထုတ်ပြန်တော်မူ၏၊ မည်သည့် အခါ မဆို, ငါ မင်းတရားမြတ် ပွဲတော် တည်စဉ် အခိုက် ဖြစ်စေ, မောင်းမဆောင်၌ စံနေတော် မူခိုက် ဖြစ်စေ, မိဘုရား ကြီးငယ်နှင့် မောင်းမ အပေါင်းတို့ သွားဖွားရုံ၌, သွားရောက် နေခိုက် ဖြစ်စေ, ခရီး—ယာယီ ထွက်စံ လှည့်လည်ခိုက်, ဖြစ်စေ, ဥယျာဉ်တော်၌, အပျော် အပါး ထွက်စံတော်မူခိုက်ဖြစ်စေ, အားလုံးသော နေရာဘိုင်း၌, ပြန်ကြား တင်လျှောက်ဆိုမည့် သတင်းပြန်, သတင်းပေး အရာရှိများ ခန့်ထားတည်ရှိ ကုန်၍,, ငါ ဘုရင်၏, ကိစ္စ မှုခင်းကို ဖြစ်စေ, တိုင်းနိုင်ငံ သူများ၏, မှုခင်း ကိစ္စကို ဖြစ်စေ၊ ငါ မင်းတရားအား ပြန်ကြား လျှောက်တင်ကြစေ ဟု အမိန့် ထုတ်ဆင့်တော် မူ၏ ငါ မင်းတရားမြတ်သည် နေရာ တကာ အခါ ခပ်သိမ်း ပင် တိုင်းနိုင်ငံသူ များ၏, အကျိုးနှင့် စပ်သော ကိစ္စကို ပြုလုပ်အံ့။

ထို့ပြင်, အမိန့် ထုတ်ပြန်ချက် ထားသည်ကား, ငါဘုရင် မြတ်က တစုံတရာ ပြုလုပ် စီမံရှင့် နှုတ်တော်၊ မြွက်ကြားခြင်းဖြင့် ကိုယ်တိုင် ပြုလုပ်ရမည် ဟု ၎င်း, တစုံ တဦးအား ပြောကြား စေရန် ဟု ၎င်း အာဏာ မင်းမိန့် ထုတ်ပြန် ထားပြီခဲ့အံ့; ထိုသို့ သော အမိန့်သည် ပင် လည်း မှူးတော်—မတ်တော်ကြီး အပေါင်းတို့က အဆော တလျင် ပြုလုပ် ဆုံးဖြတ်ရာ၌, ထားရှိ ဆွေးနွေးစေရန် ဖြစ်လေသည်၊ ထို ကိစ္စနှင့် စပ်၍, ဆွေးနွေး တိုင်ပင်သော ပရိသတ် အတွင်း၌, မညီ—မမျှ ယူဆ ကွဲလွဲ ကြခြင်း,

ပြန်လည် စဉ်းစား ထိုက်ခြင်း ဖြစ်ခွင့် ထင်ရှား ဖြစ်ပေါ်ခဲ့အံ့; ငါ မင်းတရား၏ အပါးတော်မြဲ ကိုယ်ရံတော်အား သိစေခြင်းဖြင့် ငါ မင်းတရားအား ပြန်တုန့်—လျှောက်တင်ကြစေ ဟု နေရာ ခပ်သိမ်း၌ အခါ မရွေး ဤအတိုင်း ငါမင်းတရား မိန့်ကြားတော်မူ၏။

ထို အရေးနှင့် စပ်၍ ထင်ရှား မြွက်ဆိုတော်မူလိုသည်ကား ငါ ကြားမင်းမြတ်မှာ တိုင်းသား ပြည်သူတို့ ကိစ္စ၌ ထကြွ လုံ့လ စိုက်မှု ပြုလုပ်ရမည်ကို၎င်း, ထိုသို့သော တိုင်းသား ပြည်သူတို့ ကိစ္စကို စဉ်းစား ဆင်ခြင်ရေး အတွက် ပြုလုပ် ရမည်ကို၎င်း ကြောက်၍, စိုးရိမ်ခြင်း အလျင်း ရှိတော် မမူချေ၊ အကြောင်း အမှန် ပြန်ကြားဖွယ်ကား, အားလုံး တိုင်းနေ ပြည်သူတို့ စည်းပွား တိုးတက် ခြင်းသည်သာ ငါ ဘုရင် မင်းတရား၏ လိုအပ်သော ကိစ္စကြီး ဖြစ်လေသည်၊ ထို့ပြင်, ထိုသို့ ဖော်ပြခဲ့သော တိုင်းနိုင်ငံသူတို့ စီးပွား တိုးတက်ရေး မည်သည် လည်း အဖန်ဖန် အထပ်ထပ် ထကြွ—လုံ့လ ပြုခြင်း, ဆိုင်စပ်သည့် ကိစ္စကို စဉ်းစား ဆုံးဖြတ်ခြင်း; ဤ အရေး သာ ထမြောက်-ပြီးစီးကြောင်း မူလ ဖြစ်လေသည်၊ ထိုသို့ ဖြစ်စေခွင့် သင့်လှပေ၏; အားလုံး နိုင်ငံသူတို့ အစီး-အပွားထက် ပိုလွန်သော ကိစ္စ တပါး မည်သည် ငါ မင်းတရားမှာ အခြား ရှိတော် မမူချေ။

'တိုင်းနိုင်ငံသူတို့ အကျိုးတော်ဖြစ် ပြုလုပ်ရေး သာ ငါ မင်းတရား၏ ကိစ္စ' ဟုရာ၌ သိမှတ်ရန်ကား ဤသို့ တိုင်းနိုင်ငံသူတို့ ကိစ္စကို ငါ မင်းတရားက ဆောင်ရွက် ပြုလုပ်သော် သာ တိုင်းနိုင်ငံသူတို့က ငါအား ကိုးစားရာ မင်း ဟု မြတ်နိုး တနာ တင်မြောက် ထားကြခြင်း အတွက် ၎င်းတို့ ကြွေးမြီမှ လွတ်ကင်းဖွယ် ဖြစ်သည် ဟု ဆိုတော်မူလို၏၊ ထို့ပြင်, ဤ ပစ္စက္ခ၌ တစုံ—တရာ ချမ်းသာရခြင်း, နောင် တမလွန်၌, နတ်ပြည်မှာ ပျော်မွေ့ နှစ်ခြိုက်နိုင်ခြင်း လည်း ဖြစ်ရမည် ဟု ဆိုတော်မူလို၏၊ ထို့ကြောင့်, ဤ ဆိုခဲ့ပြီး အကျိုး အတွက် ဤ တရားကျောက်စာကို ကြာမြင့် အရှည်တည်နေစေရန် ထို တရား အတိုင်း ငါ မင်း တရား၏ သားတော် အစဉ် မြေးတော် အဆက် မြစ်တော် အညွန့်, အနွယ်ရှည်စွာ တိုင်းနိုင်ငံသူတို့ အစီး-အပွား၌ အားထုတ် လုံ့ပမ်းကြစေကုန်၊ စင်စစ် တမူကား ထူးကဲ—မြင့်မြတ်သော အားစိုက်ခြင်း လုံ့လနှင့် ကင်း၍, ဤ တိုင်းသူတို့ အကျိုးကို ပြုလုပ်နိုင်ရန် ခဲယဉ်းလှလေသတည်း၊ ——— ဆင်ဖြူတော် ကျောက်စာတော်။

၉။ မှတ်ရန်——— ဤ ကျောက်စာ နောက်ပိုင်း အဆုံး၌ 'သေတော' ဟု သ
ပါရှိ၏; ၎င်းမှာ လည်း ဓေါလိမူ တခု ၌ သာ ပါ၏၊ ကာလသီ အရပ် ရှိ ကျောက်စ
အထက်၌ကား၊ ဆင်ဖြူတော် ရုပ်နှင့် တကွ တည်ရှိ၍, ၎င်း အရုပ်၏ အောက်မှ 'ဂဇုတ္တမေ
ဆင်ပြောင်ကြီး' ဟု ရေးသား ပါရှိလေသည်၊ တဆဲ့သုံး နံပါတ် ဂိရနာရကျောက်စာ၏
အောက်၌ ကား 'သေ့တောဟတ္ထိ သဗ္ဗ လောက သုခါ ဟရီ-လောကသူ အလုံး
ချမ်းသာကို ဆောင်သော ဆင်ဖြူတော်' ဟု ရေးသားပါရှိ၏၊ ထို သို့သော ဆင်ဖြူတော
အမှတ် အသားမှာ နိပါတ်များ၌ လာရှိသည့် အတိုင်း ဆင်ဖြူတော်မှာ လောက အစီး
အပွားကို ကျင့်ဆောင်သည် ဟူသော အမှတ် အတိုင်း၊ လောက အစီး-အပွား အတွက
အထူး ကျင့်ဆောင်ချက် အထိန်း အမှတ် ထားရှိ ဟန်တူ၏။

၁၀။ ဥပဒေသ——— ဤ ကျောက်စာကို ဖတ်ရှု ခြင်းဖြင့် 'ဇနံ ရဇ္ဇေ တိတ်
ရာဇာ, ရာဇာသာ ကိစ္စံ ရဇ္ဇံ' ဟူသော ဝိဂ္ဂဟတ္ထ အရ, အသောက မင်းတရားသည် မင်
တို့အား ထိုက်သင့်သော ယထာ' ဝိမ္ပေတတ္တကို ကျနစွာ သိတော်မူ၍, ပြုနိုင်ခဲ့သော
တိုင်းနေ-ပြည်သူတို့ အကျိုးကို ပြုလုပ်တော်မူသည်၊ ထိုသို့ ပြုလုပ်ခြင်း သာ မင်းတို့ ကိစ္
ဖြစ်သည်; ထိုသို့ မပြုလုပ်လျှင်, တိုင်းသူတို့ ကြေးမြီ မကင်း ဟု ခွဲမြီး ထားခြင်းသည
တိုင်းသူ-ပြည်သားတို့ အတွက် များစွာနစ်သက်ရန် ဖြစ်လေသည်၊ ထို့ပြင်, မိမိ၏ မင်း
ရေး ကိစ္စ, တိုင်းပြည်ရေး ကိစ္စ အတွက် ပြောကြားနိုင်ခွင့် ပေးခြင်း, မိမိ ပေးပြီး အမိန့်ကို
ပင် ပြင်ဆင် ချေဖျက်နိုင်ခွင့် ရှိခြင်းမှာ ယခု ခေတ် အများ ကြိုက်လုံး ဖြစ်၍, 'ရှင် ဘုရင
ဝါး ဝ-ပါးပသည် ဟု' ချီကျူးထိုက်ကြောင်း သိရလေသည်၊ ထိုသို့သော အသောက
ကျင့်ဝတ်များက, မိမိ အလားတူ ကျင့်ကြစေရန် မင်း မှူးမတ်နှင့် အကြီး-အချုပ် ပြုလုပ်သူ
အားလုံးကို ညွှန်ကြားလေသည်။

# သတ္တမ သိလာ နုသာသနိ

## ၇၊ မူလပါဠိ၊

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ သဝတြ ဣဆတိ သဝေ ပါသံဍာ ဝသေယုံတိ၊ သဝေ ဟိ တေ သံယမံ စ ဘာဝသုဓိံ* စ ဣဆံတိ၊ ဇနော စ ဥစာ'ဝစ-ဆံဒေါ, ဥစာ'ဝစ-ရာဂေါ၊ တေ သဝံ ဝါ ကာရိသံတိ, ဧကဒေသံ ဝါ ပိ †ကာသံတိ, ဝိပုလေ ပိ စ ဒါနေ၊ ယသ နထိ သံယမေ, ဘာဝသုဓိ; ကတံဉုတာ, ဒဍ္ဎ ဘတိတာ ဝါ နိစာ ဗာဍ္ဎံ။

† မှတ်ချက်၊ ။ဤ၌ 'ကာရိသံတိ' ဟု ရှိသင့်သည် ထင်၏၊ မူလကျောက်စာ ထုလုပ်ရာ, သို့မဟုတ်—ကျောက်စာမှ တဆင့် ကူးယူရာ၌ 'ရိ' တလုံး ကျနေဟန် ရှိ၏။ U.K.D.

# ၈၊ မြန်မာဘာသာပြန် ၇၊

## ဘာသာဝင်တိုင်း နှစ်သက်အပ်ကြောင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဝှံချီ ခပ်နှိပ် အရှ မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြ မြတ်သည် မိမိ နိုင်ငံတော် အရပ်ရပ် ထက်ဝန်းကျင်၌ ကိုယ်တော် အယူ ဘာသာနှ မတူ ထူးခြား များပြား ထူးထွေသော အယူ ရှိသူတို့ကို ပင် မိမိ၏ တိုင်းနိုင်ငံတော ထက်ဝန်းကျင်၌ နေထိုင်ရန် လိုလား နှစ်သက်တော်မူ၏၊ ထိုသို့ လိုလားတော်မူကြောင ကား, ထို အယူ ရှိသူ အားလုံးတို့သည် ပင် မကောင်းမှုကို မပြုရန် စောင့်စည်းခြင်းကို၎င် ဘဝ၏ စင်ကြယ်ရေးကို ၎င်း လိုလား နှစ်သက်ကြကုန်၏၊ စင်စစ် ဆိုသော်ကာ ဤ ကမ္ဘာ-လောကကြီး၌ လူတို့ မည်သည် အလို-ဆန္ဒ နိမ့် မြင့် အစားစားရှိ၍ နိမ့်မြ ယုတ်မြတ် တပ်မက်ခြင်း လည်း အမျိုးမျိုး ရှိ၏၊ ထို့ကြောင့် ထိုထို အယူ ရှိကုန်သူတို့သည ကုသိုလ်ရေး ဆိုင်ရာ, ဘဝ စင်ကြယ်ကြောင်း ကိစ္စ အားလုံးကို ဖြစ်စေ, အချို့ အဝက်ကို ဖြစ်စေ, မြောက်များ မြန့်စည်သော လှူဒါန်းရေးတို့ကို ဖြစ်စေ ပြုလုပ်လုံးပမ်းကြကုန်လိမ့် သတည်း၊ ကိုယ်နှုတ် စောင့်စည်းခြင်း, ဘဝ စင်ကြယ်ရန် လိုလားခြင်း မျှ မရှိ သူ အာ ပြုစု ထောက်ပံ့သော သူ၏ ကျေးဇူးကို သိတတ်ခြင်း, မြဲမြံစွာ ကိုးစား ဆည်းကပ်ခြင မည်သည် မဖြုံ နိုင်ရာ သောကြောင့် များစွာ နိမ့်ယုတ် အောက်ကျလေတော့ရာ၏။

၉၊ ဥပဒေသ၊——ဤ ကျောက်စာကို ကြည့်ရှု-တွေ့မြင်ရခြင်းဖြင့် အသောက မင်းတရား အလိုတော်မှာ—ဤသို့ ဖြစ်၏၊ အယူ-ဝါဒ ရှိသူ, မရှိသူ ၂ ဦးတို့တွင် မည်သည့် အယူ-ဝါဒ ရှိသူ မဆို၊ အယူ တခုခု ရှိသူ မှန်က တော်လှပြီ ဟု ချီးကျူးလေသည် အကြောင်းကား ၎င်းတို့သည် ပြုသင့်ရာ ကောင်းမှုကို ပြုလုပ်ကြလိမ့်မည်; သူတပါးက ပြုသော ကျေးဇူးကို လည်း သိကြလိမ့်မည်; ကျေးဇူး သိ၍ လည်း ကျိုးနွံကြလိမ့်မည်၊ အယူ မရှိမူကား ထိုကဲ့သို့ ကောင်းမှု ပြုရေး, ကျေးဇူး သိရေး မရှိ, ကျိုးနွံလိမ့်ရန် ယုံကြည် ဖွယ် လည်း မရှိ၍ မကောင်း ဟုလေ၏၊ Bacon– ဗဲကန်အမည်ရှိ အင်္ဂလိပ်ပညာရှိ တယောက်က လည်း ၎င်း၏ Essay ဝိနိစ္ဆယကျမ်း အယူ ဝါဒ တခုခု ရှိသူ သာ

ကောင်းမွန်ကြောင်း ရေးသားချက် ရှိ၏၊ ကျွန်ုပ်တို့ လည်း အယူ ရှိသူ အားလုံးတို့အား ပင် နှစ်သက်ဖွယ် ဂုဏ်ထူးကို ရှာဖွေ နှစ်သက်ကြကုန်ရာ၏ ဟု ညွှန်ကြား၏။

၁၀၊ မှတ်ချက်၊ ။အယူဝါဒ ရှိသူ အားလုံးတို့အား ပင် နှစ်သက်ဖွယ် ဂုဏ်ထူးကို ရှာဖွေ နှစ်သက်ရမည် ဟူသည်ကား အသောက မင်းကြီးက မိမိ၏ နိုင်ငံတော် အရပ်ရပ်၌ ဘာသာဝင် ဟူသမျှကို နေထိုင်စေရန် လိုလားတော်မူသည်၊ အကြောင်းကား ၎င်းတို့သည် အယူ-ဝါဒ ရှိသည် ဆိုသဖြင့် တခုခုသော သံယမ ဘဝသုဒ္ဓိ အလိုရှိကြပြီ ဟု ချီးကျူး၍ နာသာအောင် ပြောဆိုလျက် နှစ်သက်စရာ ဂုဏ်ကို ရှာသကဲ့သို့ နှစ်သက်နိုင်ဖွယ် တခုခုကို ရှာဖွေရမည် ဟု ကျွန်ုပ်ဆိုလို၏၊ အယူ ရှိသူ ဟူသမျှကို သံယမနှင့် ဘဝသုဒ္ဓိ အကျင့် ရှိ၍ နှစ်သက်ရမည် ဟု မဆိုသို့၊ အကြောင်းကား နတ္ထိက, အဟေတုက, အကိရိယ—အယူ ရှိသူတို့မှာ လောကာယတ, သုညတဝါဒ-ဥစ္ဆေဒဝါဒ-များ သာ ဖြစ်ကြသဖြင့် စာရွာက ဧသော လောကာ ယတိက ပုဂ္ဂိုလ်တို့ ကဲ့သို့ ဖြစ်ကြ၍ နှစ်သက်ဖွယ် ဂုဏ် မရှိကြကုန်၊ စာရွာက, ဗြဟပ္ပတိ အစရှိသော လောကာယတိက ပုဂ္ဂိုလ်တို့ အယူမှာ ဥစ္ဆေဒ—သုညတ ဝါဒမျိုး ဖြစ်ခဲ့လျှင် အသောက မင်းကြီးက အဘဲ့ကြောင့် 'သဇဝ ဟိ တေ သံယမံ စ ဘဝသုဒ္ဓိံ စ ဣစ္ဆံတိ' ဟု ဆိုရသနည်း?၊ အကြောင်းကား ဥစ္ဆေဒ-သုညတ-အယူ ရှိသူ ဖြစ်ခဲ့သော်, ပဏ္ဍာသနိပါတ် မဟာဗောဓိဇာတ်လာ ခတ္တဝိဇ္ဇ အယူမျိုး ဖြစ်၍ သံယမ-ကာယကံ စသည် စောင့်စည်းခြင်း, ဘဝသုဒ္ဓိ, ဘဝမှ စင်ကြယ်ကြောင်း ဧသော အကျင့်များ မရှိနိုင်ရာ။

ဥစ္ဆေဒ အယူ စသည် ရှိသော ခတ္တဝိဇ္ဇ-ဝါဒီ ပုဂ္ဂိုလ်တို့ သံယမ—ဘဝသုဒ္ဓိ အတွက် ကျင့်ကြံဖွယ် မရှိကြကုန်သည်ကား ကောင်း မှန်၏၊ သို့ရာတွင် အသောက မင်းကြီးက အယူရှိသူ အားလုံး ပင် သံယမ, ဘဝသုဒ္ဓိကို လိုလားကုန်၏ ဟု ဆိုခြင်းမှာကား အကယ်မှတ်ထင်၍ ပင် ဆိုသည်, သို့မဟုတ် ပရိယာယ်အားဖြင့် ပင် ဆိုသည် ဟု ကျွန်ုပ်တို့ အမှန် ဆုံးဖြတ်ရန် မလွယ်ကူချေ၊ အကြောင်းကား ၎င်း မင်းကြီးသည် ပိဋကတ္တယ-ပါဠိ, ဝိနိစ္ဆယညူ အစစ် မဟုတ်သဖြင့် အယူ-ဝါဒ တိုင်းမှာ သံယမ, ဘဝသုဒ္ဓိ ရှိ-မရှိကို သုံးသပ် ဖြတ်ဖြတ် သိမြင် မြွက်ဆို ထားသည် ဟု လည်း ကျွန်ုပ်တို့ မဆိုနိုင်ကုန်၊ ထို့ပြင် ဤအချက်၌ အယူဝါဒတိုင်းမှာ ထိုသို့သော ကျင့်ဝတ်များ မရှိ ဟု သိနားလည် စေကာ, မင်း ပရိယာယ်အားဖြင့် ထိုသို့ သုံးနှုန်း မြွက်ဆို ထားလေသည် ဟု လည်း ကျွန်ုပ်တို့ ယူဆနိုင်ကုန်၏၊ ထိုစကား မှန်၏; 'သဇဝ ဟိ တေ သံယမံ စ ဘဝသုဒ္ဓိံ စ ဣစ္ဆံတိ;—ဇနော စ ဥစာဝစ ဆံဒေါ, ဥစာဝစ-ရာဂေါ' ဟု ဆိုသော စကား၏ ပေဘ္ဗက္ကာကာရ-ဝဏ္ဏနာတွင် အဓိပ္ပါယ်မှာ သံယမနှင့် ဘဝသုဒ္ဓိ အကျင့် ရှိလျှင် သာ နှစ်ဆက်အပ်သည်၊ အကြောင်း

ကား လူများမှာ အလိုဆန္ဒ နိမ့်မြင့် ရှိကြသည်၊ ထိုသို့သော သံယမနှင့် ဘဝသုဒ္ဓိ ကျင့်ဝတ် ရှိသောကြောင့် ထိုအယူမျိုး ရှိသူ ဟူသမျှကို ငါ မင်းမြတ်၏ တိုင်းနိုင်ငံတော် အတွင်း အရပ်၌ ပင် အယူ ရှိသူမှန်က နေစေလိုသည် ဟု ဆိုလို၏။

သံယမနှင့် ဘဝသုဒ္ဓိ မရှိခဲ့သော်, မည်သို့ ပါနည်း ဟူသော်,'ယဿ နတ္ထိ သံယမော, ဘဝသုဒ္ဓိ; ကတညုတာ ဝါ ဒဠှ-ဘတ္တိတာ ဝါ နိစာ ဗာဠှ' —သံယမနှင့် ဘဝသုဒ္ဓိမျှ မရှိလျှင် ကျေးဇူး သိတတ်ခြင်း, မြဲစွဲ တည်တန့်စွာ ခစား-ဆည်းကပ်ခြင်း ဟူသော လောကသားတို့ သိတတ်ကြရာမျှ ပင် မရှိသောကြောင့် စင်စစ် ယုတ်နိမ့် လူစွာ၏'—ဟု လိုသတည်း၊ ထို စကားဖြင့် အသောက မင်းကြီးသည် သံယမနှင့် ဘဝသုဒ္ဓိ အကျင့် မရှိသော အယူဝါဒကို မနှစ်သက် ဟု သိရ၏၊ မည်သို့ မနှစ်သက်စေကာ, လောကမှာ အတိုင်း နှစ်သက်ယောင် ပြောတတ်ကြသည်မှာ လည်း ပရိယာယ်၌ လိမ္မာသော ပညာရှိတို့ အလေ့ ပင် ဖြစ်၏; အသောက မင်းကြီးကဲ့သို့ အယူဝါဒ အမျိုးမျိုး ရှိသူတို့ကို အုပ်စိုးသော ကေရာဇ် ဘုရင်ကြီးမှာကား ဆိုဖွယ် ပင် မရှိတော့ချေ၊ တနည်း မည်သို့သော အယူ ဖြစ်စေ အယူ တခုခု ရှိလျှင် အယူ လုံးလုံး မရှိသူနှင့် စာ၍ နှစ်သက်ထိုက်၏၊ ထို စကား မှန်၏; ဒိဋ္ဌိ အယူမျိုး ပင် ဖြစ်စေ အယူ-ဝါဒ တခုခု ရှိသူမှာ ဘဝ၏ ကောင်းဆိုး ၂ ပါး အကျိုး အပြစ် များကို ဆင်ခြင်တုံ တရား ရှိပြီ ဟု သိရသောကြောင့် ဥစ္ဆေဒ အယူ ဖြစ်စေကာမူ တခါခါ တည့်မှန်လိမ့်မည် ဟု မျှော်လင့်ဖွယ် ရှိသေး၏၊ အယူ-ဝါဒ အလျှင်း မရှိသူကား ထိုသို့ မျှော်လင့်ဖွယ် မရှိချေ; ထိုကြောင့် ဗဲကန်း— Bacon ခေါ် အင်္ဂလိပ် ပညာရှိက လည်း 'အယူ-ဝါဒ တခုခု ရှိသူ သာ ကောင်းမွန်ကြောင်း' ဆိုလေသည်။

# အဋ္ဌမ သိလာနု သာသနီ၊

## ၈၊ မူလပါဠိ၊

အတိကံတံ အံတလံ ရာဇာနော ဝိဟာရ-ယာတံ နာမ နိခမိသု၊ ဟေတ မိဂဝိယာ၊ အံနာနိ စ ဧဒိသာနိ အဘိရမာနိ အဟံသု၊ သော ဒေဝါနံ ပိယော ပိယ—ဒသိရာဇာ ဒသဝသာ' ဘိသိတော † သံဘော နိခမိ သံဗောဓိ'၊ တေ 'နေသာ ဓံမ ယာတာ အတြ (အယံ) ဟောတိ၊ သမဏာ ဗြာဟ္မဏာနံ ဒသနေ စ ဒါနေ စ ထေရာနံ ဒသနေ စ ဟိရံဏ-ပဋိဝိဓာနေ စ ဇန-ပဒသ ဇနသ ဒသနံ စ ဓံမာ' နုသဋ္ဌိ စ ဓံမ ပရိပုဆာ စ တတော' ပယာ သော ဘုယ ရတိ (အဘိရာမော) ဟောတိ၊ ဒေဝါနံ ပိယသ ပိယဒ-သိနော ရာဇော ဘာဂေ အံညေ။

၉၊ မှတ်ချက်၊ ။ပထမ ကျောက်စာများနှင့် အလားတူ ပုဒ်ကို အလားတူ မထားပဲ ပုဒ်ကွဲနှင့် ရေးထားခြင်းမှာ ကျောက်စာမူ အတူးထူး ရှိကြောင်း သိစေ၏၊ ရင်းမြင့် စာကြည့်ရှုသူတို့၏ အသိဉာဏ်ကို နှိုးဆော်၏။

† မှတ်ချက်၊ ။ရာမဝတာရ သမ္မ—၏ ကျောက်စာမူ၌ ဤနေရာတွင် 'သံတံ နိကမိဋ္ဌာ

... U K D

# ၉၊ မြန်မာဘာသာပြန် ၈၊

## ကျောင်းဘုရားသွားခြင်းမြတ်ပုံ၊

ရှည်လျားစွာသော ကာလ ပတ်လုံး ဘုရင် မင်းမြတ်တို့သည် ကျောင်း ကန်ဘုရား သို့ ထွက်စံ ဖူးမျှော်ခြင်း မည်သည်ကို ပြုတော်မူလေ့ ရှိကြကုန်ပြီ၊ ဤသို့ ထွက်စံ—တော်မူကြရာ၌ သား—သမင် လိုက်လံ-ပစ်ခတ် ပျော်ပါးခြင်း ထိုမှ တပါး ဤနှင့်အလား တူ ပျော်ပါး—မြူးထူးခြင်းတို့ လည်းပါဝင်ကြကုန်ပြီ၊ ထိုသို့သော မင်းတို့ ခရီးထွက် စံ—ကြမြန်းခြင်း အလေ့များအတိုင်း မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယ ဒဿီဟု ဘွဲ့ချီ-ခပ်နှိပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းကြီးမြတ်သည် အဘိသိက် သွန်း၍ ဆယ်နှစ်မြောက် အခါ ဘုရားလျာတို့၏ သစ္စာပင်း လေးဆင့် ဖြစ်ပွင့် သိမြင်ကြရာ မဟာ ဗောဓိပင်သို့ ခရီး လှည့်လည် ထွက်စံခြင်း ပြုလေပြီ၊ ထို့ကြောင့် ဤနေရာ၌ တရား အခွင့် သင့်-မြတ်သော ထွက်စံ—ကြွရောက်ခြင်း ဖြစ်လေသည်။

ထိုကဲ့သို့ ထွက်စံတော်မူရာ ဤအရပ် ဌာန၌ ရဟန်း—ပုဏ္ဏားတို့ကို ကြည့်ရှု—ဖူးမြင်ရခြင်း, ၎င်းတို့အား လှူဒါန်းရခြင်း, အသက်—အရွယ် အိုမင်းသူ, သီလ စ—သော ဂုဏ် မြောက်မြားသူတို့အား တွေ့မြင်—ဖူးမျှော်ရခြင်း, ရွှေပြား စသည်(စေတီ—ပုထိုးတို့၌) မွမ်းမံရခြင်း, ဇနပုဒ်သူ, ဇနပုဒ်သားတို့နှင့် တွေ့ဆုံ ဆွေးနွေးရခြင်း, တရား—စကား ဟောညွှန် ဆုံးမရခြင်း, တရား—စကား ပြောကြား ဆွေးနွေးရခြင်းများ ဖြစ်—ပွားလေပြီ၊ ထို အားလုံးသည်ကား ကျောင်းကန်—ဘုရားသို့ ထွက်ကြွ လှည့်လည်ခြင်း မှ စင်စစ် တိုးပွားသည့် မွေ့လျော် ပျော်ပါးဖွယ်များ ဖြစ်လေသည်၊ မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီဟု ဘွဲ့ချီ-ခပ်နှိပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းကြီးမြတ်ကြီး၏ ဤသို့သော ကုသိုလ် အဖို့ကို ငါဘုရင်မှတပါး အခြားသော နတ်—လူ—ဗြဟ္မာတို့အား အမျှ ညီစွာ ပတ္တိ—ဒါန ပြုသတည်း။

၁၀၊ မှတ်ရန်၊ ၊မဒေါ်တဆာ နှုတ် မပီသ သူက ချွတ်ချော်—တိမ်းပါး၍ 'အမ္ဗု'—ဟူသော ပုဒ်မျိုးနှင့် အလားတူ သဒ္ဒါမှားကို ပင် ရှုတ်မိစေကာ, ၎င်း၏ အနက်ကို ပညာရှိတို့ ရှာဖွေခဲ့သော် 'အမ္ဗ'—ဟူသော သဒ္ဒါနှင့် အလားတူ သဒ္ဒါ ကောင်းကို တွေ့ရသည် ဟု သဒ္ဒတ္ထဘေဒစိန္တာ ဆရာကြီး အရှင် ဓမ္မသိရီ မိန့်ဆိုချက် ကဲ့သို့ 'ဒေဝါနံ ပိယသ ပိယဒသိနော ရာဇော ဘာဂေ အံဗေ—' ဟူသော သဒ္ဒါ ပိုင်းဖြတ် မစပ်—မဟပ်ကို တွေ့ရစေကာ, ပဋ္ဌိ—ဒါန အတွက် ရည်သောင်ချက် ဟု သိရသောကြောင့် ထိုသို့ မြန်မာ ပြန်ဆိုခဲ့သတည်း။

ထို့ပြင်, ဤ ကျောက်စာ၌ ဒေဝါနံ ပိယသ ပိယဒသိနော ရာဇော ဘာဂေ အံဗေ—ဟူသော စကားဖြင့် မိမိ၏ ကောင်းမှုကို သူတပါးတို့အား အဖို့ ပေးဝေခြင်း ပတ္တိဒါနကို ပြုလုပ်သင့်ကြောင်း ; သို့ ပြုလုပ်ခြင်းသည် ပုညကြိယာ တမျိုးဖြစ်၍ သူတော်ကောင်းတို့ ဝတ်တရား ဖြစ်ကြောင်း ပြ၏၊ ဤ၌ ပတ္တိဒါန—ဟူသည် မိမိ ကု—သိုလ်—အဖို့ကို သူတပါးအား ကိုယ်နှင့် အလားတူ အကျိုး ရရန် ပေးဝေခြင်းတည်း၊ ထိုသို့ ပြုလုပ်ခြင်းကြောင့် မူလ ကောင်းမှုရှင်မှာ ကုသိုလ်—အဆင့် ပွါးစီး၍ တပါးသူတို့—အားလည်း မိမိ အလား ကုသိုလ်မှု ပြုရန် နှိုးဆော် ရာ ရောက်၏၊ ယင်းသို့ အားဖြင့် မိမိ-သူတပါး၌ ၂—ကျိုးများ ဖြစ်သော ပုညကြိယာမှုကို သူတော်ကောင်းတို့ လိုက်နာ ပြုမှု သင့်ကုန်၏။

၁၁၊ ဥပဒေသ၊ ၊ထိုကျောက်စာကို ကြည့်ရှုရခြင်းဖြင့် အသောက မင်းတရား သည် တော ကစား လှည့်လည်ခြင်းထက် ကျောင်းကန်—ဘုရားသို့ လှည့်ရခြင်းက မြတ်ပုံကို သိတော်မူ၍ 'ကောသာ ပဒ—ဝီတိ ဟာရယာ, ကလံနဂ္ဃတိ သောဠသိ'' ဟူ သော ပါဠိတော်အရ, ကျောင်းသို့ သွားသဖြင့် ရရှိသော သဲဿဒဿန စသော အ-ကျိုးများစွာကို ရှာဖွေ ပြည့်နှံးခြင်းမှာ လည်း ပညာရှိတို့ နှစ်သိမ့်—ကြေနပ်ဖွယ် ရှိပေ၏၊ ထို စကားကို အနည်းငယ် ထင်ရှားစေဦးအံ့။

သတံ ဟတ္ထိသတံ အဿာ,
သတံ အဿတရီ ရထာ၊
သတံ ကညာ သဟဿာနိ,
အာမုတ္တ—မဏိ-ကုဏ္ဍလာ၊
ကောသာ ပဒဝီတိ ဟာရယာ,
ကလံ နဂ္ဃတိ သောဠသိံ॥.... ....

ဟူသော ဝိနည်း စူဠဝဂ္ဂ—သေနာ သန ခန္ဓက—ပါဠိတော်အရ, ဆင်—ရထား တသိန်း, မြင်း—ရထား တသိန်း, အသာတိုရဲ မြင်း-ရထား တသိန်း, သတို့သမီး ကညာ တ—သိန်း, ဤလေးသိန်း အပေါင်းသည် ကျောင်းကန်—ဘုရားသို့ သွားသူ၏, ခြေတလှမ်း အတွက် ရရှိသည့် အကျိုးကို ၁၆-စိတ် တစိတ်မျှ မမှီ ဟူသော အဓိပ္ပါယ်မှာ ကျောင်းသို့ သွားရောက်သည့် အတွက် ရရှိသော အကျိုးဖြင့် ပေါ်လွင် စေလေ—သည်၊ ဓမ္မ—ကထိက—ပုဂ္ဂိုလ်တို့ နည်းယူသင့်စွာ၊ ဤ ကျောက်စာဖြင့် ကျွန်ုပ်တို့ကို ဤသို့ ပြုလုပ်ရန် ညွှန်ပြ နည်းပေး၏။

၁၂၊ မှတ်ချက်၊ ၊ဤ အထက်ပါ စကား၏ အဓိပ္ပါယ်ကို ယခု ခေတ်တွင်, ‘ကျွန်တော် ကျောင်းကိုတော့ အလွန်· ရောက်လိုလှပါသည်၊ သို့သော်’ အိနပ် ချွတ်-ရန် ဝန်လေးလှသောကြောင့် သာ မရောက်နိုင် ဖြစ်ရပါသည်’ ဟု ဆိုလေ့ ရှိသူတို့ များများကြီး နှစ်လုံး သွင်း၍ ကျကျ—နန စဉ်းစားရန် လိုလှန်၏၊ ထိုစကား သင့်လှစွာ; ထိုသူတို့သည် မိမိတို့ လိုလားအပ်သည့် မချွတ် မယွင်း ပြီးစီးမည့် အကျိုးသာ ရှိခဲ့လျှင်, ဘိနပ် ချွတ်ရုံ မက, ဥကွောင်းနှင့် ပင် လာနိုင်ကြပေလိမ့်မည်၊ ထို အချက်များကို ထောက်ထား ဆင်ခြင်ကြ၍ ကျွန်ုပ်တို့သည် သဒ္ဓါ တရား ခေါင်းပါးသည့် လူကပ်ဖွဲ့များ မဖြစ်ရန် ဂရု စိုက်ကုန်ရာ၏။

## နဝမ—သီလာ' နုသာသနီ။

### ၉။ မူလပါဠိ။

ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဇဝံ အာဟ; အထိ ဇနော ဥစာ' ဝစံ မံဂလံ ကရောတိ, အာဗာဓေသု ဝါ အာဝါဟ—ဝိဝါဟေသု ဝါ ပဇောပဒါယေ †ဝါ ပဝါ-သမှိ ဝါ, ဧတာယေ စ အံနာယေ စ ဧဒိသာယေ ဇနော ဥစာ' ဝစံ မံဂလံ ကရောတိ၊ အတြ တု အဗကဇနိယော †ဗဟုကံ စ ဗဟုဝိဓံ စ ခုဒံ စ နိလထိယံ စ မံဂလံ ကလောတိ၊ သေ ကဋဝိယေ စေဝ ခေါ မံဂလေ အပ—ဖလကေ စ ခေါ။ အယံ တု ခေါ မဟာဖလေ မံဂလေ—ယေ ဓံမမံဂလေ၊ အတြ အယံ ဒါသ ဘဋကမှိ သမျာပဋိ ပတိ, ဂုရူနံ အပစိတိ, ပါဏေသု သံယမော, သမဏ—ဗြဟ္မဏာနံ ဒါနံ, ဧသေ စ အံနေ စ ဧတာရိသေ ဓံမမံဂလေ နာမ။

သေ ဝတဝိယေ ပိတုနာ ပိ,ပုတေန ပိ, ဘာတိနာ ပိ, သုဝါမိကေန ပိ, မိတ သံထုတေန, အာဝ ပဋိဝိသိယေန ပိ၊ အယံ သာဓု, ဣဒံ ကဋဝိယေ မံဂလံ အာဝ တသ အထသ နိဖတိယာ×; 'ဣမံ ကထ 'မိထိ၊ ယေ ဟိ×ကေဝလေ မံဂလေ သံ သယိကေ, သေ သိယာ' ဝ တံ အဌ နိဝဋေယ, သိယာ ပုန နော×ဣဟ လောကိ ကေ စ ဝ .... သေ၊ အယံ ပုန ဓံမမံဂလေ×အကာလိကေ၊ ဟံ စေ ပိ တံ အထံ န နိဝဋေတိ×ဟိဒ အထံ; ပရတာ အနံတံ ပုနံ ပသဝတိ×၊ ဟံစေ ပုန တံ အထံ နိ ဝဋေတိ, ဟိဒ တတော×ဥဘယေ လဒေ ဟောတိ၊ ဣဟ စ သေ အဌေ× ပရတာ စ အနံတံ ပုံဉ ပသဝတိ တေန ဓံမ—မံဂလေန။

၁၀။ ။မှတ်ချက်။ ။ပဇောပဒါယေ မှာ 'ပြီဇောတ္ထာဒနေ' ဟု သက္ကတဘာသာရေးကို ပြန်ကြည့် အတိုင်း ပဇူပ္ပါဒနေ' ဟူသော ပါဠိနှင့် ညီမျှကြောင်း သိရာ၏၊ ဤမှုကား ကာလသီကျောက်စာကို ပဓာန ထား၏၊ ကွဲပြားချက်များမှာ နိဖတိယာပုဒ် အခြား မှ၌ 'နိဝုတသို' စ ပုန' ဟု သဟဗာဇဂဋ္ဌိ, မာနသေရာတို့၌ ရှိ၏၊ ယေဟိ ပုဒ် အခြား မှ၌ "အဆိ စ ပိ ခုထံ သာဓု ဒါနံ သာဓု" ဟု ထို မူများ၌ ရှိ၊ 'ပုနနော' ပုဒ်နောင်,

## ၂၊ ကျောက်ပြား ၁၄ ချပ်, နဝမ ဩဝါဒ၊

ဝ ယာဒိသော ခံမဒါနေ ဝ ခံမာနုဂဟော စ သော' ဟုတို့ မူများတွင် ရှိ၏၊ထို့ပြင်လည်း ထိုမူများတွင် ပင် 'အယံ' ပုန ခံမ—ခံဂလေ' အခြားမှု၌ 'တုံ ခေါ် ပိတေန ဝါ သုဟ ဒယေန ဝါ ဉာတိကေန ဝါ' ဟု ၎င်း, နိဂ္ဂဝဋ္ဋေတိ အခြားမှု၌ 'သဟာယေန ပိ ဩဝါ ဒိတဗ္ဗံ တမှိ တမှိ ပကာရဏေ' ဟု ၎င်း, 'ပုနံ ပသဝတိ' အခြားမှု၌ 'တ္တဒံ ကိစံ တ္တဒံ သာဓူ ဣတိ ဣမိနာ သကံ' ဟု ၎င်း, တတော အခြားမှု၌ 'သဝဂံ အာရာဓယိတာဝေ ဣတိ ကိံဟိ စ ဣမိနာ' ဟု ၎င်း, ထို့ပြင် 'အဋ္ဌေ' ၏ အခြားမှု၌ 'ကတဗျတရံ ယထာ သဝဂါရမိ' ဟု ၎င်း, အသီးသီးပါရှိကြ၏၊ ထို မူတို့က ပါရှိသည့် အဓိပ္ပါယ်များမှာ ရှုပ်လှ၍ အဋ္ဌယတ္တိ မဆိုင်စပ်ရာများ လည်း ပါဝင် နေပြန် သောကြောင့် ၎င်းမူများပါ စကားတို့ကို ကျွန်ုပ်တို့ မထဲ့သွင်းပဲ ကာလသီမူကို သာ ပမာန ပြုထားခဲ့သည်။

# ၁၁၊ မြန်မာဘာသာပြန် ၉၊

### မင်္ဂလာ အစစ်နှင့် အတု၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿိ ဟု ဖွဲ့ချီ—ခပ်နှိပ် အရှင် မဟာကာသာပ မထေင်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်း—တရားမြတ်ကြီး ဤသို့ မိန့်မြွက်တော်မူပြီ—ဤလောက၌ အမြတ် အယုတ် မင်္ဂလာ ခွဲးယူသူ အစားစား ရှိကြ၏၊ ထိုသူများသည် အနာရောဂါ ကပ်ငြိရာ, လက်ထပ် ထိမ်းမြားရာ, သားသမီး မွေးဖွားရာ, အရပ် တပါးသို့ ခရီးယာယီ သွားလာရာ, ဤသို့သော အရာ အခါကာလများနှင့် ဤနှင့် အလားတူ အခြားသော အရာ အခါ ကာလများ၌ အမြတ်-အယုတ် အားဖြင့် အစားစားသော မင်္ဂလာတို့ကို ပြုလုပ်ကြ၏၊ အထူး တလည် မှတ်ဖွယ်ကား, ဤ မင်္ဂလာ အစားစားကို ပြုလုပ်ကြရာ၌ အောက် တန်းစား ကျရောက်ကြသည့်[† မိန်းမများ, သားသည် မအေများ, မိုက်မဲသော] သူ များသည် အထူးထူးအပြားပြား များစွာသော အေးသိမ်၍, အကျိုး မထူးလှသော မင်္ဂလာများကို ပြုလုပ်တတ်ကြလေသည်။

---

† ဤ အတွင်း စကားမှာ ကာလသီမူမှ တပါး, အခြား ဂိရနာရ စသော ကျောက်စာမူများ၌ ပါရှိသော အရာများ ဖြစ်သည် ဟု မှတ်ရာ၏။

ထိုသို့သော မင်္ဂလာတို့ကား ပြုလုပ်ထိုက်သည် ပင် ဖြစ်စေ, အကျိုးသွား နည်းပါးသော မင်္ဂလာတို့ သာ ဖြစ်ကုန်၏၊ စင်စစ် အားဖြင့် တရားတော် ဆိုင်ရာ သုံးဆယ့်ရှစ်ဖြာ မင်္ဂလာတို့သည် သာ အကျိုး စီးပွား ကြီးမား ထွန်းကားသော မင်္ဂလာတို့ ဖြစ်ကြကုန်သည်၊ ဤ မင်္ဂလာမှု ပြုလုပ်ရေး အရပ်ရပ် စကား၌ ဤတရားတော် ဆိုင်ရာ မင်္ဂလာကား, ကျေးကျွန် အစေ အပါးတို့ အပေါ်၌ ကောင်းမွန် ဖြောင့်မှန်စွာ ကျင့်ဆောင်ခြင်း, ဆရာ မိဘ ကြီးရင့်သူတို့အား ကျိုးနွံ ရိုသေခြင်း, သတ္တဝါတို့ကို သတ်ဖြတ် ညှင်းပန်းရေးမှ စောင့်စည်းခြင်း, ရဟန်း–ပုဏ္ဏား–သူတော် သူ–မြတ်တို့အား လှူဒါန်း–ပေးကမ်းခြင်း, ဤ ဆိုခဲ့ပြီး တို့သည် ၎င်း, ဤမှ တပါး ဤနှင့် အလားတူ အခြား ပြုလုပ်ဖွယ် တရား နာခြင်း, တရား ဆွေးနွေးခြင်း စသည်တို့သည် ၎င်း မင်္ဂလာ မည်ကုန်၏။

ထိုသို့သော မင်္ဂလာတို့ကို အမိ–အဘ၌ ၎င်း, သား-သမီး၌ ၎င်း, ညီ–အစ်ကို မောင်နှမ၌ ၎င်း, အသျှင်–သခင်နှင့် ကျေးကျွန်တို့၌ ၎င်း, အဆွေ-ခင်ပွန်း ချစ်ကျွမ်းဝင်သူတို့၌ ၎င်း, အိမ်နီးပါးချင်း အထိ ၎င်း, အချင်းချင်း ပြုကျင့်ကြသင့်လေသည်၊ ဤ–ညွှန်ပြခဲ့သည့် မင်္ဂလာများကား ပစ္စုပ် တမလွန်ကျိုး, ကိုယ်သူ့ကျိုး အတွက် ကောင်းမွန်လေသဖြင့် ဤသို့သော တရားတော် ဆိုင်ရာ မင်္ဂလာများကို မည်သည့်မင်္ဂလာမှ မည်သည့် အကျိုး ထွက်ပေါ်သည် ဟု ထိုထို မင်္ဂလာ၏ ကိစ္စ ပြီးစီးသည် တိုင်–အောင် ပြုကျင့် လိုက်နာသင့်ကြ၏၊ အထူး တလည် မှတ်ဖွယ်ကား, လောကတွင် မင်္ဂလာ ဟု သမုတ်ကြ သမျှ အကြွင်းမဲ့ ရှိသမျှ မင်္ဂလာ မျိုးတို့မှာ ယုံမှားဖွယ်နှင့် တကွ ဖြစ်ကြကုန်၏၊ ၎င်းတို့သည် ထိုညွှန်ကြား ရည်ဆောင်ချက် အကျိုးများ ပြီးစီးသော် ပြီးစီးရာ၏; ထိုသို့ မဟုတ် ရည်ဆောင်ချက် အကျိုး မပြီးစီးပဲသော် ဖြစ်ရာ၏၊ စင်စစ်ကား ၎င်းတို့သည် (ပြီးစီးသည် ဖြစ်စေ, မပြီးစီးသည်ဖြစ်စေ) ဤပစ္စုပ္ပ လောကီကျိုး အတွက်မျှ ဖြစ်ကြကုန်၏။

ထို့ပြင်, ဤ တရားတော် ဆိုင်ရာ သုံးဆယ့်ရှစ်ဖြာ မင်္ဂလာတို့ကား အခါကာလ မလင့် အခွင့် သင့်တိုင်း ကောင်းကျိုး စီးပွါးကို ဖြစ်စေကုန်လေသည်၊ အကယ်၍ ထို တရားတော် ဆိုင်ရာ မင်္ဂလာသည် ဤပစ္စုပ္ပ ဘဝ၌ ခံစားရနိုင်အောင် အကျိုး မပြီး ရှိပြန်စေကာ, တမလွန် လောက ထိုထို ဘဝ၌ အနန္တကောင်းကျိုးကို တိုးပွါး ကြီးကျယ်စေလေသည်၊ ထိုသို့ မဟုတ်ပဲ အကယ် စင်စစ် ပစ္စုပ္ပကျိုးကို ပြီးစီး

ဖေပြန်မှုကား, ထို မင်္ဂလာမှ ပစ္စက္ခ တမလွန် ၂ တန်သော ကောင်းကျိုးကို ရသည် ဖြစ်၍, ထို တရားတော်လာ သုံးဆယ့်ရှစ်ပြာ မင်္ဂလာ အတွက် ဤ ဘဝမှာ လည်း ကောင်းမြတ်၍, နောင်ဘဝမှာ လည်း အနန္တ ကောင်းကျိုး တိုးပွားလေသတည်း။

၁၂။ ဥပဒေသ —— ဤ ကျောက်စာ-အရ အသောက မင်းတရားကြီးသည် မင်္ဂလာ အတုနှင့် မင်္ဂလာ အစစ်ကို ခွဲခြား နားလည်သူ ဖြစ်၍, မင်္ဂလာအစစ်ကို သာ နှစ်နှစ်ကာကာ ကြိုက်ညီသူ ဖြစ်ကြောင်း ဗြိဟဒပတိ-ကျမ်း အရ ထိုထို မင်္ဂလာမှ ဇာတာ ခနီး လက် ဆိုင်ရာ ဂြိုဟ်စီး နက္ခတ် စသည်ကို အယူ သက်ဝင် မရှိကြောင်း ထင်ရှား၏၊ ထို့ပြင်, ကျွန်ုပ်တို့အား လည်း ထိုကဲ့သို့ပင် မင်္ဂလာတု မင်္ဂလာစစ် ၂-မျိုးတို့ အထူး အခြားကို သိနားလည်၍, မင်္ဂလာစစ်ကို သာ လိုက်နာကြလျက် မင်္ဂလာ တုကို ဂရု များစွာ မထားကြရန် နည်းညွှန် လမ်းပြကြောင်း ပေါ်လွင်လေ၏။

၁၃။ မှတ်ချက်၊ ၁၊ မင်္ဂလာ ဟူသည် "မင်္ဂလန္တိ"တိ မင်္ဂလာ; 'ဝုဒ္ဓိ' ဝိရုဠှိ' ဝေပုလ္လံ' အာပဇ္ဇန္တိ' တိ အတ္ထော" ဟု မင်္ဂလသုတ် အဋ္ဌကထာဖွင့်ချက် အတိုင်း ကြီးပွား ပြန့်ပြည့်ကြောင်း တိုးတက်ကြောင်း, တရားကို ဆို၏၊ ဤ လောက၌ အချို့ လူတို့သည် ပူပန်သည်, ဆင်းရဲသည်, မွဲသည်, ငိုယိုသံ, မောင်းမဲသံ စသည် ထိုထို အကြား-အမြင် ကို စွဲ၍, မင်္ဂလာမဲ့, မင်္ဂလာရှိကို သမုတ် မှတ်သား၍, အပြစ်—အကျိုး စွဲယူကြကုန်၏၊ ထို နည်း အလားတူ အိပ်မက်, လက္ခဏာ, ဥပါတ်—မြေလှုပ်ခြင်း, ပျားစွဲခြင်း, ငှက်နားခြင်း စသည် အရာပေါင်း များစွာကို စွဲမှတ်ကြကုန်၏၊ ထိုသို့ မှတ်တိုင်း တစ်-တရာ အမင်္ဂလာ အသံကို ကြားရသော်, မြင်ရသော်, တစ် တရာ ပင် ဖြစ်ပေါ်ခဲ့သော်, ၎င်း အတွက် မကောင်းကျိုး ခံစားရတော့မည် ဟု ယုံကြည် စွဲမှတ်ကြ၏။

ဘုရားရှင် လက်ထက်တော် အခါ, ရာဇဂြိုဟ် မြို့သား ပုဏ္ဏား တဦးမှာ သေတ္တာ တွင် ထားသော အဝတ်စုံကို ကြွက်ခဲ့သဖြင့် ၎င်းကို သုံးဆောင်သူ မှန်သမျှ ပျက်စီးရ မည် ဟု စွဲလမ်းလျက် '၎င်းကို တုတ်ဖြင့် ကိုင်၍, စွန့်ပစ်ခဲ့' ဟု မိမိ သားကို စေခိုင်း စွန့်ပစ်စေခဲ့သပြီ၊ ၎င်းကို ဘုရားရှင် ကောက်ယူ သုံးဆောင်တော်မူကြောင်း ကောနီပါတ် မင်္ဂလဇာတ်၌ ဆို၏၊ ထိုနှင့် စပ်၍,

“ယဿ မင်္ဂလာ သမူဟတာ,
ဥပ္ပါတာ သုပိနာ စ လက္ခဏာ စ၊
သ မင်္ဂလ—ဒေါသ—ဝီတိဝတ္တော,
ယုဂယောဂါဓိဂတော န ဇာတု ‘မေတိ၊”

ဟူသော ဂါထာ ဖြစ်ပေါ်၏၊ ထို ဂါထာတွင် နောက်ဆုံး ပါဒကို ထောက်က ရဟန္တာ သာ ထိုသို့သော မင်္ဂလာ ဥပါတ်, အိပ်မက်, လက္ခဏာ စသည်ကို စွဲယူခြင်း ဒေါသမှ ကင်းလွတ်၏—ဟု ဆိုရန်ရှိ၏။

သို့ရာတွင်, ထို ဂါထာ ပထမပါဒ အဓိပ္ပါယ်မှာ ထိုသို့သော မင်္ဂလာကို မဂ်ဖြင့် ဖြတ်မှ ဟု ရဟန္တာအတွက် ယူအပ်သော အဓိပ္ပါယ် ရှိသကဲ့သို့, ဤသို့ သုတ်ယုတ်မည်, ဤသို့ ဖြစ်ပွားမည် ဟု စိတ် ဖြတ်နိုင်သူတို့အား လည်း ထိုမင်္ဂလာ ဒေါသ မရရှိ ဟူသော အဓိပ္ပါယ်ကို သိအပ်၏၊ ဥပါတ်, အိပ်မက်, လက္ခဏာတို့မှာ လည်း ထို့အတူ ပင် တည်း၊ သို့ ရာတွင်, သတ္တဝါတို့မှာ ရှေးကာလက အဆက်ဆက် စွဲလမ်းခဲ့ကြသော မိဘ စသည် တို့မှ အဆင့်ကြားဖြင့် စွဲယူချက် ပြင်းစွာ ဖြစ်တတ်ကုန်၏၊ ထို့ကြောင့် “သေ ကဋဝိယေ စေဝ ခေါ မံဂလေ, အပဖလဏေ စ ခေါ”—ဟု ထိုမင်္ဂလာတို့ကို များစွာ အကျိုး မရှိ ကြောင်း အသောကမင်း ဆို၏၊ ထို့ကြောင့် ထိုသို့သော မင်္ဂလာတို့ကို စွဲယူသည် ပင် ဖြစ်စေ, အကျိုး ကြီးသော မင်္ဂလာစစ်တို့ကို ပြုရမည် ဟုလို၏၊ ထို့ကြောင့်, အယံ သာဓု, ဣဒံ ကဋဝိယေ မံဂလံ အာဝ တသ အဌသ နိဗတိယာ၊”——ဟုဆို၏။

ဒသနိပါတ် မဟာမင်္ဂလ ဇာတ်၌ ကား (၁) သတ္တဝါ အားလုံးကို မေတ္တာ ထားခြင်း, (၂) လူ အားလုံးအား သည်းညည်း ခံခြင်း, (၃) သူငယ်ချင်းတို့အား မထေမဲ့ မပြုခြင်း, (၄) မိတ်ဆွေတို့အား မပြစ်မှားခြင်း, (၅) အစွယ်တူ မယား ကောင်းကို ရခြင်း, (၆) မင်းစသောတို့ အရည် အခြင်းကို သိမြင်—ချီးမြှောက် တတ်သော မင်းကို ရရှိ မှီဝဲ ရခြင်း, (၇) နုတ်ရှာ လားကြောင်း ဒါန ပြုလုပ်ရခြင်း, (၈) နောက်ဆုံး၌ အကျင့် စင်ကြယ်သော ရဟန္တာတို့ ရအပ်သော အရိယ-သစ္စာကို ရရောက်ခြင်း ဟု ပစ္စက္ခ-တမလွန်, ဘဝဆုံးတိုင် ကောင်းမွန်သော မင်္ဂလာကြီး ရှစ်ပါး လာရှိကုန်၏။

သုတ္တနိပါတ် မင်္ဂလသုတ်၌ လည်း, သူမိုက်ကို မပေါင်းဖက်ခြင်း, ပညာရှိကို ပေါင်းဖက်ခြင်း, ပူဇော်ထိုက်သူအား ပူဇော်ခြင်း, သင့်တော်သောအရပ်၌ နေထိုင်ခြင်း, ရှေးက ပုညကံ ရှိခြင်း, ကိုယ်-စိတ်ကို ကောင်းစွာ ထားရှိခြင်း, အကြား—အမြင်များခြင်း, အတတ် တတ်မြောက်ခြင်း, မိမိ ကျင့်ဝတ်၌ နားလည်ခြင်း, စကား ကောင်းစွာ ပြောတတ်ခြင်း, အမိ-အဘတို့အား လုပ်ကျွေးခြင်း, သား-မယားကို ထောက်ပံ့ခြင်း, သင့်တော်သော အလုပ်ကို လုပ်ခြင်း, ပေးကမ်းခြင်း, တရား ကျင့်ခြင်း, ဆွေမျိုးတို့အား ချီးမြှောက်ခြင်း, အပြစ်မဲ့သော အလုပ်ကို လုပ်ခြင်း, မကောင်းမှုကို ကြဉ်ရှောင်ခြင်း, သေအရက် မသောက်ခြင်း, ကုသိုလ်တရားတို့၌ မမေ့လျော့ခြင်း, ရိုသေ ကျိုးနွံခြင်း, ရောင့်ရဲ-တင်းတိမ်ခြင်း, ကျေးဇူး သိတတ်ခြင်း, သင့်တင့်သော အခါ၌ တရားနာခြင်း, သည်းခံခြင်း, ဆိုပြောလွယ်ခြင်း, ရဟန်း သူတော် သူမြတ်တို့ကို ဖူးမြော်ခြင်း, သင့်တော်သော အခါ၌ တရားဆွေးနွေးခြင်း, စိတ်စင်ကြယ်ရန် ကျင့်ခြင်း, မေထုန်မှ ကြဉ်ရှောင်ခြင်း, သစ္စာ လေးပါးကို သိမြင် ခြင်း, အရိယ-မဂ်ဖိုလ်ကို မျက်မှောက် ပြုခြင်း, လောကဓံ တရားတို့၌ မတုန်လှုပ်ခြင်း ဟု မင်္ဂလာ တရား ၃၈ ပါး လာကုန်၏။

ယင်းသို့ ဆိုခဲ့သော မင်္ဂလာကြီး ရှစ်မျိုးနှင့် မင်္ဂလာ ၃၈-မျိုးတို့ကို သာ အသောက မင်းကြီးက ပြုလုပ်ရန် တိုက်တွန်းလေသည်၊ ဤကျောက်စာ၌ အသောက မင်းကား ထိုထို မင်္ဂလာမျိုးကို မပြုလုပ်ရ ဟု မဆိုချေ၊ သို့ရာတွင်,

ဧတာနိ ခေါ် သောဠာနာနိ လောကေ,
ဝိညူ-ပသတ္ထာနိ သုခ' ဖြယာနိ၊
တာ 'နိစ ဝေဝတေ နရော သ-ပညော,
န ဟိ မင်္ဂလေ ကိဉ္စန 'မတ္ထိ သစ္စံ'။

ဟူသော ဒသနိပါတ် မဟာမင်္ဂလ ဇာတ်လာ ဂါထာ အရ, မင်္ဂလာကြီး ရှစ်ပါးနှင့် သုတ္တနိပါတ် မင်္ဂလသုတ်လာ မင်္ဂလာ ၃၈-ပါးတို့ ကို သာ ပြုရန် တိုက်တွန်းခြင်းဖြင့် လောက လူတို့ ခွဲးယူသော ဥပါတ်, အိပ်မက်, လက္ခဏာ စသော မင်္ဂလာများကို

'မစွဲးလမ်းကြလင့်' ဟု ဆိုလိုကြောင်း သိရ၏၊ ထို သို့သော လောက လူတို့ စွဲးယူ—သော မင်္ဂလာမျိုး၏ မမှန်ကန်ကြောင်းကို လည်း ဤ ဂါထာ နောက်ဆုံး ပါဒဖြင့် သိအပ်၏၊ 'မင်္ဂလာ မှာ မှန်ရာ စိုးစိ မငှ်နိုင်ချေ'—ဟု အဓိပ္ပါယ် ဆို၏။

မှတ်ချက် ၂ ယခု အခါ လူအများတို့က ပုသိုး, ပထိုး ဟု ခေါ်ဝေါ် ရေးသား ကြသော စကားမှာ ဗုဒ္ဓေါ ဟူသော ပါဠိသဒ္ဒါမှ မွန် လူမျိုးတို့ အဖတ် အရွတ်သံအား ဖြင့် ဖောက်ပြန်လာ၏၊ ပုံမှာ သမတ-ဓမ္မရာမမှ သမိုတ်စေတော ရာမ x သမိန်တောရာမ ဟု ဖောက်ပြန်လာခြင်း ကဲ့သို့တည်း၊ ထို့ကြောင့် အမှန် အတိုင်း ပုထိုး အစား ဗုဒ္ဓိုး ရေးသားသင့်သည်၊ သို့ ဆိုခဲ့တိုင်း ဗုဒ္ဓေါမှ ပုသိုး ဟူသော မြန်မာခေါ် ဖြစ်လာပုံကို ဆင်ခြင်လျှင်, ဗုဒ္ဓ မှ ဗုဓား; ၎င်းမှ ဖုရား, ၎င်းမှ ဘုရား ဟု ပြောင်းရွှေ့လာသဖြင့် ဗုဒ္ဓ—မှ ဘုရား ဖြစ်ဟန်ကို ကြံစည်ကြခြင်းမှာ သဒ္ဒယုတ္တိ မရှိကြောင်း သိရ၏၊ အ—ကြောင်းကား မွန်လူမျိုးတို့ ရွတ်သံမှာ ဗုကို ပု, ဟု ၎င်း, ဓကို ထ ဟု၎င်း ဆိုလေ့ ရှိ၏၊ စင်စစ်ကား မွန်လူမျိုးတို့သည် တတိယက္ခရာ ဟူသမျှကို ပထမက္ခရာနှင့် ၎င်း, စတုတ္ထက္ခရာ ဟူသမျှကို ထို ဆိုင်ရာဝဂ်၏ ဒုတိယက္ခရာနှင့် ၎င်း ရွတ်ဖတ်တတ်ကုန်၏။ [အခန်း ၅- ကျောက်စာ ၆, မှတ်ချက် ၈-(ခ)၌ ကြည့်]

# ဒသမ သီလာ နုသာသနီ၊

## ၁၀၊ မူလပါဠိ၊

ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ယသော ဝါ ကိတိ ဝါ န မဟထာဝ ဟ မနတိ၊ အညတ ယံ ပိ ယသော ဝါ ကိတိ ဝါ ဣဆတိ, တဒတွာယေ အာယတိ-ကေ စ မေ ဇနေ ဓံမ—သုသုသံ သုသူသတု မေ တိ, ဓံမဝုတံ ဝါ အနုဝိဓိယတု မေ'တိ, တေကာယေ ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ယသော ဝါ ကိတိ ဝါ ဣဆတိ၊ ယံ စ ကိံ'စိ ပလာကမတိ ဒေဝါနံ ပိယေ ပိယဒသိ လာဇာ; တံ သဝံ ပါလတိကာယ ဝါ, ကိ'တိ သကလေ အပပလိသဝေ ဟုဝေယာ'တိ၊ ဧသ တု ပလိ-သဝေ; ယံ အပုံနံ၊ ဒုကလံ စ ခေါ ဧတံ ခုဒကေန ဝါ ဇနေန, ဥသဋေန ဝါ အညတ အဂေန ပလာကမေန၊ သဝံ ပလိတိဇိတု ဧတ စ ခေါ ခုဒကေန ဝါ ဥသဋေန ဝါ ဒုကလံ။

၁၁၊ မှတ်ချက်၊ ၊'ဥသဋ' ပုဒ်ကား 'သက္ကတ ၌ ဥဿတ'ဟု မုဒ္ဓဇ-သ, ဒန္တဇ-တနှင့် ထင်ရှားသော ပုဒ် ဖြစ်၏; ပိဋကတ်တော်၌ မထင်၊ ဟိန္ဒီဘာသာ၌ လည်း ယခု ကျောက်စာမူ အတိုင်း ပင် တာလုဇ ၡ နှင့် ထင်ရှား၏။

# ၁၂။ မြန်မာဘာသာပြန် ၁၀၊

## အကျော်အစောကို သူတပါးလိုက်နာစေရန် လိုလားရုံ၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿိ ဟု ဝှဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်းတရား မြတ်သည် [အလှူဒါန စသည် အတွက် ရအပ်သည့်] အခြွေ-အရွေကို ဖြစ်စေ, အကျော် အစောကို ဖြစ်စေ, မြင့်မြတ် ထူးကဲသော အကျိုးကြီး ဖြစ်သည် ဟု ထင်မြင် စွဲယူချက် နှစ်လုံးထား ရှိတော် မမူ၊ ထိုဆိုခဲ့သည့် အခြံအရံ အကျော်အစောများကို လိုလား တောင့်တ ခြင်းမှ ကင်းစင် ရှောင်ရှားကာ သာ, စင်စစ်လျှင် ဤပစ္စုပ္ပန် ဘဝ၌ နောင်အခါ ငါ၏, တိုင်းသား ပြည်သူ အပေါင်းသည် တရား နည်းကျ လိုက်နာ ကျင့်ဆောင်ကြစေသော ဟု ၎င်း, ငါ မင်းတရား၏, တရားနှင့် ညီသော အကျင့်ကောင်းကို နောက်ဆပ် လိုက်နာ ပြုလုပ်ကြစေသော ဟု ၎င်း, ဤမျှ အကျိုးသွားကို တောင့်တမြော်လင့်၍, သာ မင်း တကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿိ ဟု ဝှဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ် မြတ်၏, ဗျာဒိတ်တော်မြတ်ကို ခံယူ ရရှိသော အသောက မင်းတရား မြတ်သည် အခြွေ-အရံကို ၎င်း, အကျော် အစောကို ၎င်း ကိုလားတော် မူရချေ၏။

စင်စစ်သော်ကား, မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿိ ဟု ဝှဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်း တရားမြတ်သည် [ဒါနရေး သီလရေး ဆိုင်ရာ] အရပ်ရပ် ပြုလုပ် အားထုတ်သမျှ အားလုံးသည် မည်သို့သော နည်းဖြင့် ဤလောက ပြစ်ကြေး ဘေးရန် ဥပဒ္ဒဝေါ အားလုံး ကင်းစင်ခြင်း ဖြစ်နိုင်ရာ သနည်း ဟု ဤ လောက ၃ ပါးကို လွန်မြောက်၍, ဘဝငြိမ်းရေး နိဗ္ဗာန် ကမ်းသို့ ဆိုက်ရောက်ရန် သာ ဖြစ်ပေ၏၊ စိစစ် ဆိုပြ ပြန်သော် ,ဒါန သီလ စသော ကောင်းမှု တပါး ဒုစရိုက်-ဒုရာစိဝ အလုပ်များသည် ကေန် အားဖြင့် နိဗ္ဗာန်၏, အနှောင့်-အရှက် သံသရာတွင်း နက်ကြောင်း ဘေး ဥပဒ်များ ဖြစ်လေသည်၊ အမှန်ဆိုလျှင် ဤ ဒုစရိုက်မှ ကြဉ်ရှောင်ခြင်း, သုစရိုက်ကို ပွားစီး စေခြင်းသည် သေးသိမ် ယုတ်ကျသူ့ အတွက် ဖြစ်စေ, ကြီးကျယ် မြင့်မြတ်သူ့, အတွက် ဖြစ်စေ ဤသို့ စွန့်စား ပြုလုပ်ရန်

ထက်သန်သော လုံ့လနှင့် ကင်း၍ ခဲယဉ်းစွာ ဖြစ်ချေ၏၊ မှန်လှ၏; ယင်းသို့ဒုစရိုက်မှ ကြဉ်ရှောင်၍ သုစရိုက်ကို ပြုကျင့်ခြင်းသည် ယုတ်နိမ့်သူ ဖြစ်စေ, မြင့်မြတ်သူ ဖြစ်စေ ဖြစ်မြောက် ခဲလှသည် သာ တည်း။

၁၃။ ဥပဒေသ။ ဤကျောက်စာဖြင့် အသောက မင်းတရားသည် ဒါန, သီလ စသော ပုညကြိယာ တရားစုကို မည်သို့ ပြုလုပ် ကျင့်ဆောင်သင့်သည်; မည်သို့ကား မပြုလုပ်သင့်; မည်သို့ ပြုလုပ်လျှင်, အကျိုး မည်သို့ သွားသည် ဟု ဝဋ္ဋ, ဝိဝဋ္ဋ အပ္ပဖလ မဟပ္ဖလ များ၌ ကောင်းကောင်း ကျွန ဗုဒ္ဓဘာသာ အဝင်ဝသူ ပုဂ္ဂိုလ်ကြီး တဦး ဖြစ်ကြောင်း သိရလေသည်၊ ၎င်းဖြင့် ကျွန်ုပ်တို့အား လည်း ဒါန စသော ပုညကြိယာ ပြုလုပ်ရေး၌ ယသ–ကိတ္တိ စသော အပ္ပဖလကို မရည်ရော်ကြပဲ, ဝိဝဋ္ဋ ကမ္မိမုတ္တစာဂီ ဖြစ်ကြရန် နည်းသမ်းကို ညွှန်ပြလေသည်၊ ထို့ပြင်, ပုညကြိယာ မည်သည်ကို၊ မုဆိုး တံငါ စသော ယုတ်နိမ့်သူ ဖြစ်စေ, သေဌေးမင်း ရဟန်း စသော မြင့်မြတ် ကြီးကျယ်သူ ဖြစ်စေ ပြုလုပ် ဖြစ်ပွားစေရန် မလွယ်လှသောကြောင့် ကြီးမားသော လုံ့လ အမှတ်တရ ပြုလုပ်ရန် လည်း ကျွန်ုပ်တို့အား တိုက်တွန်းလေသည်။

၁၄။ မှတ်ချက်။ အထူး မှတ်ဖွယ်ကား 'သေ တု ပလိဘဝေ, ယံအပုံနံ'-ဟူသော စကားဖြင့် ပုည မပြုခြင်းသည် အပုည ဖြစ်ကြောင်းကို ပြ၏၊ ဤ၌ ပုည ဟူသည် ပုညကြိယာ ၁၀ ပါးလုံးကို သိအပ်၏၊ ထို့ကြောင့် 'အဒါန–မပေးကမ်းခြင်း, အသီလ အကျင့်–သီလမဲ့ခြင်း, အဘာဝနာ သမထ, ဝိပဿနာ မပွားများခြင်း, အနာ ပစာယန, မရှိသေ မကျိုးနွံခြင်း, အဝေယျာဝစ္စ-ဆရာ-မိဘ မိတ္တသင်္ဂဟ စသည် တို့၏ ကိစ္စ ကြီးငယ်ကို မပြုခြင်း, အပတ္တိဒါန-မိမိ ပြုသော ကောင်းမှု အဖို့ကို သူ့အား မပေးဝေ ခြင်း, အပတ္တာနုမောဒန-သူတပါး၏ ကောင်းမှု–ကုသိုလ်ကို ဝမ်းမြောက်စွာ သာဓု မခေါ်ခြင်း, အဓမ္မဿဝန-တရား မနာခြင်း, အဓမ္မ ဒေသနာ-မိမိ သိသမျှ တရားကို သူ့အား မဟောပြခြင်း, အဒိဋ္ဌိဇုကမ္မ-အယူ-အစွဲ မဖြောင့်မှန်ခြင်း– ဤ ဆယ်မျိုးမှာ အပုညကြိယာ-မကောင်းမှု ဖြစ်ကြောင်း ဟု သိစေ၏; ဗုဒ္ဓဘာသာ အဝင်ဝသူ ပုဂ္ဂိုလ်ကြီး တဦး ဖြစ်ပေစွ။

## ကောဒသမ သိလာ' နှသာသနီ၊

### ၁၁၊ မူလပါဠိ၊

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ ဧဝံ အာဟ; နတ္ထိ ဧတာရိသံ ဒါနံ, ယာဒိသံ ဓမ္မ ဒါနံ, ဓမ္မ သံသ္ထဝေါ ဝါ ဓမ္မ သံဝိဘာဂေါ ဝါ ဓမ္မ သံဗံဓော ဝါ၊ တတြ ဣဒံ ဘဝတိ ဒါသ–ဘဋကမှိ သမျာပဋိ ပတိ, မာတာ ပိတုသု သာဓု သုသူသာ, မိတ–သံထုတ-နာတိ ကျာနံ, သမဏ ဗြာဟ္မဏာနံ သာဓု ဒါနံ, ပါဏာနံ အနာရံဘော သာဓု၊ ဧတံ ဝတဗျံ ပိတိနာ ပိ ပုတြေန ပိ မာတိနာ ပိ သွာမိကေန ပိ မိတြ-သံ-ထုတ–ဉာတိကေန ပိ အာဝ ပဋိဝိသိယေန ပိ၊ ဣဒံ သာဓု, ဣဒံ ကတဗျံ၊ သော တထာ ကရံတော ဟိဒ လောကိကျေ စ အာရဓော ဟောတိ, ပရတြ စ အနံတံ ပုံဉံ ပသဝတိ တေန ဓမ္မဒါနေန။

## ၁၂၊ မြန်မာဘာသာပြန် ၁၁၊

### ဓမ္မဒါနမြင့်မြတ်ကြောင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဖွဲ့ချီ ခပ်နှိပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်း–ကြီးမြတ်သည် ဤသို့ မိန့်မြွက်တော်မူလေပြီ၊ တရားတော် ကြီးပွားရေး အတွက် လှူဒါန်းခြင်း, တရားတော် တိုးပွားရေး အတွက် သာ ဆက်ဆံ–ရောနှောခြင်း, တရားသဖြင့် သာ ခွဲခြမ်း–ဝေဖန်ခြင်း, တရားနှင့် သာ စပ်ဆိုင်ခြင်း– ဤ အရေးများနှင့် ပတ်သက်သော လှူဒါန်းခြင်းမျိုးနှင့် တူတန် ညီမျှသော ပေးကမ်းခြင်း ဒါန–မည်သည် မရှိ၊ ထို အရေး၌ ဤ ဆိုလတ္တံ့ကား တရားကျ ဆက်ဆံနည်း ဖြစ်၏၊–ကျွန်–အမှု–လုပ် သူခစားများ၌ ကောင်းမွန်စွာ ကျင့်ခြင်း, အမိ–အဘတို့ စကားကို ကောင်းမွန်–စွာ လိုက်နာခြင်း, အဆွေ–ခင်ပွန်း ချစ်မြတ်နိုးသူ, ဉာတိ–သင်္ဂဟတို့၏, စကားကို

နာယူခြင်း, ရဟန်း - ပုဏ္ဏား - သူတော် - သူမြတ်တို့အား ကောင်းစွာ ကြည်ဖြူ ပေးလှူခြင်း, သတ္တဝါများကို မသတ်ဖြတ် မညှဉ်းဆဲ မူ၍, သူတော်ကောင်း ဖြစ်ခြင်း— ဤသည်လျှင် တရားမှန်သော ဆက်ဆံရေး ဓမ္မဒါန—တည်း။

ယင်းသို့ ညွှန်ပြခဲ့သည့် တရားနှင့် ညီညွတ်စွာ ဆက်ဆံခြင်း ဓမ္မဒါနကို အမိ—အဘ သား-သမီး အရှင်သခင် အဆွေ—ခင်ပွန်း ချစ်ကျွမ်းဝင်သူ, ဆွေမျိုး—သားခြင်းတို့ အပေါ်၌ ၎င်း, အိမ်နီး - ဝန်းကျင် ဖြစ်သူတို့ အပေါ်တွင် ၎င်း ကျင့်ဆောင် လိုက်နာသင့် လေသည်၊ ဤ ဓမ္မဒါနမှာ ကောင်းမှန်လှ၍, ၎င်းကို ပြုကျင့် အပ်လေသည်၊ ဤ သည့် ဓမ္မဒါနကို လိုက်နာ ပြုကျင့် သူသည် ဤပစ္စက္ခ ဘဝ၌ လည်း ချမ်းသာကို နှစ်လို ဝမ်းမြောက်ရ၍, နောက် ဘဝ၌ လည်း ထို ဓမ္မဒါန တရားကျ လှူဒါန်းရေးဖြင့် သာ မြောက်များစွာ ကောင်းမှုများ တိုးပွား လေရာ သတည်း။

၁၃။ ဥပဒေသ၊ ဤ ကျောက်စာ အရ အသောက မင်းကြီးကြီး ဆိုလိုရင်း မှာ တရားတော် လာတိုင်း လိုက်နာခြင်းသည် ဓမ္မ-ဒါန ဖြစ်၏၊ ထို ဓမ္မ-ဒါနမှာ လည်း မင်္ဂလာ တရား စသည် လာတိုင်း မိမိနှင့် ဆိုင်ရာ စပ်ရာ၌ ကျင့်ဆောင်ရေး ပင် ဖြစ်၏၊ ထိုသို့ အားဖြင့် လူတိုင်း ပင် နေရာတိုင်းဝယ် မိမိတို့ ဝတ်၌ တည်ခြင်းဖြင့် ဓမ္မ-ဒါန ဖြစ်လေသော၊—ဟု၏၊ ဤ စကားဖြင့် ငါတို့မှာ လူဖြစ်၍, ရဟန်းတို့ ကဲ့သို့ သာသနာ ပွားစီးရေး မလုပ်နိုင်ကြ သည်ဖြင့် ခဲခက်သော ဓမ္မ—ဒါနကို သာ ကြံစည် တွေးတော နေကြခြင်းမျိုး မပြုလုပ်ကြပဲ ဆိုင်စပ်ရာ မိမိတို့ ဝတ်ကို လိုက်နာခြင်းသည် ပင် ဓမ္မ-ဒါန ဖြစ်သည်၊ ထိုသို့သော ဓမ္မ-ဒါနနှင့် ကာင်း၍, မင်္ဂလာ ဖိုလ်ထိ ဖြစ်သော သန္နိဋ္ဌိက ဓမ္မ-ဒါနကြီးများနှင့် လည်း ဝေးလံလှသည် ဟု ညွှန်ပြ၏၊ မှန် လည်း မှန်၍, လွယ်ကူစွာသော ဓမ္မ ဒါနကို ပေါ်ပြ-ပေါ်လွင်စေသော အသောက မင်း ကြီးအား များများကြီး ကျေးဇူး တင်သင့်ကုန်၏။

၁၄။ မှတ်ချက်၊ ဘုရားရှင်သည် ဓမ္မာ' နုဂ္ဂဟ, ပစ္စယာ' နုဂ္ဂဟ နှစ်မျိုးတွင် ဓမ္မာ' နုဂ္ဂဟ သာ အမြတ်ဖြစ်ကြောင်း; သို့ မဟုတ်, အာမိသဒါန ဓမ္မဒါန ၂ မျိုးတွင် ဓမ္မဒါန သာ မြတ်ကြောင်း, အာမိသ-ဒါယာဒ, ဓမ္မ—ဒါယာဒ ၂ မျိုးတွင် ဓမ္မ—ဒါယာဒ သာ မြတ်ကြောင်းကို အစဉ်အတိုင်း ကောက်ထုတ်၍, ဒီဃနိကာယ် — မဟာဝဂ် ပရိနိဗ္ဗာန သုတ်, မူလ ပဏ္ဏာသ-ဓမ္မ-ဒါယာဒ သုတ်တို့၌ ဟောတော် မူ၏၊ အနုဂ္ဂဟ

ဟူသည် ခြီးမြှောက်ခြင်း, ကြီးပွားအောင် ပြုခြင်းတည်း၊ ဒါန ဟူသည် ပေးကမ်းခြင်းတည်း၊ ၎င်း ၂-မျိုးမှာ ပေးစွန့်ခြင်း လက္ခဏာ အားဖြင့် ခြားနားခြင်း မရှိစေကာ; စေတနာသွား အားဖြင့် အနုဂ္ဂဟ စေတနာက ခကောင်းမြတ်၏၊ဒါယာဒ ဟူသည် အမွေဆက်ခံခြင်းတည်း၊ အသောက မင်းကြီးက, 'အို အရှင် ဘုရားတို့, တပည့်တော်သည် အသောကာရုံ ကျောင်းတော်နှင့် တကွ စေတီ-ကျောင်းကန်, ရေတွင်း ရေကန် ရှစ်သောင်း လေးထောင် စသည် မြှောက်မြားစွာ ပြု၍ တရားအမွေခံ ထိုက်ပါ၏ လော? ဟု သံဃာတော်အား မေး လျှောက်လေပြီ။

အရှင် မောဂ္ဂလိ ပုတ္တတိဿ မထေရ်မြတ်က, 'ဒကာတော်သည် ပစ္စယ ဒါယကာမျှ ဖြစ်သေး၏; ဓမ္မဒါယာဒ မဖြစ်သေး' ဟု ဖြေကြားတော်မူလေပြီ၊ သို့ ဖြေဆိုချက်မှာ လှူဒါန်းခြင်းသည် ဓမ္မ-ဒါန တရားလမ်းကြောင်း အတိုင်း ကျင့်ခြင်း မဖြစ်၍, မဟုတ်; ဒါနကား ဘုရား—အရိယာတို့ ကျင့်ထုံး ပင် ဖြစ်၏ ဟု တရားလမ်းကြောင်းကို လိုက်နာ ပြုကျင့်လျှင်, ဓမ္မဒါန, ဓမ္မာနုဂ္ဂဟ ပင် ဖြစ်၍, ဓမ္မဒါယာဒ ဖြစ်သည် ပင်၊ သို့ ရာတွင်, ထိုစဉ်က အသောက မင်းကြီး၏ အသိဉာဏ်မှာ ထို စကားအထိ နားလည်နိုင်ရန် မရှိသေး ; ထို့ကြောင့် 'ဓမ္မဒါယာဒ ဖြစ်အောင် မည်သို့ ပြုရပါမည်နည်း' ဟု မေး လျှောက်ချက်ကို 'ကိုယ်တိုင် တရား ကျင့်နိုင်က ကျင့်ရမည်၊ သို့ မဟုတ်, ကိုယ်စား ကျင့်စေရမည်' ဟူသော အဓိပ္ပါယ်ဖြင့် 'မိမိ သားကို ကိုယ်စား ကျင့်စေသော်, ဓမ္မဒါယာဒ ဖြစ်သည်' ဟုဖြေဆိုတော်မူလေပြီ။

ယင်းသို့ မထေရ်မြတ် ဖြေဆိုသော စကားကိုသာ နားလည်ကြ၍, ၎င်း အာဘော်ကို မသိကြသဖြင့် များစွာသော ရှင်—လူတို့သည် ထိုခေတ်ခါလုသော ဓမ္မဒါယာဒကို သာ နားလည်,သိမှတ်ကြ၍, ရဟန်း အဖြစ်ကို ကိုယ်တိုင်သော်ပြုရမည်; သို့မဟုတ်, ကိုယ်စားသော် ပြုရမည်; သို့မှ ဓမ္မဒါယာဒ ဖြစ်သည် ဟု ရဟန်းခံ, ရှင်ပြု အနုမောဒက ဓမ္မကထိကတို့ စကား အတိုင်း သာ အသဲစွဲ နားလည် ရှိနေကြကုန်၏၊ အသောက မင်းကြီးကား ထိုသို့သော ဓမ္မဒါယာဒ, ဓမ္မဒါန, ဓမ္မာနုဂ္ဂဟ ဖြစ်ပုံကို ကျနသည် တိုင်အောင် နာယူ သင်ကြားသဖြင့် သို့ ဆိုခဲ့တိုင်း တရားမှန် ကျသော ဓမ္မဒါယာဒ စသည်ကို နားလည် လေသည်၊ ထို့ကြောင့် ထိုထို မင်္ဂလာ—တရား, ဂိဟိ—ဝိနည်း—တရား လာရှိတိုင်း မိမိက ပြုသင့်သော ဝတ်—အကျင့်ကို နှစ်လုံးသွင်း၍, ပြုကျင့်ရမည်၊ ဥပမာ မိမိ သား • မယား

အား အဝတ်-ပုဆိုး စသည် ပေးကမ်းလျှင်, ပုဏ္ဏ-ဒါရသော သင်္ဂဟော အတိုင်း လိုက်နာသ
ဟု နှစ်လုံး ထားခြင်း စသည် ကဲ့သို့တည်း။

သို့ ညွှန်ပြခဲ့ချက်ဖြင့် ဘုရားရှင် ပရိနိဗ္ဗာန် စံမည့် အခါတွင် 'ပဏ္ဍယာ' နှင့်ဟ
သို့ မဟုတ်, အာမိသ ဒါနကို ပယ်တော်မူခဲ့ရာ၌ လည်း ပစ္စည်း - ပေးလှူ - ချီးမြှောက်
လှူဒါန်းမှုကို မပြုရဟု ဆိုတော် မမူလို; စင်စစ်ကား အတိုး ရင်းပွား ပေးကမ်းသော
ချေးငှါးယား ကုလားလူမျိုးတို့ အလေ့ ကဲ့သို့ အတိုး ရင်းပွား ပမာ သံသရာ၌ ခံစား
ရန် လူ-နတ် စည်းစိမ်များကို တောင့်တ၍ မပြုလုပ်ရ; သံသရာ့ စည်းစိမ်သည် သုခ
အစစ်-အမှန် မဟုတ်; ဒုက္ခ မီးတောက်ကြီး၏ ထင်းမီးစာ သာ ဖြစ်သည်၊ အမှန်
အားဖြင့် ဒါန-သီလတို့ကို ဘုရား-ပစ္စေကဗုဒ္ဓ စသော သဗ္ဗညုရှိသတို့ ကျင့်စဉ် လမ်း
ကြောင်း, ကျင့်ဝတ်-ပဋိပတ်တည်း ဟု ထိုသို့သော ဝတ်တရားကို ရည်ဆောင်၍
ပြုရမည်ဟု ဆိုတော်မူ၏၊ ထို့ကြောင့် ဓမ္မ-ဒါန ဟူသည် တရား ကျင့်ဝတ် အတိုင်း
လှူခြင်း, တနည်း တရားတော် ကြီးပွားရေး အတွက် ပြုကျင့်ခြင်းတည်း၊ မှန်လှပေ၏;
တရား ကြီးပွားသော် လောက ကောင်းစား၏၊ တရား မကြီးပွားလျှင် လောက ဆိုးဝါး
၏၊ ယင်းသို့အားဖြင့် ဓမ္မဒါန အလုပ်မှာ လောကကြီး ကောင်းစားအောင် လုပ်ခြင်း
ဖြစ်၍, မြင့်မြတ်ခြင်း ဖြစ်လေသည်။

ဗုဒ္ဓဘာသာဝင်တို့ အထူး မှတ်သားရန် ကောင်းသော အချက်မှာ (၁) တရား
တော် ကြီးပွား တိုးတက်ရေး အတွက် သာ လှူဒါန်းခြင်း, (၂) တရားတော် ကြီး-
ပွား တိုးတက်ရေး အတွက် သာ ဆက်ဆံ ပေါင်းသင်းခြင်း, (၃) တရား သဖြင့်
သာ ခွဲခြမ်း ဝေဖန်ခြင်း, (၄) တရားတော်နှင့် သာ စပ်ဆိုင်ခြင်း —— ဤလေးမျိုး
နှင့် ပတ်သက်၍, သာ ဓမ္မဒါန ဖြစ်ရန် ပြုလုပ်ကြရမည် ဟူသော အချက် ဖြစ်၏၊
ဤ လေးမျိုး အနက် ပဌမ အချက် အရ လှူဒါန်းခြင်း ဟူသည် ဥပလက္ခဏာ
နည်းမျှ ဖြစ်၏; စင်စစ်ကား ပညာကြီးသော ဆယ်မျိုးလုံးကို ပင် တရားတော် ကြီးပွား
တိုးတက်ရေး အတွက် သာ ပြုလုပ်ရမည်၊ ဒုတိယ ဆက်ဆံ ပေါင်းသင်းရေး ဟူ
သည် တဦးနှင့် တဦး လင်-မယား အဖြစ်, မိတ်သင်္ဂဟ အဖြစ်, ဆရာ-တပည့်
အဖြစ်, သား-အမိ-သား-အဖ အဖြစ်, ကျွန်-သခင် အဖြစ် စသည် ပေါင်းသင်း
ဆက်ဆံရာ ဟူ သမျှ၌ တရားတော် တိုးပွားရန် သာ ဆက်ဆံ ရမည်ကို ဆိုလေ၏။

တတိယ အချက် အရ ခွဲခြမ်း ဝေဖန်ခြင်း ဟူသည် အမှု—ဥစ္စာ ခွဲခြမ်းဝေဖန်ရေး, ဥစ္စာ တိုးပွားရန် ရောင်းဝယ် ဖောက်ကားရေး, တမလွန် ပစ္စက္ခ ကောင်း—ကျိုး ရရန် ပေးလှူ ပူဇော်ရေး စသည်ကို လည်း တရားတော် စည်းပင်ရေး အတွက်သာ ပြုလုပ်လေ ဟူသတည်း၊ တရားနှင့် စပ်ဆိုင်ခြင်း ဟူသော စတုတ္ထ အချက် အရ, မိမိ ဒါန—သီလ—ဘာဝနာ ပညာကြီယ—ပါရမီ တရားတို့မှာ မိမိ အလုပ်ကြီး ဖြစ်—ကြောင်း မိမိနှင့် ထို အလုပ်များကို စပ်ဆက် ထားရမည်; ထို ဒါန—သီလ စသည်တို့မှာ ဗောဓိပက္ခိယ တရားများသို့ သက်ဝင် ကြောင်, ထို ဗောဓိပက္ခိယတို့ မှာလည်း မဂ်–ဖိုလ်တို့နှင့် စပ်ဆိုင်ကြောင်း, မဂ်—ဖိုလ်တို့မှာ နိဗ္ဗာန်နှင့် စပ်ဆက်ကြောင်း; ဤသို့ အားဖြင့် တရားနှင့် စပ်ဆိုင်ရမည်ကို ဆိုလေသည်၊ ယင်းသို့ မိမိနှင့် တရားကို တစပ်တည်း စပ်ဖက် ထားနိုင်လျှင် ကောင်းမွန်သော ဓမ္မဒါန ဖြစ်ပြီ ဟူလို။

ဤ စကားများဖြင့် ရဟန်းတော် ဖြင်လျက် စတုပါရိသုဒ္ဓိ—သီလ စသည်ကို ကျင့်ကြံစေကာ, ဓမ္မဒါန ဖြစ်ပြီ ဟု မဆိုရသေးကြောင်း; အိမ်ယာ တည်ထောင်—သော လူ့ဘောင် နေသူ လူ ဖြစ်၍ ပစ္စည်းလေးပါး တတ်အားသမျှ လှူဒါန်း နေစေကာ; ဓမ္မဒါန မဖြစ် ဟု မဆိုရ; စင်စစ်ကား အသိဉာဏ် အလိုက် စိတ်က ရည်ဆောင် ရှယ်စူးသည့် အတိုင်း သာ ဖြစ်ကြောင်း သိစေလေသည်၊ ထို စကားကို ထင်ရှားစေဦးအံ့; စတုပါရိသုဒ္ဓိ—သီလကို စင်ကြယ်စွာ ကျင့်သော ရဟန်း ဖြစ်စေ—ကာ, ထိုသို့သော အကျင့်—သီလဖြင့် သေခွေးကြီး ဖြစ်မည်, ပဒေသရာဇ် ဖြစ်မည်, ကေရာဇ်, ကြြာ—သိကြား—နတ်မင်း တစုံ—တဦး ဖြစ်မည် ဟု ရည်ဆောင် တောင့်တ၍, ကျင့်ဆောင်ခဲ့လျှင်, ဓမ္မဒါန မဆိုရ; စင်စစ်ကား ထို သီလ အတွက် ကိလေသာ ကုန်ခန်းရာ မဂ်—ဖိုလ်—နိဗ္ဗာန်ကို ရည်သွန်သော် သာ ဓမ္မဒါန ဆိုရ လေသည်၊ ထို့ပြင်, လူ့ဘောင်၌ နေထိုင်သူ လူ ဖြစ်၍, မြင့်မြတ်သော ဓမ္မဒါန ဖြစ်စေ ဟု ရည်စူးလျက် ရဟန်း ပြုပေးခြင်း, စာပေ ပိဋက လှူဒါန်းခြင်း, သီလ ကျင့်ခြင်း စသည်ကို ပြုစေကာ, ထို ကုသိုလ်များ အတွက် လူမင်း နတ်မင်း စည်းစိမ်များကို ရည်ညွှန် တောင့်တလျှင် ဓမ္မဒါန မဖြစ်; ၎င်း အတွက် မဂ်—ဖိုလ်—နိဗ္ဗာန်ကို ရည်စူးမှသာ ဓမ္မဒါန ဖြစ်၏၊ ထို့ အတူ, လူဒကာ—ဒကာမတို့၌ မပြတ် ဖြစ်ပွား ပြုလုပ်လျက်နေကြသော ကျောင်း—သင်္ကန်း—ဆွမ်း—ဆေး ဟူသော ပစ္စည်း—လေးပါး အလှူ—အတာန်းတို့ အတွက် ဝိဝဋ္ဋနိဿိတ ဖြစ်စေ၍, သာသနာနုဂ္ဂဟ အနေဖြင့် ပြုလုပ်ခဲ့—လျှင်, ဓမ္မဒါန ပင် ဖြစ်၏။

# ဒွါဒသမ-သိလာ'နုသာသနီ၊

## ၁၂။ မူလပါဠိ၊

ဒေဝါနံ ပိယော ပိယဒသိ ရာဇာ †သဝရ ပါသံဍာနိ †ပဝဇိတာနိ စ ဃဋ္ဌာနိ စ ပူဇယတိ ဒါနေန, ဝိဝိဓာယ စ ပူဇာယ၊ န တု တထာ ဒါနံ ဝါ ပူဇံ ဝါ ဒေဝါနံ ပိယော မံညတိ၊ 'အထာ ကိံ'တိ သာရဝဍ္ဎိ သိယာ' တိ၊ †သ ဝရပါသံဍာနံ သာရဝဍ္ဎိ ဗဟုဝိဓာ၊ တဿ တု ဣဒံ မူလံ; ဝစော ဂုတိ၊ ကိံ'တိ?; အတပါသံဍေ ပူဇာ စ ပရပါသံဍေ ဂရဟာ စ နော သိယာ; အပကရဏမှိ လဟုကာ ဝါ သိယာ၊ တမှိ တမှိ ပကရဏေ ပူဇေတာ ဝိယ တု ပရပါသံဍာနံ တေန တေန ပကရဏေန အတပါသံဍံ ဗာဠှံ စ ဝဍ္ဎယတိ, ပရပါသံဍဿ ပိ ဝါ ဥပကရောတိ၊ တဒညထာ ကရောတော အတ-ပါသံဍံ စ ဆဏတိ; ပရ ပါသံဍံ ပိ ဝါ အပကရောတိ၊ ယော ဟိ ကောစိ အတ-ပါသံဍံ ပူဇယတိ, ပရ-ပါသံဍံ ဝါ ဂရဟတိ; သ ဝေ အတပါသံဍ ဘတိယာ ဝါ ကိံ'တိ အတပါသံဍံ ဒီပယေမ ဣတိ၊ သော စ ပုန တထာ ကရံတံ အတပါသံဍံ ဗာဠှတရံ ဥပဟံတိ။

အတ-ပါသံဍသိ သမဝါယော ဧဝ သာဓု; ကိံ'တိ အံည-မံည သ ဓံမံ သုဏေယု စ သုသုံသေယု စ'တိ၊ ဧဝံ ဟိ ဒေဝါနံ ပိယဿ ဣစ္ဆာ,-ကိံ'တိ †သဝရပါသံဍာ ဗဟုသုတာ စ အသု, ကလာဏာ ဂမာ စ အသု'တိ၊ ယေ စ တတြ တတြ ပသံနာ, တေဟိ ဝတ္တဗိယံ၊ ဒေဝါနံ ပိယော နော တထာ ဒါနံ ဝါ ပူဇံ ဝါ မံနတိ, ယထာ ကိံ'တိ သာရဝဍ္ဎိ သိယာ'တိ၊ †သဝရပါသံဍာနံ ဗဟုကာ စ ဧတာ 'ယာ'အထာယ ဝိယာပဋာ, ဓံမ မဟာမာတာ စ ဣထီ' ဓိယခ-မဟာမာတာ စ ဝစဘူမိကာ စ အံနေ စ နိကာယာ၊ ဣဒံ စ ဧတဿ ဖလံ, ယံ အတ-ပါသံဍဝဍ္ဎိ စ ဟောတိ, ဓံမဿ စ ဒီပနာ။

---

† သဝရ ပုဒ်၌ ဝ နှင့် ရ ဆင့်ထပ်ထားသော ပုဒ်ဖြစ်၏၊ စာလုံး အခန့်မသင့်၍ ဤသို့ထားရ၏၊ ပုဒ်ရင်းမှာ သဝရဟူသော သဗ္ဗ ပုဒ်တည်း၊ ထို့ကြောင့် ရ နှင့် ဝ မှာ ဆင့်ထပ်လျက်သော ဖြစ်၏။

၁၃၊ မှတ်ချက်၊ ၊‘သဏ္ဍာတိ’ မှာ ‘ခဏ္ဍာတိ’ ပါဠိမှ လာ၏၊ ခဏ္ဍာတိ ပါဠိမှ သက္ကတ အရေးအသားဖြင့် ‘က္ခဏ္ဍာတိ’ ဖြစ်၍ ‘ချဏ္ဍာတိ’ ဟု အသံထွက်၏၊ ၎င်း အသံမှာ ဟိန္ဒူ ရွတ်နည်း မပျက်ပဲ ဆ သံ ဖြစ်၏၊ ထိုပုဒ်သွားကို ကြည့်ခြင်းဖြင့် ပါဠိ မာဂဓဘာသာ၌ စ ဆ ဇ ဈ ည တို့၏ ရွတ်ဖတ်သံမှာ ကျ ချ ဂျ ဆျ ည နှင့် ညီမျှကြ၏၊ ယခု မြန်မာတို့ ရွတ်ဖတ်ပုံမှာ ပါဠိမာဂဓသံမှန် မဟုတ်၊ ဒေသ ဝေါဟာရ ရွတ်သံ သာ ဟု သိရမည်။ ‘ဣဿာဓိယ ခ–မဟာ မတာ ပုဒ်မှာ ‘ဣတ္ထိဓိယ ခ မဟာ မတာ’ ဟု ၎င်း, ဣဿတြီဓိယာ မဟာမတာ’ ဟု ၎င်း ‘ဣ†သတြိ ဈ ဆ မဟာ မတာ’ ဟု ၎င်း မူအသီးသီး ရှိကြ၏၊ သက္ကတ ဘာသာ၌ †သတြီချက္ခ မဟာ မတြာ’ ဟု ပြန်ဆိုထား၍ ဟိန္ဒီ–အင်္ဂလိပ် ဘာသာပြန် ဆရာတို့ လည်း ‘မိန်းမ ကြပ် အမတ်’ ဟု ပြန်ဆိုထားကြ၏။

# ၁၄၊ မြန်မာဘာသာပြန် ၁၂၊

## အယူဘာသာဝင်တိုင်း ပူဇော်သင့်ကြောင်း၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဓွဲချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိသော အသောက မင်း– တရားမြတ်ကြီးသည် အာလုံး အယူ ရှိ–ရှိသမျှ အိမ်ယာ မထောင် ရဟန်းဘောင်တွင် နေထိုင်သူတို့ကို ဖြစ်စေ, အိမ်ယာ တည်ထောင် လူတို့ ဘောင်တွင် နေထိုင် သူတို့ကို ဖြစ်စေ ပေးကမ်း လှူဒါန်းခြင်း ဖြင့် ၎င်း, အထူးထူး အထွေထွေသော ပူဇော်ခြင်း ဖြင့် ၎င်း လှူဒါန်း ပူဇော်တော်မူသည်၊ ထိုကဲ့သို့ အယူ ဘာသာဝင် အစားစားတို့ကို လှူဒါန်း ပူဇော်တော်မူခြင်းကို တမလွန် နတ်ရွာ နိဗ္ဗာန်အတွက် ရည်ညွှန်သော လှူဒါန်း, ပူဇော် ခြင်း ဖြစ်၏ ဟု မင်းတကာတို့ ချစ်ကြည် လေးစား အပ်သည့် မင်းတြားကြီး အောက်မေ့ မှတ်ထားတော် မမူချေ၊ သို့ ဖြစ်ခဲ့သော်, ၎င်းတို့အား လှူဒါန်း, ပူဇော်ခြင်းဖြင့် အဘယ်- သို့သော ကောင်းကျိုး,ကောင်းနှစ် ပွားစီးရာသနည်း’ ဟု မေးခဲ့ရာ၏၊ အယူ–ဝါဒခြား များစွာတို့အား ပေးလှူ ပူဇော်ခြင်း၌ ကောင်းကျိုး ဂုဏ်ကျေးဇူး အနှစ်သာရပေါင်း မြောက်မြားစွာ ဖြစ်နိုင်၏၊ ဤ ဂုဏ်နှစ် ကျေးဇူး များစွာ အနက် လိုရင်း အချက် တခုမှာ ငါ မင်းတြား အပေါ်၌ မတော် မတရား မကဲ့ရဲ့ပဲ, တကား စောင့်စည်း ရာခြင်း ဖြစ်၏။

---

† သတြိ–ဟူရာ၌ သ–တ–ရ ခုလုံးမှာ သရ တလုံးတည်း သံယုဂ်နှင့် သာ ရှိလိုက်၊ တလုံးပုံ ခရိုစ်ဖြဲ ဤသို့ ထားရ၏။

အဘယ်သို့ ဖြစ်ရသနည်း? အသောက မင်းတြားကြီးသည် အများ၏ အရှင်ဖြစ်လျက် မိမိ အယူဝင်တို့ကို သာ ပူဇော် ချီးမြှောက်သည်; သူတပါးတို့ အယူဝင်တို့ကိုကား ရှုတ်ချ—ကဲ့ရဲ့လေသည် ဟု ငါ မင်းတြား အပေါ်၌ မသင့် စိတ်ငဲ့ ကဲ့ရဲ့ ရှုတ်ချခြင်း မဖြစ်စေရာ၊ ထို့ပြင်, ထိုသို့ ကဲ့ရဲ့ခြင်းကြောင့် ဖြစ်သော ကျေးဇူးမဲ့ ပြုလုပ်ခြင်းမျိုးလည်း ပေါ့လျော့ ပျောက်ပျက်လေရာ၏၊ စင်စစ်လိုက်နာရန်မှာ ထိုထို အရေး—အရာ ဟူသမျှ၌ သူတပါးတို့ ကြိုက်နှစ်သက်သည့် အယူနှင့် အယူဘာသာဝင်ကို ပူဇော်—ချီးကျူးခဲ့ပါမူ, ထိုထို အရေး—အရာ ဟူသမျှ ဖက်မှ ပင် မိမိတို့ အယူ-ဘာသာဝင်တို့မှာ ပွင့်လင်း စည်ကားစွာ တိုးတက် ပွားစီးနိုင်လေသည်၊ ထို့ပြင်, သူတပါး အယူ-ဘာသာကို လည်း ကျေးဇူး တိုးတက် စေလေသည်၊ ထိုသို့ မဟုတ်မူ၍, မိမိ ဘာသာဝင်တို့ကို သာ ချီးကျူးခြင်း, သူ့တပါး ဘာသာဝင်ကို ရှုတ်ချခြင်းကို သာ ပြုလုပ်ခဲ့လျှင်, မိမိတို့ ဘာသာဝင်တို့ကို ပင် ရှုတ်ချ ပျက်စီးကြောင်း ပြုရာ ရောက်၍, သူများ ဘာသာဝင်တို့ကို လည်း အကျိုးမဲ့ ပြုလုပ်ခြင်း ဖြစ်လေသည်။

ထင်ရှားစွာ ဆိုရသော်, အကြင် တစုံ-တယောက်သည် မိမိ ရိုးကိုးရာ ဘာသာဝင်တို့ကို သာ ချီးကျူး-ပူဇော်၍, သူတပါးတို့၏ ဘာသာဝင်ကိုမူ ကဲ့ရဲ့—ရှုတ်ချလေအံ့, သို့ မဟုတ် ထိုသူသည် မည်သို့လျှင် ငါ့ အယူ-ဘာသာ ထင်ရှား ပေါ်လွင် လေမည်နည်း? ဟု မိမိ ဘာသာဝင် ပုဂ္ဂိုလ်တို့ကို သာ ကေန် ချီးကျူးလေအံ့; ထိုသို့ အားဖြင့် မိမိ ဘာသာကို ပေါ်လွင်စေရန် အဖန်ဖန် ပြုလုပ်သော ထိုသူသည် ပင် မိမိ အယူ ဝါဒကို အကြီး—အကျယ် ပုတ်ခတ် ဖျက်ဆီးလေသည်၊ စင်စစ် လိုက်နာဖွယ်မှာ, မည်သို့လျှင် အယူဝါဒရှင်တို့ အချင်းချင်း တဦးသည် တဦး၏ တရားကို ကြားနာ သိရှိကုန်ရာမည်နည်း; မည်သို့လျှင် နားထောင် လိုက်နာခြင်း ဖြစ်ကုန်ရာမည်နည်း ဟု မိမိ အယူ ဘာသာဝင် အချင်းချင်း မျှတ ညီညွတ်ရန် ကျင့်ဆောင်ခြင်းသည် သာကောင်းမွန် လေသတည်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းတရား၏ အလိုမှာ မည်သို့လျှင် အားလုံး အယူဝါဒ အသီးသီး ရှိသူတို့မှာ တဦးသည် တဦး၏အယူ ဘာသာ၌ အကြား—အမြင် များကြ၍, ကောင်းစားဖွယ် ဖြစ်ပွား ကုန်ရာမည်နည်း' ဟူသော သဘောသား သာ ဖြစ်ချေ၏၊ အမှန်ကား မိမိတို့ နှစ်သက် ကြည်ညိုသည့် ဘာသာ အယူ ဝါဒကို သာ လိုက်နာ ကျင့်ဆောင် ခွင့်ရှိ၏၊ မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းတရား မြတ်သည် အယူ ဘာသာခြားတို့အား ပေးကမ်း စွန့်ကြဲမှု ပူဇော် ချီးမြှင့်မှုကို ပြုခြင်းသည် နတ်ရွာ နိဗ္ဗာန် အကျိုးငှာ ဟူ၍, မထင်မှတ်ချေ၊ စင်စစ်ကား ထို ဘာသာခြား ပုဂ္ဂိုလ်တို့၏, ဂုဏ်နှင့် အင်အား တိုးပွားခြင်း

ဖြစ်ရာ၏ဟု ထင်မှတ်၍ သာ လှူဒါန်း ပူဇော်တော်မူ၏၊ ထိုအယူ–ဝါဒ ခြားတို့၏ ဂုဏ်နှစ်အင်အား တိုးပွားရန် အတွက် ထိုသူတို့ အတွင်း၌ များစွာ ကုန်သော တရားကြီးကြပ် အမတ်ကြီးတို့ကို၎င်း၊ မိန်းမ အထိန်း–အကြပ် အမတ်ကြီးတို့ကို ၎င်း စကားမှူလ–အခြေခံ သံတော်ဆင့်–တို့ကို ၎င်း၊ ထိုမှ တပါး အခြားကိုတား အဖွဲ့ များစွာတို့ကို ၎င်း၊ ငါ မင်းမြတ် အပြန့် အနှံ့ ခွဲခန့်ထားတော် မူအပ်ကုန်ပြီ၊ ဤသည်လျှင် ဤသို့ ပြုလုပ်ရခြင်း အတွက် မိမိ အယူ–ဝါဒ၏ တိုးပွားခြင်း၊ တရားတော်၏ ပေါ်လွင်ခြင်း အကျိုး ဖြစ်သတည်း။

၁၅။ ဥပဒေသ၊ ဤကျောက်စာ အရ အသောက မင်းတရား၏ အလိုမှာ အယူ–ဝါဒရှင် အားလုံးကို ပင် ကြည်ဖြူနိုင်ခြင်း ရှိ၍ ဆက်ဆံ ပေါင်းသင်းရန်၊ ကူညီသင့်ရာ၌ ကူညီရန် ဖြစ်သောကြောင့် အဟုတ်–အဟတ် သာသနာ ပြုရေး ကိစ္စ၌ အဝါး ဝသော ပုဂ္ဂိုလ်ကြီး တဦး ဖြစ်ကြောင်း ကျွန်ုပ်တို့ သိနိုင်ကုန်၏၊ ၎င်းဖြင့် ကျွန်ုပ်တို့အား လည်း ထိုသို့ အဝါး ဝကြရန် နည်းကို ညွှန်ပြလေ၏၊ ယင်းသို့ အားဖြင့် မိမိ အယူ–ဝါဒ ရှိသူမှ တပါး၊ အယူ–ဝါဒခြားများနှင့် သာမဂ္ဂီ ဖြစ်အောင် ပေါင်း–သင်း–ဆက်ဆံ၍ တဦးနှင့် တဦး ညီညွတ်ရမည် ဟူသော စကားမှာ အလွန် ကောင်းမြတ်သော နည်း ဖြစ်၍၊

“သုခေါ ဗုဒ္ဓါနံ ‘ မုပ္ပါဒေါ၊
သုခါ သဒ္ဓမ္မ–ဒေသနာ၊
သုခါ သံဃဿ သာမဂ္ဂီ၊
သမဂ္ဂါနံ တပေါ သုခေါ။”

ဟူသော ဘုရားဟော ဂါထာ၏ အဓိပ္ပါယ် အကျယ်ဖွင့် လည်း ဖြစ်လေသည်၊ ဘုရားရှင် လက်ထက်တော် အခါ ကိုယ်တော်တိုင်း လည်း အညာတိတ္ထိယတို့နှင့် နီးနှော–ခွဲချက်၊ ၎င်းတို့ထံ ထွက်ဝင် ကြွရောက်တော် မူခဲ့ချက်တို့ကား ထင်ရှားပင် ဖြစ်ကုန်၏။

မှတ်ချက် ၁။ ။“သ ဝေ အတပ္ပါသံဝ-ဘတိယာ ဝါ ကိံ တိ အတပ္ပါသံဝ ဒိပဿေယ ဤတိ၊ သော စ ပုန တထာ ကရိတ် အတပ္ပါသံဝ ဗာဠတရံ ဥပဟတိ-သို့ မဟုတ် ထိုသူသည် မည်သို့လျှင် ငါ့ အယူဘာသာ ထင်ရှား ပေါ်လွင်လေမည်-နည်း ဟု မိမိ ဘာသာဝင် ပုဂ္ဂိုလ်တို့ကို သာ ကောန် ချီးကျူးလေအံ့; ထိုသို့ အားဖြင့် မိမိ ဘာသာကို ပေါ်လွင်စေရန် အဖန်ဖန် ပြုလုပ်သော သူသည် ပင် ပုတ်ခတ် ဖျက်-ဆီးလေသည်” ဟူသော စကားမှာ ဘာသနာပြု ပုဂ္ဂိုလ်များ အတွက် အထူး မှတ်-သားထိုက်၏၊ ၎င်း အဓိပ္ပါယ်မှာ မိမိ အယူ-ဘာသာ ကြီးပွား စေလို၍, အယူဘာသာ တပါးကို နှိပ်ချ-ကဲ့ရဲ့ ပြုခြင်းသည် မိမိ အယူ ပျက်စီးအောင် အားကြီး ပြုလုပ်ခြင်း ဖြစ်၏၊-ဟုလိုသည်၊ မည်သို့ အားဖြင့် မိမိတို့ အယူကို အားကြီး ပျက်စီးအောင် လုပ်ခြင်း ဖြစ်နိုင်သနည်း?၊ ထိုသို့ ပြုလုပ်ခြင်းကြောင့် အယူ-ဘာသာ ခြားတို့က မိမိတို့ အယူဝါဒကို ရှုတ်ချသဖြင့် မေတ္တာ ပေမစိတ် မျှ မဖြစ်နိုင်ရာသောကြောင့် ထို ဘာသာ ခြားတို့ကို မိမိ အယူသို့ သက်ဝင်လာလိမ့်ဦးမည် ဟု မြော်လင့်ရန် မဖြစ်နိုင်ချေ၊ ထိုသို့ အားဖြင့် မိမိ အယူကို ပင် ပျက်စီးအောင် လုပ်သည် မည်လေ၏။

မှတ်ချက် ၂။ ။ဒေဝါနံ ပိယော နော တထာ ဒါနံ ဝါ ပူဇံ ဝါ မံနတိ, ယထာ ကိံ တိ သာရ ဝဍိ သိယာတိ၊-မင်းတကာတို့ ချစ်ကြည် လေးစား အပ်သော အသောက မင်းကြီးမြတ်သည် အယူ-ဘာသာခြားတို့အား စွန့်ကြဲမှု ပူဇော် ချီးမြှင့်မှုကို ပြုခြင်းသည် နတ်ရွာ-နိဗ္ဗာန် အကျိုးငှါ ဟူ၍, မထင်မှတ်ချေ၊ ဝေ်စစ်ကား ထို ဘာသာ ခြားတို့၏, ဂုဏ်နှင့် အင်အား တိုးပွားခြင်း ဖြစ်ရာ၏ ဟု ထင်မှတ်၍, သာ လှူဒါန်း-ပူဇော်တော်မူ၏-ဟူသော အသောက မင်း၏, စကားမှာ များစွာ မှတ်သားရန် ကောင်း၏၊ ၎င်း ဆိုလိုရင်းမှာ ဘာသာခြား တို့အား လှူဒါန်းခြင်းမှာ မိမိအတွက် နိဗ္ဗာန် ရရန် မရည်စူး, ဝေ်စစ်ကား ထိုဘာသာခြားတို့ ဂုဏ်သိရိ အင်အား တိုးတက်စေရန် သာ ဖြစ်သည် ဟုလို၏၊ ၎င်း စကားသည် အလွန် ထာ သွား၏; ထင်ရှားစေရသော်, ထို ဘာသာခြားတို့ ဂုဏ်သိရိ-အင်အား တိုးစေရန် ဟုရာ၌ ရိုးရိုး အဓိပ္ပါယ်မှာ ‘အသောက မင်းကြီး ကဲ့သို့ မြင့်မြတ်သော ကောရာဇ်-ဘုရင်ကြီး တဦးက လှူဒါန်းတော်မူသည် ဟု ထို ဘာသာ၌ များစွာ . ဂုဏ်သိရိ ရှိရာသည်’ ဟု ပင် ဆိုလို၏၊ ၎င်းမှာ ထို ဘာသာခြားတို့ နာကြားကောင်းမျှ ဖြစ်စေ၏; မုချ ရည်စူးချက်ကား ထိုသို့ လှူဒါန်းသဖြင့် မိမိအား

လေးစား၍ မိမိ ပြောစကားကို နားထောင် လိုက်နာကြလျက် မိမိဘာသာဝင် ဖြစ်စေခြင်း ဟူသော ဂုဏ်သိရိ ပွားစေရန် လွန်စွာ ခေါင်းနှင်းသည် ဟုလို၏၊ ထို့ကြောင့်–သဝရပ ါသံဥာန် ဗဟုကာ စ တေဝယာတာဃ ဝီယာ ပဋ္ဌာ ခံမဟာမာတာ စ' စသည်ကို ဆို၏။

မှတ်ချက် ၃၊ ၊သဝရပ ါသံဥာနံ ဗဟုကာ စ တေဝယာတာဃ ဝီယာ ပဋ္ဌာ, ခံမ မဟာမာတာ စ, ဣတ္ထာဓိယခ–မဟာမာတာ စ, ဝစဘူမိကာ စ အံနေ စ နိကာယာ–ထို အယူ–ဝါဒခြားတို့ ဂုဏ်နှစ် အင်အား တိုးပွားရန် အတွက် ထိုသူတို့ အတွင်း၌ များစွာသော တရား ကြီးကြပ် အမတ်ကြီးများကို ၎င်း, မိန်းမ အထိန်း အကြပ် အမတ်ကြီးတို့ကို ၎င်း, ခကား မူလ အခြေခံ သံတော်ဆင့်တို့ကို ၎င်း, ထို့မှ တပါး အခြား ဂိုဏ်း အဖွဲ့ များစွာတို့ကို ၎င်း ငါ မင်းမြတ် အပြန့် အနှံ့ ခန့်ထားတော် မူအပ်ကုန်ပြီ–ဟူရာ၌ ထို ဗုဒ္ဓဘာသာမှ တပါးသော အယူဝါဒခြားတို့ အတွင်း၌ သာသနာပြု တရားဟော ဆရာများနှင့် အလားတူ တရား ကြီးကြပ် အမတ်ကြီး စသည် ထားပုံကို ဆို၏၊ ၎င်း၌ 'ထို အယူ–ဝါဒခြားတို့ ဂုဏ်နှစ် အင်အား တိုးပွားရန်' ဟူရာမှာ ထို ဘာသာခြားတို့ အကျိုး သက်သက်ကို ဆောင်စေရန်, သို့ မဟုတ် ထို ဘာသာခြားတို့ကို မိမိ ဘာသာဝင်များ ဖြစ်စေရန် ဟု အဓိပ္ပါယ် ၂ ချက် ပင် ထွက်၏၊ မည်သည့် အဓိပ္ပါယ် ပင် ဖြစ်စေ ဗုဒ္ဓဘာသာ ကြီးပွားရေး အင်အားကို ဖြစ်စေသည်ချည်း ဖြစ်၏၊ ထိုတွင်, (၁) တရား ကြီးကြပ်ရေး အမတ်ကြီးမှာ တရား ကျင့်သူများကို မှတ်သားရန်, အသောက မင်း၏ အဆုံး–အမများ အတိုင်း လိုက်နာစေရေး၌ ကြောင့်ကြရန် အတွက် ထားသူ ဖြစ်၏၊ (၂) ဣတ္ထာဓိယခ မဟာမာတာ ဣတ္ထာ–ချက္ခ မဟာမတ္တာ–မိန်းမ အထိန်းအကြပ် အမတ်ကြီးများ ဟူရာတို့၌ မည်သို့သော ကိစ္စနှင့် မည်သည့် အကျိုးငှာ ထားရသည် ဟု စဉ်းစားဖွယ် ရှိ၏၊ ကျွန်ုပ် အလိုကား မိန်းမများမှာ ဘာသာရေး, ပညာရေး စသည်၌ ဗဟုသုတ နည်းပါးကြသည်၊ ၎င်းတို့သည် လည်း အမျိုးသားငယ်တို့ ကောင်းစားရန် သင်ပြရေး အတွက်လိုရင်း ဖြစ်ကုန်၏၊ ထို့ကြောင့် ထိုသို့သော ဗဟုသုတများ ပြည့်စုံကြစေရန် မိန်းမ အထိန်းအကြပ် အမတ်ကြီးများ ထားသည် ဟု ထင်မြင်၏၊ ၎င်းတို့ အနက် (၃) သံတော်ဆင့်ကို မူ ကောရာဇ် ဘုရင်နှင့် မဟာမတ္တာတို့ အတွင်းတွင် အမိန့် ပြန်ကြားရန် ဖြစ်ရာ၏၊ (၄) အခြား ဂိုဏ်းအဖွဲ့များ–ဟူရာ၌ ထိုထို တရား ကျင့်ရေး အတွက် စုံထောက်သူများ ဖြစ်ကြ၏ ဟု ကြံစည်ရန် ရှိ၏။

မှတ်ချက် ၄၊ ဤ ခနရာ၌ ပါသဏ္ဍ ဟူသည် အဘယ်သို့သောအယူမျိုးနည်း? မိမိအ ယူမှ တပါးအခြားအယူ ပင် ဖြစ်သလော?; အယူ သာမန် ပင် ဖြစ်သလော?; ၎င်း ပါသဏ္ဍ အယူမှာ မည်မျှ အရေးအတွက် ရှိသနည်း? ၎င်းအယူများသည် မည်သို့ ခွဲယူကြသနည်း? ဟု မေးခွန်း ထုတ်ဆင် အပ်၏၊ ၎င်း အမေးများကို လောကီ—လောကုတ် မယုတ် ကု'လုံ ဥာဏ်ကွယ်ဆုံသော ပညာရှိ ဦးကျော်သွန်း၏ အလို့, ထိုမှ တပါး သက—ပရ—သမယ ၂-ပါး, ဗေဒ— ၂ပါး ဘာသာခြားကျမ်း အထူးထူး၌ ကျမ်းကျင်တော်မူသော မန္တလေးမြို့ အဘယာရာမ ရွှေဂူ-ကျောင်းတိုက် ပထမ နာယက အရှင် အဂ္ဂဓမ္မာဘိဝံသ၏ အလိုများနှင့် ညှိနှိုင်း၍ ဤသို့ ဖြေဆိုအပ်၏၊— သက္ကဋကျမ်းတို့၌ ဝေဒ အယူနှင့် ဆန့်ကျင်၍ ကျင့်သူများကို ပါသဏ္ဍ ဆိုကုန်၏၊ ဝေဒဝိရုဒ္ဓါ' စာရဝါ သဗ္ဗဝဏ္ဏ စိဟနမောရီ ဗုဒ္ဓသပဏကာ:ဒိ ပါသဏ္ဍော—အမရ ကောသ-အရတ္ထင်္ကာ, ဤ၌ ဝေဒ-အကျင့်နှင့် ဆန့်ကျင်သော ဗုဒ္ဓသာဝကတို့ကို ပါသဏ္ဍ ဆို၏။

ပါတိ ရက္ခတိ ဒုရိဒတောဟိတိ...ပါသဏ္ဍော—ဝေဒကျမ်း အယူကို အကျိုးမျက် ပြု လုပ်တတ်သူ ဟူလို၊ ပါသနတော တယိ ခမ္မော, ပါသဓုနဲ နိဂစ္ဆတေ၊ သဏ္ဍယန္တိ ရတ် ယသ္မာ ပါသဏ္ဍော တေန ကိတ္တိတော ဟူကျူတွေ, ဝေဒါစာရ စာဂီနီ — ဗေဒကျမ်း ကို အကျိုးမဲ့ပြု၍ ဝေဒ အကျင့်ကို စွန့်ပယ်သူ ဝါစပ္ပတိ—အဘိဓာန်၊ ပါသဏ္ဍသည် အယူမှား အနက်ကို ဟောသည် ဟု မာဂဓ-အဘိဓာန် ဂါထာနံပါတ်၄၄၁၌ ဆို၏၊ ပါပံ သနောတိ ဒသာန သံသဂ္ဂါဒိနာ ဓါတီတိ ပါသဏ္ဍော—ဒဿန-သံသဂ္ဂ စသည်ဖြင့် မကောင်းမှုကို ပေးတတ်သူ၊ ပါတိ ရက္ခတိ ဇုက္ခ ရိဘောဟိ ဟူတိပါ-ခေဒမ္ဘောသဏ္ဍ သဏ္ဍယတိ ခဏ္ဍယတီတိ ပါသဏ္ဍော...ဝေဒကျမ်းအယူကို ပယ်ဖျက်တတ်သူ-သဒ္ဒကပ္ပဒုမ အဘိဓာန်၊ ဤသို့လျှင် သက္ကဋ ကျမ်းတို့၌ ဝေဒကျမ်း အယူနှင့် ဆန့်ကျင်သူကို ပါသဏ္ဍ ဟု ဆိုလေသည်၊ သာသနာတော် ပိဋက ကျမ်းဂန်တား ဟူသော ဗဟိဒ္ဓါ ပါသဏ္ဍာ, ဒိဋ္ဌိသု ပသီဒန္တိ တေ—ဟူသော အင်္ဂုတ္တရ-တိကနိပါတ်အဋ္ဌကထာ၌ 'သာသနာမှ အပ ဖြစ်သော အယူ ဟူ၏၊ ပါသံ ဍေန္တီတိ ပါသဏ္ဍာ; သတ္တာနံ စိတ္တေသု ဒိဋ္ဌိပါသံ ခိပန္တီတိ အတ္တော၊— သတ္တဝါတို့၏ စိတ်၌ အယူမှား ကျော့ကွင်းကို ထားတတ်သူ-၎င်း အဋ္ဌကထာ၊ ဤသို့လျှင် သာသနာတော် ကျမ်းတို့၌ ဗုဒ္ဓ—ဘာသာမှ တပါးသော အယူ တို့ကို ပါသဏ္ဍ ဟု ဆို၏။

ဘာ ဒွော သာမွာ ပါသာဏ္ဍော,
ဝိ ကမ္မဍွော နိုဿိဒ္ဓကော၊
ယာသာ ဓမ္မဒ္ဓဇော နိုစွံ၊
သူ ရဒ္ဓဇော ရိုဝေါ် ဥဒ္ဓိတော။
ပ ဏ္ဍနဒ္ဒာနို စ ပါပါနို,
ဖေဍ္ဍာလံ နာမ တဗ္ဗတံ၊
တ ဗ္ဗာ ဝေဍ္ဍာလဗ္ဗတိကော,
ပါသာဏ္ဍောတိ နိုဂဋ္ဌတေ။

ဗိသာတု ပုရာဏဋ္ဌကာ—ပါသဏ္ဍလက္ခဏာပြဂါထာ၊ **အနက်ကား။**— သာမွာ—မိမိ ကျင့်ဝတ် တရားမှ၊ ဘာဒွော—လျောကျ၏၊ ပါသဏ္ဍော—ဝေဒ အယူကို ဖျက်ဆီး၏၊ ဝိ ကမ္မဒွော—မိမိတို့ ကျင့်စဉ်ကို ဖျက်၍ တည်၏၊ နိုသိဒ္ဓကော—ဝေဒကျမ်းက တားမြစ်သော အမှုကို လွန်ကြူး၍ ကျင့်၏၊ ယာသာ—အကြင် ရသေ့၏၊ ဓမ္မဒ္ဓဇော—တရား၏ အလံ-တန်းခွန်သည်၊ သူရဒ္ဓဇောရိုဝ—နေ၏ အလံ ဟူသော အရောင်-အဝါကဲ့သို့၊ နိုစွံ—အမြဲ၊ ဥဒ္ဓိတော—စိုက်ထူထားသ၏၊ ပါပါနို စ—မကောင်းမှုတို့ကို လည်း၊ ပဏ္ဍနဒ္ဒာနို—ပိတ်ပင်ဖုံးလွှမ်း ကုန်၏၊ တဗ္ဗတံ—ထိုသို့သော အကျင့်သည်၊ ဖေဍ္ဍာလံ နာမ—ကြောင်သူတော်၏ အကျင့် မည်၏၊ တဗ္ဗာ—ထိုသို့ သဘောရှိသည် ဖြစ်၍၊ ဖေဍ္ဍာလဗ္ဗတိကော—ကြောင်သူတော်၏ အကျင့် ရှိသူကို၊ ပါသဏ္ဍောတိ—ပါသဏ္ဍ အယူ ရှိသူ ဟူ၍၊ နိုဂဋ္ဌတေ—ဆိုအပ်၏။

ကပ္ပဒ္ဒုမ အဘိဓာန်၌ ပါသဏ္ဍမည်ထိုက်သူ များစွာကို ပြ၍,——

ကိံ 'မတြ ဗဟု 'နောတ္တေန,
ပြာ ဟ္မဏာ ယေ 'ပျဒဂ္ဂါဝါ၊
အ သဒါ စရဏာ ဟောန္တိ,
တေ ပိ ပါသဏ္ဍိနော မတာ။—

အ တြ—ဤပါသဏ္ဍ အရာ၌၊ ဗဟုနာ—အမြောက်-အမြား၊ ဥတ္တေန—ဆိုပြခြင်း ဖြင့်၊ ကိံ—အဘယ်မှုအံ့နည်း၊ ယေ—**အကြင်**သူတို့သည်၊ ပြာဟ္မဏာ'ပိ—ပုဏ္ဏား ပင် ဖြစ် ကုန်သော်လည်း၊ အဗျေဂ္ဂါဝါ—ဗိသကိုးကို မဆည်းကပ်ကုန်မူ၍၊ အသဒါစာရဏာ—

သူတော် စင်ပြု ဟိန္ဒူတို့ အကျင့် ကင်းမဲ့ ကုန်သည်၊ ဟောန္တိ—ဖြစ်ကုန်၏၊ တေ ပိ—ထိုသူ အားလုံးတို့ကို လည်း၊ ပါသဏ္ဍိနော—ပါသဏ္ဍ အယူရှိကုန်သူတို့ ဟူ၍၊ မတာ—မှတ်အပ်ကုန်၏၊——ဟု ဆို၏။ ဤကား ပါသဏ္ဍ၏ မှတ်ကြောင်းတို့တည်း၊ ယင်းသို့ ပြဆိုခဲ့သော သာသနိက, လောကီက ကျမ်းတို့ ဒ-လိုအားဖြင့် ဆိုခဲ့သော ပါသဏ္ဍ အယူ ဟူသည် မိမိ အယူမှ တပါးသော အယူ, သို့မဟုတ် အယူဝါဒ တပါး ရှိသူကို ပါသဏ္ဍ ဟု ဆိုကုန်၏၊ လောကီ ကျမ်းဖက်က ကြည့်လျှင်, ဗုဒ္ဓ—ဘာသာသည် ပါသဏ္ဍ ဖြစ်၏; သာသနာဖက်က ကြည့်လျှင်, အညတိတ္ထိယ ဟူသမျှ ပါသဏ္ဍ ချည်းဖြစ်၏။

ယင်းသို့ အားဖြင့် ပါသဏ္ဍမှာ မိမိတို့ မနှစ်သက် အပ်သော အယူ-ဝါဒကို ဆိုကြပေကား, ထို့ အတူ အသောက-ကျောက်စာ များစွာတို့၌ လည်း အညဝါဒကိုဆိုဟန် ရှိပေကား, ၎င်း ဒွါဒသ သိလာပတ္တ၏, ဒွါဒသမ သိလာပတ္တ၌— 'ဧတေန တေန ပကာရေနာ အတပါသံဍ ဗာဍှ ဝ ဝဝယတိ; ပရပါသံဍသ ပိ ဝါ အပကရောတိ—ဟူ၍ ဆိုသည်ကို ထောက်သော်, ပါသဏ္ဍ-သဒ္ဒါသည် အယူ သာမန်၌ ဖြစ်ကြောင်း သိသင့်၏၊ ထိုသို့ ဆိုသင့်စွာ; သမ္ပသာဒနီယသုတ် အဋ္ဌကထာ၌ အတံ သာဝကပါရမီ-ဉာဏံ ပဋိလ ဘာနန္တာ ပဋ္ဌနိုတိ ပါသဏ္ဍာသု နံ အညံ ကော် ပိ သမဏံ ဝါ ဗြာဟ္မဏံ ဝါ ဥပသင်္ကမိတွာ သာဝကပါရမီ-ဉာဏံ ပဋိလတိ—ဟူသော စကားမှာ လည်း ပါသဏ္ဍ-သဒ္ဒါ၏ အယူ သာမန်၌ ဖြစ်ကြောင်း လုံလောက်သော သာဓက ပင် ဖြစ်၏၊ ထို့အတူ ဝိနယ အဋ္ဌကထာ အာဝသထပိဏ္ဍသိက္ခာပုဒ် အဖွင့်၌ လည်း 'အနောဒိဿတိ ဂဟဋ္ဌာနံ ယေဝ ဝါ တွေကာနံ ယေဝ ဝါတိ ကေ ပါသဏ္ဍ' အနုဒ္ဒိသိတွာ သဗ္ဗေသံ ပညတ္တော ဟောတိ'—ဟူ၍ သာသနိက ရဟန်းတို့ကို ပါသဏ္ဍ၌ သွင်းထားလေသည်၊ ယင်းသို့ အားဖြင့် ပါသဏ္ဍ သဒ္ဒါသည် အယူ သာမန်၌ ဖြစ်လေသည်။

အသောက ကျောက်စာကို ဟိန္ဒီ-ဘာသာ ပြန်ဆိုသော ဇနာဒ္ဒန ဘဋ္ဋ M.A က ပဌမသိလာပတ္တတွင် သဗ္ဗပါသံဍုဒ် မှတ်ချက်၌ ဤသို့ ဆိုထား၏၊——အသောက မင်း၏ ကျောက်စာ ရေးသားချက်များ၌ ပါသဏ္ဍ-သဒ္ဒါ သုံးစွဲရာတိုင်း ပင် သင့်-တော်သော အနက်၌ ဖြစ်၏၊ အသောက မင်းသည် အယူ ဝပ်သိမ်းတို့ကို ပင် မြတ်နိုး ရှိသေ၏၊ (ဒွါဒသ သိလာပတ္တကို ကြည့်)၊ နောက် အခါ၌ ပါသဏ္ဍ-သဒ္ဒါကို စက်ဆုပ် ဖွယ် အနက်၌ သုံးစွဲကြကုန်၏— မနုဆရာက ဤသို့ ရေးပြီး——

ကိ တာဝေ ကုသိလေ ကူရေ,
ပါသဏ္ဍာဠေ စ မာနဝေ၊
ဝိ ကမ္မဠေ သောဏ္ဍိကေ စ,
ဒိပ္ပဲ နိဝါရဓေယ ပုရာ။
လုလိမ် ကျင့်ယုတ် ကြမ်းကြုတ်သသူ,
ဝေဒကျင့် ဖျက်လင့်ကုန်သသူ၊
မျိုးလေ့ ပျက် အရက် သောကြူးသူ,
ပြည်မှုနှင် အလျင် ထုတ်ထိုက်သူ။

ဤအရာ၌ ကုလ္လူကာ ဘဋ္ဋ ဆရာသည် မနု-သမ္ဗုတိ-ဋီကာကျမ်းတွင် ပါသဏ္ဍ-သဒ္ဒါ၏ အနက်ကို 'သုတိ-သမ္ဗုတိ-ဗာဟိယဗ္ဗတ-ဓာရီ' ဝေဒ-သမ္ဗုတိကျမ်းတို့ အယူနှင့် ဆန့်ကျင်သူ ဟု ဆို၏– ဤသို့ စသည်ဖြင့် အသောက၏ နောက်ကာလ၌ ပါသဏ္ဍ သဒ္ဒါကို နိစ-ဒုက္ကမ္မကာရီ, ဝမ္ဗ စသော အနက်တို့၌ သုံးစွဲကြကုန်၏၊ ဤကား ဇနာဒ္ဒန ဘဋ္ဋ၏ စကားတည်း။

ပါသဏ္ဍ-အယူမျိုး ၉၆-ပါး ရှိကြောင်းကို မူလပဏ္ဏာသ-စူဠသီဟနာဒသုတ် ဋီကာ၌ ဤသို့ ပြဆိုထား၏၊ ၁-ဟောတိက-ယဇ်ပူဇော်ခြင်း အကျင့်ရှိသူ, ၂-ကုဋိ-စက-ထိုထို ပူဇော်ရာ ဌာနသို့ မလှည့်လည်ပဲ မိမိ နေရာတဲငယ်၌ သာ တရားကျင့်-ကြံ နေထိုင်သူ, ၃-ဗဟူဒက- ထိုသို့ ပူဇော်ရာ ရေဆိပ် စသည်သို့ လှည့်လည်၍ ရေဖြင့် မကောင်းမှုကို ဆေးကြောသော အကျင့် ရှိသူ, ၄-ဟံသ-ဒုတိယ-ဘဝ၌ ပြဟ္မာပြည်ဆောက်ရန် ထက်မြက်သော အကျင့် ရှိသူ, ၅-ပရမဟံသ-လာဘာလာဘ၌ မှုတ၍ ပစ္စက္ခ၌ ကျွတ်လွတ်ကြောင်း အကျင့် ရှိသူ, ၆-ကာဇက-ရဓသေ့ပရိက္ခာရ ကို ယူဆောင် လှည့်လည် နေလေ့ ရှိသူ, ၇-တိဒဏ္ဍ-နေရာ၌ အာလယ မထားပဲ တောင်ဝေး ဖွဲ့၍ ရောက်ရာတွင် အနည်းငယ် ဆိုင်းနေလျက် လှည့်လည်လေ့ ရှိသူ, ၈-မောနဝတ (မောရဝ)-စကား မပြော တကိုတော နေလေ့ ရှိသူ, ၉-သေဝ-သိဝ-ကို ဆည်းကပ် ကိုးစားသူ, ၁၀-ပါသုပတ-ပသုပတိနတ်ကို ကိုးကွယ်သူ, ၁၁-ပဉ္စ ပဒတ္ထိက-(ပဉ္စမရုတ္ထိက)-ပထဝီ, တေဇော, ဝါယော, အာပေါ, အာကာသ ဟူသော ပုဒ်-အနက် ၅-မျိုး သာ လောက၌ ရှိသည် ဟု အယူ ရှိသူ (၅ ရက် တကြိမ် သာ ကျင့်သူ သော်-ဟူ) ၁၂-ခဒာမကာရက-ခေဒမ-မည်သော ယဇ်ကို ပူဇော်သူ, ၁၃-မုဂဗ္ဗတ-ဆွံ့-အသော အလေ့-အကျင့် ရှိသူ, (မဟာဗ္ဗတ-ကျင့်နိုင်ခဲ၍ ကြီးလေးသော

အကျင့် ရှိသူ သော်—ဟူ၊) ၁၄—စာရဗာက—ပစ္စကျ ကိုယ်ကျိုးထွက် ကျင့်ကြံသော လောကာယတိက ဖြစ်သူ၊ ၁၅—တာပသ—ကိလေသာကို ပယ်လှန်ရန် အကျင့် ရှိသူ၊ ၁၆—နိဂဏ္ဌ-ရေအေး ပယ်ခြင်း စသော အကျင့် ရှိသူ၊ ၁၇—အာဇီက—အသက်မွေး ဝမ်းကြောင်းမျှ အစာ စားသုံး ကျင့်ကြံသူ၊

၁၈-ဗုဒ္ဓသိ-မြင့်မြတ်သော အကျင့်ကို ရှာဖွေသူ၊ ၁၉-ပါရာယနိက-ပရလောက် စသော ကျမ်းကို ဖတ်ရွတ်လေ့ ရှိသူ၊ ၂၀-ပဉ္စာတပိတ-၅ ပါးသော အခြင်း-အရာဖြင့် မိမိ ကိုယ်ကို ပူပန်စေသူ (ပဉ္စမာတိက—၀ါးမျိုးသော အကျင့် ရှိသူ) ၂၁-ကာပိလ—သင်္ချာ-ဒဿန စသော ကျမ်းများအရ ရုပ်ဓါတ်—နာမ်ဓါတ်ကို ကြံစည်လေ့ ရှိသည့် ကပိလ ရသေ့ တပည့် အဆက် ဖြစ်သူ၊ ၂၂-ကဏာဒ-ဝိဒေသိက-ဒဿန ကျမ်းကို စီရင်၍ ရုပ် နာမ် ဓါတ်တို့ကို ခွဲခြမ်းလေ့ရှိသည့် ကဏာဒ-ရသေ့ အနွယ်ဖြစ်သူ၊ ၂၃-သံသာရ-မောစက-သံသရာမှ လွတ်မြောက်သည် ဟု မိမိ ကိုယ်ကို ထင်မှတ်လေ့ ရှိသူ၊ ၂၄-အဂ္ဂိဘတ္တိက-မီးကို လုပ်ကျွေး ဆည်းကပ်လေ့ ရှိသူ၊ ၂၅-မဂဝတိက-သားနွားတို့ အလေ့ အကျင့် ရှိသူ၊ ၂၆-ဂေါဝတိက—နွားကဲ့သို့ အလေ့ ရှိသူ၊ ၂၇-ကုက္ကုရဝတိ-ခွေး-အလေ့-အကျင့် ရှိသူ၊ ၂၈-ကာမဏ္ဍလုက-ခရားဓေါ် ရသေ့-ပရိက္ခရာကို အမြဲလက်စွဲ လှည့်လည်သူ၊ ၂၉-ဝတ္ထုလိဝတိက-လင်းနို့ ကဲ့သို့ စောက်ထိုးနေထိုင်လေ့ ရှိသူ၊ ၃၀-ကေသင်္ဂိက—အဝတ် ထည် သာ ဝတ်ရုံ လေ့ရှိသူ၊ ၃၁-ဥဒကသုဒ္ဓိက-ရေချိုးခြင်းဖြင့် ကောင်းမှု စင်ကြယ်၏ ဟု အယူရှိသူ၊ ၃၂-သရီရသန္တာပက-ကိုယ်ကို ဆင်းရဲ-ပူလောင်စေသော အကျင့် ရှိသူ၊ ၃၃—သီလသုဒ္ဓိက-အကျင့် သီလဖြင့် လောက—ဒုက္ခမှ စင်ကြယ်၏ ဟု အယူရှိသူ၊ ၃၄ ဈာနသုဒ္ဓိက-ဈာန်ဖြင့် သံသရာ စင်ကြယ်၏ ဟု အယူ ရှိသူ—ဤအား ဒွါသဋ္ဌိဒိဋ္ဌိမှ တပါး စတုတ္တိံသ—ပါသဏ္ဍ အယူတို့တည်း။ ၎င်း အယူ အတွင်းသို့ ဗြဟ္မဇာလသုတ် ဒွါသဋ္ဌိဒိဋ္ဌိကို ထည့်၍ ဆန္နဝုတိ—ပါသဏ္ဍ ဖြစ်လေ၏။

ဆိုခဲ့သော စတုတ္တိံသ—ပါသဏ္ဍ အယူ ရှိသူများ အရ၊ ၁—မက္ခလိဂေါသာလ၊ ၂—ပူရာဏကဿပ၊ ၃—အဇိတ၊ ကေသကမ္ဗလ၊ ၄—နိဂဏ္ဌနာဋပုတ္တ၊ ၅—နန္ဒ၊ ၆—ဝစ္ဆ၊ ၇—ကိစ္စ၊ ၈—သံကိစ္စ၊ ၉—အာဇီဝက၊ ၁၀-မုဏ္ဍ-သာဝက၊ ၁၁-ဇဋိလက၊ ၁၂-ပရိဗ္ဗာဇက၊ ၁၃-မာဂဏ္ဍိက၊ ၁၄-တေဒဏ္ဍိက၊ ၁၅-အာရုဒ္ဓက၊ ၁၆-ဂေါတမက၊ ၁၇-ဒေဝဓမ္မိက၊ ၁၈-ကဏ္ဍကာမသာယိက၊ ၁၉-ဥဗ္ဘဋ္ဌိက၊ ၂၀-ဥက္ကုဋိက၊ ၂၁-ဖလကသေယျ၊ ၂၂—ထဏ္ဍိလသေယျ၊ ၂၃—ကေပသာယိက၊ ၂၄-ရဇောဇလ္လဓရ၊ ၂၅—အဗ္ဘောကာသိက၊

၂၆-ယထာသန္တုတိက, ၂၇-ဝေကတိက, ၂၈-အပ္ပါနကဗ္ဗာန်, ၂၉-သာယံတတိယတ-ဥဒကာရောဟန, ၃၀-ဝဂ္ဂုလိဝတိက, ၃၁-ပဥ္စာတပ္ပာတပ္ပက, ၃၂-ကေသမဿုလုဥ္စက, ၃၃-ပက္ကုဋ္ဌကစ္ဆာန, ၃၄-သဥ္စယဗေလဋ္ဌပုတ္တ-ဟု ၃၄ မျိုးသော အယူရှိသူတို့ကို အရှင်အာဂ္ဂဝံသတိဝံသ မထေရ်က ထုတ်ဆောင်လေသည်၊ ထို့မှ တပါး လည်း လေးဆယ်လောက်အထိ ပါသဏ္ဍ-ပုဂ္ဂိုလ်များ ရှိနိုင်သေး၏ ဟု ဆိုလေသည်၊ ၎င်းအလိုမှာ ပါသဏ္ဍ-ဟူသည် ထိုထို အယူ ရှိသူများကို ဆိုလိုရကား ၉၆-ပါးသော အယူတို့ ဟူသည်မှာ ထင်ရှားရာကို လိုက်၍ ကျမ်းဆရာတို့ ရေတွက်ကြခြင်းမျှ ဖြစ်သည် ဟု ဆိုလို၏၊ ဤနိုင်ငံတွင် ယခု-အခါ အမျိုးမျိုးသော အယူဝါဒသို့ လိုက်နာ ကျင့်ကြံနေကြသော ရသေ့-ပရိဗိုဇ် အမျိုးမျိုးကို ထောက်က ၎င်းဆိုချက်မှာ သင့်လျော်လှပေသည်။

# တေရသမ သိလာ'နုသာသနီ၊

## ၁၃၊ မူလပါဠိ၊

အဋ္ဌဝသာ' ဘိသိတသ ဒေဝါနံ ပိယသ ပိယ ဒသိနော ရာဇိနော ကလိင်္ဂါ ဝိဇိတာ; ဒိယဍ္ဎမာတေ ပါဏသတ—သဟသေ ယေ တတော အပဝုဍ္ဎေ; သတသဟသ မာတေ တတြ ဟတေ; ဗဟု တာဝတကေ ဝ မတေ၊ တတော ပစာ အဓုနာ လဓေသု ကလိင်္ဂေသု တီဝေ ဓံမဝါယာမေ ဓံမကာမတာ ဓံမာ' နုသထိ စ ဒေဝါနံ ပိယသ ယံ အထိ အနုသောစနံ၊ ဒေဝါနံ ပိယသ ဝိဇိနိတု ကလိင်္ဂါနိ; အဝိဇိတံ ဟိ ဝိဇိတံ မံနေ၊ ယေ တတြ ဝဓော ဝါ မရဏံ ဝါ အပဝါဟော ဝါ ဇနသ; သေ ဗာဎံ ဝေဒနိယ မတံ စ ဂရုမတံ စ ဒေဝါနံ ပိယသ—ဣဒံ ပိ စ တတော ဂရုမတတ ဒေဝါနံ ပိယသ—ယတြ ဝသံတိ ဗြာဟ္မဏာ ဝါ သမဏာ ဝါ အံနေ ဝါ ပါသံဍာ ဂဟထာ ဝါ; ယေသု ဝိဟိတာ၊ ဧသာ အဂဘုတာ သုသုသာ မာတာ ပိတိသု၊ သုသုသာ ဂုရုသု၊ မိတ သံထုတ—သဟာယ—ဉာတိကေသု ဒါသဘဋကေသု သံမ ပဋိပတိ၊ ဒိဋ္ဌဘတိတာ။

တေသံ တတြ ဟောတိ ဥပဃာတော ဝါ ဝဓော ဝါ အဘိရတာနံ ဝါ ဝိနိခမနေ၊ ယေသံ ဝါ ပိ သံဝိဟိတာနံ သိနေဟော အဝိပဟိနော၊ ဧတေသံ မိတသံထုတ-သဟာယ ဉာတိကာ ဝိယသနံ ပါပုဏာတိ၊ တတြ သော ပိ တေသံ ဧဝ ဥပဃာတော ဟောတိ၊ ပဋိဘာဂေါ စ၊ ဧတံ သဝ—မနုသာနံ ဂုရုမတံ စ ဒေဝါနံ ပိယသ၊ နထိ စ သေ ဇနပဒေ၊ ယတြ နတ္ထိ ဣမေ နိကာယာ အနံတ; ယေ နေသဗြာဟ္မဏေ စ သမဏေ စ၊ နထိ စ ကုဝါပိ ဇနပဒသိ; ယတြ နထိ စ မနုသာနံ ဧကတရမှိ ပိ ပါသံဍမှိ နာမ ပသာဒေ၊ သော အာဝတကော ဇနေ၊ တဒါ ကလိင်္ဂေသု . ဟတော စ လဓေသု ဟတော စ မတော စ အပဝုဍ္ဎော စ တတော သတဘာဂေ ဝါ သဟသဘာဂေ ဝါ ဒေဝါနံ ပိယသ။

ယော ပိ စ အပကရေယတိ, ဆမိတဝိယ—မတေ ဝ ဒေဝါနံ ပိယသ, ယံ သကံ ဆမိတဝေ၊ ယာ ပိ စ အဋဝိယော ဒေဝါနံ ပိယသ ဝိဇိတေ ဟောတိ; တံ ပိ အနုနယတိ, အနုနိဇ္ဈပယတိ၊ အနုတာပေ ပိ စ ပဘာဝေ ဒေဝါနံ ပိယသ၊ ဝုစတေ တေသံ ဒေဝါနံ ပိယသ, ကိံ'တိ အဝတြပေယု, န စ ဟနေယု၊ ဣဆတိ ဟိ သဝ-ဘုတာနံ, ဣဆတိ စ သံယမံ စ သမစရိယံ စ မာဒဝံ စ၊ အယံ စ မုခမတေ ဝိဇ-ယေ ဒေဝါနံ ပိယသ; ယော ဓံမဝိဇယော; သော စ ပုန လဓော၊ ဒေဝါနံ ပိယသ ဣဟ စ အံတေသု အဋ္ဌသု ပိ ယောဇန – သတေသု, ယတြ အံတိယောကေါ နာမ ယောန—ရာဇာ; ပရံ စ တေန အံတိယောကေန စတုရော ရာဇာနော; တုလမယေ စ နာမ, အံတိကိနေ စ နာမ, မကာ စ နာမ, အလိကသုဒရေ စ နာမ;။

နီစံ စောဋ—ပံဍိယာ အာဝံ တံဗပံဏိယာ; ဧဝံ မေဝ ဟေဝံ မေဝ ဣဓ ရာဇာ ဝိသယမှိ ယောန ကံဗောဇေသု နာဘ (ကေ) နာဘပံတိသု ဘောဇ—ပိတိနိကေ-သု အံဓပုလိဒေသု, သဝတြ ဒေဝါနံ ပိယသ ဓံမာနုသတိံ အနုဝတရေ၊ ယတြ ပိ ဒုတာ ဒေဝါနံ ပိယသ, ဒုတာ န ယံတိ; တေပိ သုတွာ ဒေဝါနံ ပိယသ ဓံမဝုတံ ဝိ-ဓာနံ ဓံမာနုသထိံ, ဓံမံ ဝိဓိယံတိ စ၊ ယေ စ လဓေ တေကေန ဟောတိ, သဝတြ ဝိဇယော, သဝတြ ပုန ဝိဇယော ပိတိရသော; (သော လဓာ သာ ဟောတိပိတိ၊) ပိတိ ဓံမ—ဝိဇယမှိ လဟုကာ တု ခေါ; သာ ပိတိ ပါရိတိက' မေဝ မဟဖလာ မံနံတိ ဒေဝါနံ ပိယာ တေယ စ အဌာယ အယံ ဓံမလိပိ လိခိတာ, ကိံ'တိ ပုတာ x ပပေါ တာ မေ အသု နဝံ ဝိဇယံ မာ ဝိဇေ'တဝိယံ မနိသု၊ သရကသေ ဧဝ ဝိဇယမှိ ခံတိ စ လဟုဒံဍတာ စ ရောစေတု၊ တံ'မေဝ စ ဝိဇယံ မနတု, ယေ ဓံမ-ဝိဇယော၊ သော ဟိဒ လောကိကော ပရလောကိကော။ သဝါ စ နိရတိ ဟောတု, ယာ ဥယာမရတိ၊ သာ ဟိ ဣဟလောကိကာ စ ပရလောကိကာ စ။

၁၉။ မှတ်ချက်။ ဤ ကျောက်စာများ၌ ကျွန်ုပ်တို့ ပြင်ဆင် ထည့်စွက်ရန် တာဝန် မဟုတ်, အက္ခရာ ပုဒ်နေ ပါဌ်သား မှန်ကန်စေရန် လည်း တာဝန် မဟုတ်၊ အတ္ထယုတ္တိ ရှိ—မှဲ ဆင်ခြင်၍, အနက်ရ ဖြစ်စေရန် ရှိမြဲတိုင်း၌ ဉာဏ်လောက်သလျက် အနက် ထင်ယူရန် သာ တာဝန်ရှိ၏။

## ၁၅၊ မြန်မာဘာသာပြန် ၁၃၊

### အရှုံး မရှိ အောင်မြင်ခြင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ခံ့ညားသော အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြီး မြတ် အဘိသိက် ခံယူတော်မူ၍, ရှစ်နှစ်မြောက်တွင် ကလိင်္ဂတိုင်းကို အောင်မြင်တော်မူ လေသည်၊ ထို အရေး ကိစ္စ၌ တသိန်းခွဲမျှသော ကလိင်္ဂ တိုင်းသား တို့သည် ထို တိုင်း ပြည်မှ ထွက်ပြေး ကြကုန်၍, တသိန်းမျှ လောက် တို့သည် ၎င်း, ထို့ထက် မြောက်မြား စွာ ၎င်း သေကြေ ပျက်စီးကြကုန်ပြီ၊ ထို မှ နောက် ဖြစ်သည့် ကလိင်္ဂ တိုင်းကို ရရှိ အောင်မြင်ပြီးသော ယခု အခါ၌ တရားတော်ဝယ် စိတ်လက် ထက်သန်စွာ လုံ့လပိုက်ခြင်း, တရားမှန်ကို လိုလားခြင်း, တရားမှန်ကို သြဝါဒ ပြုခြင်းများ၌ ကြောင့်ကြ နေထိုင်သော အ သောက မင်းကြီးမြတ်အား ကလိင်္ဂတိုင်းကို အောင်မြင်လိုက်ခြင်းကိုပင် မအောင်ရမည်ကို အောင်မြင်မိလေသော် တကား ဟု ဝိုးရိမ် ကြောင့်ကြ နောင်တ ဖြစ်တော်မူရလေသည်။

ထို ကလိင်္ဂတိုင်းကို အောင်မြင်ခဲ့ရာတွင် သတ်ပုတ်ခြင်း, သေကြေခြင်း, ထွက်ပြေး ခြင်း ဖြစ်ကြသည့် လူအပေါင်းတို့ အတွက် လည်း မင်းတကာတို့ ချစ်ကြည် လေးစားရာ ဖြစ်သော အသောက မင်းကြီးမှာ ပြင်းပြစွာ ခံစားရသော ဒုက္ခ-ဝေဒနာကြီး ဟု ၎င်း, အလွန် လေးလံသော ဝန်ထုပ် ဝန်ပိုးကြီး ဟု ၎င်း ထင်မှတ်တော်မူလေသည်၊ ထို့ ပြင်, မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းကြီးသည် ဤအချက် ကို လည်း ထို့ထက် သာ၍ မြောက်မြား ကြီးလေးသော ဝန်ထုပ်ဝန်ပိုးကြီး ထင်မှတ် စွဲယူတော်မူ၏၊- [အဘယ်အရာနည်း? ဟူသော်၊] ထို ကလိင်္ဂတိုင်းပြည် ထက်ဝန်းကျင်၌ ပုဏ္ဏားသူစင်, ရဟန်း-သူမြတ်နှင့် ထိုမှ တပါးသော အခြား ဘာသာဝင်သူ လူ ပုဂ္ဂိုလ် ပေါင်း များစွာတို့ နေထိုင် တည်ရှိကြ ကုန်၏၊ ထို-ဆိုခဲ့ပြီး ပုဂ္ဂိုလ် လူ-သူ အားလုံး တို့၌ အသီးသီး တည်ရှိကြသည် ဖြစ်၍ အထွတ် အမြတ် အပိုင်း-အပိုင်း ဖြစ်ကုန်သော အမိ-အဘတို့၌ နားထောင် လိုက်နာခြင်း, ဆရာသမားတို့၌ နာယူ ကျင့်သောင်ခြင်း;အသွေ-

ခင်ပွန်း-ချင်ကျွမ်းဝင်သူ အဖော်-သဟာယ်-ဆွေမျိုး-ဉာတိတို့နှင့် ကျွန်-အစေ-အပါးတို့၌ ကောင်းစွာ ကျင့်ဆောင်ကြခြင်း၊ မြဲမြံစွာ သည်းကပ် ခစားခြင်း - ဟူသော တရားမှန် အကျင့်များ ရှိကုန်၏၊ ထို ကလိင်္ဂတိုင်း ပျက်စီးရာ၌ ထို ဆိုခဲ့သော သူတို့၏ ထို အကျင့် ရှိသူများ ပျက်စီးခြင်း၊ သေကြေခြင်း၊ မိမိတို့ မွေ့လျော်ရာ အရပ်မှ ထွက်ခွာ ပြေးလွှားရခြင်းများ ထင်ရှား ဖြစ်ရလေ၏၊ ဆိုင်ရာ တရားကျင့်ဝတ်၌ တည်ကြစေကာ၊ ချစ်ခင် တသ်မက်ခြင်းကို မပျက်မယ်နိုင်ကြ သေးကုန်သော ထိုထို ပုဂ္ဂိုလ်တို့၏ အဆွေ ခင်ပွန်း-ချစ်ကျွမ်းဝင်သူ အဖော်-အပေါင်း-ဆွေမျိုး အပေါင်းတို့သည် ပျက်စီးခြင်း ဖြစ်ကြကုန်၏၊ ယင်းသို့ ဖြစ်ပျက်ရခြင်းသည် လည်း ၎င်းတို့၏ ပျက်စီးရခြင်းနှင့် ပျက်စီးခြင်း အဖို့-အစု ရခြင်း ပင် ဖြစ်လေသည်၊ ဤ ကဲ့သို့ ဖြစ်ပျက်ရခြင်း ကိစ္စကို မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းတြားမှာ သူတကာတို့ထက် ပိုမို လွန်ကဲ၍ ကြီးလေးသော ဒုက္ခ - ဝန်ထုပ် - ဝန်ပိုးကြီး ထင်မှတ် စွဲယူတော်မူသည်။

ဤ လောက၌ မြောက်မြားစွာသော တိုင်းပြည် နိုင်ငံ ဇနပုဒ်တို့တွင် တစုံတခု သော နိုင်ငံ၌ ရဟန်း-ပုဏ္ဏား သူတော်-သူမြတ် မရှိ၊ ကင်းမဲ့သော တိုင်းနိုင်ငံ ဟူ၍ မရှိချေ၊ ထို့ အတူလျှင် တစုံ-တခုသော အယူဝါဒကိုမျှ မနှစ်မြို့ မကြည်ညိုသော သူတို့၏ နေထိုင်ရာ တိုင်းပြည်-နိုင်ငံမည်သည် လည်း ဤလောက၌ မရှိနိုင်ချေ၊ ကလိင်္ဂ တိုင်းပြည်ကို တိုက်ခိုက် ဖျက်ဆီးသော အခါ၊ ကလိင်္ဂတိုင်းကို လက်ရ သိမ်းပိုက်သော အခါ၊ သတ်ဖြတ်ခြင်း ခံရသူ၊ သေကြေကြသူ၊ ထွက်ပြေးကြ သူများတွင် ထိုမျှ များပြားသော တစုံ-တဦးသော အယူ-ဘာသာဝင် ရဟန်း-ပုဏ္ဏား၊ လူ-သူတော် ကောင်းတို့ ပါရှိကြလေရာ၊ ထိုသို့သော ရဟန်း-ပုဏ္ဏား၊ လူ သူ-အယူဝင် သူကောင်းတို့ ပျက်စီးရရေး ကိစ္စ၌ မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းတြားမှာ အစိတ် အစုပေါင်း အရာ ၎င်း၊ အထောင် ၎င်း မကောင်းမှု ဝေစု ကျပါဝင်တော်မူရလေသည်။

ထို့ပြင်၊ ထိုအရေး ကိစ္စ အတွက် တစုံ တရာ ကျေးဇူး မဲ့ကို ပြုလုပ် ခံယူကြရသူတို့အား လည်း မင်းတကာတို့ ချစ်ကြည် လေးစားရာ ဖြစ်သော အသောက မင်းတြားကြီး၏ ထို အမှုကို သည်းညည်း ခံနိုင်ခွင့် ရှိက၊ သည်းညည်း ခံကြရန် တိုက်တွန်းတော်မူ အပ်ကုန်သည်၊ ထို မှ တပါး မင်းတကာတို့ ချစ်ကြည် လေးစား အပ်သည့် အသောက မင်းတြားကြီး၏ တိုင်းနိုင်ငံတော် ဖြစ်သော ကလိင်္ဂ တိုင်း-နယ် တောတောင် အရပ်၌ နေထိုင်သူ အပေါင်းကို လည်း ချစ်ခင်ခြင်း မေတ္တာ အထူး ထား၍၊ အဖန်ဖန် မိန့်ကြား သိစေတော်မူအပ်ပြီ၊ မင်းတကာတို့ လေးစား

* [illegible]



အပ်သည့် အသောက မင်းတြားကြီးမှာ ထိုသတို့ အတွက် နောင်တ သံဝေ ရရှိ-ဖြစ်ပေါ်ရသည့် အတိုင်း, မည်သို့ အားဖြင့်*(အဝတြပေယု - အပတာပေယု) ပူပန်နှိပ်စက် မရှိစေရကြောင်းနှင့် မညှဉ်းဆဲ၊ မသတ်ဖြတ်ရကြောင်းများကို ထို တော-တောင် နေထိုင်သူတို့အား အသောက မင်းတြားကြီးက ပြန်ကြား ပြဆိုတော်မူခဲ့ကြောင်း။ *

ထိုသို့ မိန့်ပြန့်ခွင့် သင့်လှပေ၏; [အသောက မင်းတြားကြီးသည်] ကြွင်းမဲ့ဥဿုံ အလုံးစုံသော သတ္တဝါ-ပိုလ်ခြေ အပေါင်း တို့၏, အချင်းချင်း တဦးသည် တဦးအား စောင့်စည်း ထိန်းသိမ်းကြခြင်း, ကိုယ်တူ-စိတ်မျှ ကျင့်ဆောင်ကြခြင်း, ရိုးသား-ဖြောင့်မတ်ကြခြင်းကို အထူးသဖြင့် လိုလားတော်မူလေသည်၊ မင်းတကာတို့ လေးစားအပ်သည့် အသောက မင်းတြားကြီးသည် တရားသဖြင့် အောင်မြင်အပ်၍, နောက်ထပ် တဖန် လည်း အောင်မြင်ခြင်းကို ဖြစ်စေတတ်သည့် အောင်မြင်ခြင်းကို သာ မှုချ စင်စစ် အောင်မြင်ခြင်း ဟု ထင်မှတ် စွဲယူတော်မူသည်၊ မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းတရားကြီး၏ မူလနိုင်ငံတော်ရင်း၌ ၎င်း, ထိုမှ ယူဇနာ ရှစ်ရာကွာခြားသည့် လက်နက် နိုင်ငံတော် အဆုံး အပိုင်း အခြား ဖြစ်သော ယောန်းပြည်ဘုရင် ၎င်း, ယောန်း နိုင်ငံမှ တပါး ၎င်း နှင့် စပ်ဖက် ယှဉ်တွဲသည့် တုလမယ်-ပြည်, အန္တိကိန်-ပြည်, မကာပြည်, အလိက-သုဒရပြည်, ဤ လေးပြည်ထောင် တို့၏, ဘုရင်မင်းတြားတို့ ၎င်း, လက်အောက် နိုင်ငံတော် ဖြစ်ကြသော စောဠတိုင်း, ပဏ္ဍျတိုင်း, တမ္ဗပဏ္ဏိတိုင်း တိုင်အောင်သော မင်းတို့ ၎င်း;။

ဤ အတူ နှင်နှင် ဤ ညွှန်ခဲ့သည့် နိုင်ငံတော်များ၌ အပါ-အဝင် ဖြစ်ကုန်သည့် ယောန်း တိုင်း, ကမ္ဗောဇတိုင်း ဟူသော တိုင်းစွန် နယ်ဖျားတို့၌ ၎င်း, ဘောဇတိုင်း, ပိ ထိနိက် တိုင်းတို့၌ ၎င်း, အန္ဓ တိုင်း ပုလိဒ် တိုင်းတို့၌,- ဤ တိုင်းပြည် အရပ်ရပ် တို့၌ နိုင်ငံ အရှင် ဘုရင်မင်းတြားတို့ လည်း မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းတြားမြတ်၏ တရားကျ အဆုံး-အမ သြဝါဒ ပေးကြား မိန့်ပြန့်ချက်ကို အတူ လိုက်နာ ကျင့်ဆောင်ကြကုန်သည်၊ ထိုမှ တပါးတုံ, မင်းတကာတို့ ချစ်ကြည် လေးစားအပ်သည့် အသောက မင်းတြားကြီး၏ သံတမန်တော်များ စေစား ရောက်ပေါက်ကြရာ, သို့ မစေစား မရောက်ပေါက်ရာ နိုင်ငံ သခင် ဘုရင်အပေါင်း

တို့သည် လည်း မင်းတကာတို့ ချစ်ကြည် လေးစားရာ အသောက မင်းကြီး၏ တ-ရား သတင်း တရား အစ်-အရင်, တရား-ဩဝါဒ ဆုံးမချက်များကို ကြားနာ သိရှိကြ၍, တရား မှန်ကန်သည်ကို စိမ် လိုက်နာကြကုန်သည်။

ဤသို့ ညွှန်ပြခဲ့ပြီး တိုင်းပြည် နိုင်ငံများကို တရား-အတိုင်း ရရှိလေ ရကား, ဤမျှဖြင့် နိုင်ငံ ခပ်သိမ်း၌ အောင်မြင်ခြင်း, နောက်ထပ် တဖန် အောင်မြင်ခြင်း, နှစ်-သက် ရွှင်ပျသော အရသာ ပေါ်ထွက်ခြင်း ဖြစ်လေသည်၊ [ထိုသို့ ရရှိခြင်း သာ နှစ်သက်ရခြင်း ဖြစ်လေသည်၊] တရား သဖြင့် အောင်မြင် ရရှိခြင်း အတွက် နှစ်သက် ရခြင်းမှာ နည်းပါးတုံသည် ပင် ဖြစ်စေ, ထိုတရား ဓမ္မ ဝိဇယကို ဘဝကမ်း အဆုံး ဆောက် ရှုယ် ဖြစ်၍, အကျိုး များမြတ်သည် ဟု မင်းတကာတို့ ချစ်ကြည် လေးစား အပ်သည့် အသောက မင်းကြီးကြီး ထင်မှတ် ယုံးယူတော်မူသည်၊ ထိုသို့ ပြည့်နှံခဲ့သည့် တရား အတိုင်း နှစ်သက်ရစေခြင်း အကျိုးကို ရည်ရွယ်ချက် ထား၍ပင် မည်သို့ အားဖြင့် သားတော် အစဉ် (မြေးတော် အဆက်) မြတ်တော် အညွန့် အဖွန့် ရှည်စွာ မတရားသော အသစ် တဖန် အောင်ခြင်းကို အောင်ခြင်း မထင်မှတ် ကြကုန်ပဲ ဖြစ်ကုန်အံ့နည်း ဟု ဤ တရား စာတော်ကို ရေးသားတော်မူအပ်၏။

မြှားလက်နက် ဖြင့် ပစ်ခတ် အောင်မြင်ရခြင်း၌ အား–လုံ့ လလျော့ပေါ့၍, သည်းခံခြင်း, ပေါ့လျော့သော အပြစ်ဒဏ် ထားခြင်းများကို အားရ နှစ်မြို့ကြစေသတည်း၊ တရား နည်းကျ အောင်မြင်ရခြင်းကို သာ မှန်သော အောင်မြင်ခြင်း ဟု၊ နှစ်မြို့က်ကြ စေသတည်း၊ ထင်ရှား ဆိုရသော်, ထိုထိုသော တရားမှန် အောင်ခြင်းသည် သာ ဤ ပစ္စုပ္ပန်ကျိုး, တမလွန်ကျိုး ၂ မျိုးနှင့် စပ်ဆက်လေသည်၊ ထို့ပြင်, ထိုသို့ မြင့်မြတ်ရာ၌ အားထုတ်၍, ဖြစ်ပွားသော မွေ့လျော်ခြင်းကို အားလုံး ပျော်မွေ့ကြ စေကုန်၊ အမှန် အားဖြင့် သို့ မွေ့လျော်ခြင်း သာ ဤပစ္စုပ္ပန် ကောင်းကျိုး တမလွန်ကောင်းကျိုး ဖြစ်-စေလသည်။

၁၆၊ ဥပဒေသ၊———ဤ ကျောက်စာ အရ အသောက မင်း တရားကြီးသည် မင်းတို့ ဓမ္မတာ အတိုင်း လက်နက် စွဲကိုင် တိုက်ခိုက် ရယူခြင်းကို မနှစ်သက်, မတရား အောင်ခြင်း ထင်မှတ်တော်မူ၏။ ထိုသို့ မဟုတ်ပဲ, တရား ညွှန်ပြ ကျင့်ဆောင် လိုက်နာ

စေခြင်းကို သာ တရားသဖြင့် အောင်ခြင်း ဟု ထင်မှတ်၍, ၎င်းကို သာ နှစ်သက်လေသည်၊ ထို စကားမှာ——

နခေါ ဇိတံ သာဓု ဇိတံ,
ယံ ဇိတံ အဝဇီယတိ၊
တံ ခေါ ဇိတံ သာဓု ဇိတံ,
ယံ ဇိတံ နာ' ဝ ဇီယတိ။

ဟူသော ဘုရားဟောဒေသနာတော်နှင့် ညီညွတ်၍, နှစ်ခြိုက်ဖွယ် ဖြစ်၏၊ ထို စကားဖြင့် မင်းတို့ အလို ဖြစ်သော တိုင်းကား နိုင်ငံ အောင်မြင်ရေး အတွက် ကျင့်ဆောင်သည် ဖြစ်စေ, မကျင့်ဆောင်ပဲ နေစေ အရေးမကြီး; တရားသဖြင့် အောင်နိုင်ရန် ကမ္ဘာလောက တခုလုံးကို တရား မြသာ အောင်မြင်ရန် ကြိုးပမ်း ကြရ မည်ကား အမှန် ဖြစ်သည် ဟု ကျွန်ုပ်တို့အား ညွှန်ပြ၏။

၁၇၊ မှတ်ချက်၊ ၊'နတ္ထိ ဧ ကုဝ ါ' ဝိ ဇနပဒသိ, ယတြ နထိ ဧ မနုသာနံ ကေတာရမှိ ဝိ ပါသံဍုမိ နှ နာမ ပသာဒေ ါ—ဟူသော စကား အရ, 'အယူတာသာ တခုခုကိုမျှ မစွဲယူမယုံကြည်သော ဇနပိုဒ် မရှိ' ဟူသော စကားဖြင့် များသော အားဖြင့် လောက၌ အယူ—ဝါဒ တခုခု စွဲလမ်းတတ်ခြင်းမည်သည် ဓမ္မတာ ဖြစ်ကြောင်း သိစေ၏၊ သို့ရာတွင်, လောက၌ အယူ — ဝါဒ တခုခုမျှ မစွဲးယူသူ မည်သည် မရှိ ဟု ကား မဆိုလိုကြောင်း သိအပ်၏။ မည်သို့ ဖြစ်စေ အသောက မင်းကြီး၏, ဆိုလိုရင်းမှာ အယူ—ဝါဒ တခုခုကို စွဲးယူရိုး ဓမ္မတာ ဖြစ်၏။ ထို သို့သော အယူ—ဝါဒ တစုံ-တခု စွဲးယူသူတို့သည် အယူ-ဝါဒ ကင်းမဲ့သူ တို့ထက် မြင့်မြတ်ကုန်၏၊ ထိုသို့ အယူ ရှိသူတို့အား ဖျက်ဆီးခြင်းမှာ အပြစ် ပို၍ ကြီးမား၏ ဟုလိုသတည်း။

ဤ ကျောက်စာ အရ အသောက မင်းက ကလိင်္ဂ တိုင်းပြည်ကို နိုင်စက် အောင်မြင်ရခြင်း အတွက် နောင်တ ရသည်ကို ပြောဆိုချက်မှာ ထို ကလိင်္ဂတိုင်း-သူတို့က မိမိအား ရန်တုန့် မမူစေရန် ရည်ဆောင် ပြောဆိုခြင်း လည်း မဟုတ်; ထိုသို့ နိုင်စက် အောင်မြင်ပြီးမှ ကြေကြေ နုပ်နုပ် ဖြစ်စေရန် လောကွတ် ပြောခြင်းလည်း မဟုတ်; စင်စစ်ကား မိမိနှစ်လုံးတွင်း၌ ရှိသည့် အတိုင်း သံ:ဝေ ရရှိခြင်းကြောင့် မိန့်ပြန်ခြင်းသာ ဖြစ်လေသည်၊ ထို့ပြင် တိုင်းသား ပြည်သူ အပေါင်းတို့ တညီ နှင့် တညီ စောင့်စည်းကြခြင်း, စိတ်တူ ကိုယ်မျှ ဖြစ်ကြခြင်း, ရိုးသား ဖြောင့်မတ်ကြခြင်း, ဤ ၃ မျိုးနှင့် ပြည့်စုံကြရန် တိုက်တွန်းချက်မှာ လည်း အထူး မှတ်ဖွယ် ဖြစ်ပေ၏၊ ထို့ပြင် တရား သဖြင့် အောင်မြင်ခြင်းမှာ နှစ်သက်ခြင်း ပီတိကိုဖြစ်စေတတ်၍; မတရား သဖြင့် အောင်ခြင်းမှာ နှစ်လုံး မသာခြင်း ကို ဖြစ်စေတတ်သည် ဟူသော အချက်မှာ လည်း မှတ်ဖွယ် ပင်ဖြစ်၏ ထို့ပြင်, လက်နက်ဖြင့် အောင်ခြင်း၌ အားမထုပ်ကြရန်, အပြစ် ဒဏ်ထား လျှော့ပေါ့ကြရန် ဆိုချက်မှာ လည်း မှတ်သားဖွယ် ဖြစ်၏။

၁၀၊ မှတ်ချက် ၂၊ ကလိင်္ဂတိုင်းဟူသည် ဗင်္ဂလား ပင်လယ်အော် ကမ်းရိုးတလျှောက် မဟာနဒီမြစ်နှင့် ဂေါဓာဝရီမြစ် အကြား ဩရိဿာနယ် အနီး အရပ် တည်း၊

စတ္တာရော ရာဇာနော အရ

က၊ တုလမယ—ပတိုးလင်းမီး, ဖစ်လဲ့ ဒက်လဖိုးဆ် မင်း ဤဂျစ်၊
ခ၊ အန္တိကိနိ—အန္တိဂိုးနီးဆ်, ဂေါနေ့တားဆ် မဲ့ဆီးဒနီယာ၊
ဂ၊ မကာ (မဂါ)—ဆိုက်ရီးနီး, ဤဂျစ် အနောက်,
ဃ၊ အလိက သုဒရ-အလက္ခစန္ဒ-အပွ ရဆ်ပြည်များ ဟု လေးပြည်ထောင် တို့ကို မှတ်သင့်ကုန်၏။

တော ဇ—ဤ လစ္ဆာပုရ် အရပ် ဗားရား သို့မဟုတ် ဝိန္ဓာရဘာ-နယ်။
ပုလိဒ-တောင်းတန်းနယ်သူများ, ဝိန္ဓျအရပ်ရှိ ဗီးလ် လူမျိုး ကဲ့သို့
အန္ဓ-ဟူသည် မဒြာဆ်နယ် တောင်ပိုင်းကို ယူရန် ရှိ၏၊

# ဗုဒ္ဓသမ သိလာ နသာသနီ၊

## ၁၄၊ မူလပါဠိ၊

အယံ ခံမလိပိ ဒေဝါန် ပိယေန ပိယဒသိနာ လာဇာ လေခါပိတာ၊ အ...
ယော သံခိတေန; အထိ မဈိမေန; အထိ ဝိထဋေန၊ န စ သဗတြ သဗတ ဃဋိတ...
မဟာံတေ ဟိ ဝိဇိတေ, ဗဟုကေ စ လိခိတေ, လိခါပေသာမိ (စေဝ) နိကျံ၊ အထိ...
အတြ ပုန ဝုတံ, တသ တသ အထသ မဓုရတာယ, ကိံတိ စ ဇနော တထ...
ပဋိပဇေယာ'တိ၊ တော သိယာ ဝေ ံ ပိ စ၊ တတြ ကိံ စိ အသမတံ လိခိတံ, အသမိ...
ဝါ သံခယေ ကာရဏံ ဝါ အာလောစယိတွာ လိပိကရာ' ပရာဓေန။

# ဗုတိဗုဒ္ဓသ သိလာ ပတ္တာ' နသာသနီယော

# နိဋ္ဌိတာ။

## ၁၅၊ မြန်မာဘာသာပြန်၊ ၁၄၊

### ကျောက်စာမှု အကွဲးကွဲး ဖြစ်ရပုံ၊

ဤတရား စာတော်ကို မင်းတကာတို့ ချစ်ကြည်လေးစားအပ်၍ ပိယဒသိ ဟု...
ဝှံ၍ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ရရှိသော အသောက...
မင်းကြွားကြီး ရေးသား ထားရှိစေတော် မူအပ်သည်။—အသောက မင်းတရား စာတော်...
အရပ်ရပ်မှာ အကျဉ်းချုပ် အားဖြင့် ၎င်း, အလတ်စား အားဖြင့် ၎င်း, အကျယ်စား...
အားဖြင့် ၎င်း, အထူးထူး ရှိချေသည်၊ ထို့ပြင်, အားလုံး စာတော်များ၌ အခြင်း † ခပ်သိမ်း...
အားလုံး အကြွင်းမဲ့ အားဖြင့် မတူတန် မစပ်ဖက်သော အရာများလည်း ရှိလေသည်၊...

---

† အခြင်းခပ်သိမ်း၌ ခြင်း—မှာ အခါ ခပ်သိမ်းကို ဆိုလိုသဖြင့် အခြင်းအရာက ခြင်းနှင့်... အနက်—သဒ္ဒါ တူသင့်သောကြောင့် ရေးနှင့် မရှိသင့်၊

ထိုသို့ ဖြစ်ရပုံ အကြောင်းမှာ--ကျယ်ဝန်းစွာလှသော တိုင်းနိုင်ငံကြီး အတွင်း၌ မြောက်မြားလှစွာသော တရား စာတော်များကို အမြဲ မပြတ် နိစ္စဗဒ် ရေးသားစေတော် မူလေသည်၊ ထို့ပြင်၊ ထိုတရား စာတော်များ၌ အဖန်ဖန် အထပ်ထပ် ပြဆိုချက် ပြောကြားချက်များ လည်း ပါရှိခဲ့လေသည်၊ ထိုသို့ဖြစ်ရခြင်းမှာ ထိုထို တရား စကား ဆိုင်ရာ ပြောဆိုရေး ကိစ္စ၏ ချိုသာသောကြောင့် ၎င်း၊ ထိုသို့သော အလို--အထူးထူးဖြင့် ထိုသို့ ညွှန်ပြတိုင်း လူအပေါင်းတို့ ကျင့်သောင် လိုက်နာစေရန် ၎င်း၊ ထိုသို့သော အကြောင်းများကြောင့် ဤသို့ ဖြစ်၏၊ ထိုတရား စာတော်များ၌ အနည်းငယ် မတူ မမျှသော ရေးသားချက် စကားအသွားများ ရှိရသည့် အကြောင်းကား မတူ ကွဲလွဲသော တရား စကား အကျဉ်းချုပ် ပြုလုပ် ပြောကြားချက်များကို တဆင့် မိန့်ပြန် ပြောကြား ရေးသားစေရာ၌ မှားယွင်း ရေးသားမိသောကြောင့် ဖြစ်လေသည်။

၁၆ မှတ်ချက်၊ ။ဤကျောက်စာမှာ အရပ်ရပ် တရား ကျောက်စာများ ထားရှိပြီးနောက်၊ ထိုထို အရပ်များ၌ ကွဲပြားသော စကားသုံးပုံ၊ အကျဉ်း--အကျယ် အသွယ်သွယ်ကို အသောကာက မင်းတရားကြီး ကိုယ်တော်တိုင် တွေ့မြင်တော်မူရ၍ ဖြစ်စေ၊ ထိုသို့ ကွဲပြား ရှိကြပုံကို လျှောက်ထား သိရှိရ၍ ဖြစ်စေ၊ ထပ်မံရေးသား စိုက်ထူခဲ့ချက် ဖြစ်ခဲ့လေသည်၊ အကြောင်းကား ထိုထို ကျောက်စာတို့ သဘောမှာ မိမိ ပြောဆိုချက် အတိုင်း ချည်း၊ သဘောမပြား၊ စကား အကျဉ်း--အကျယ် သုံးနှုန်းပုံမျှ ကွာခြားသောကြောင့် တည်း။

ထိုသို့ သဘော ရှိသော ကျောက်စာ များ၏ မူလအခြေ၌ ကျွန်ုပ်တို့မှာ တခုသော ကျောက်စာတွင်၍မျှ အသောကာ မင်းတရား ဆိုလိုရင်း အတိုင်း အပြည့်-အစုံမသိရ၊ ထိုထို ကျောက်စာတော် အများ-အပြားကို နှိုးနှော ပေါင်းသဖြင့် သာ ၎င်း၏ ဆိုလိုရင်း အာဘော်ကို မှန်းဆ ကြံစည် သိရသောကြောင့် ထိုထို ကျွန်ုပ်တို့ ပြန်ဆိုခဲ့ချက် အားလုံးမှာ အသောကာ မင်းတရား၏ စကား မှန်ဖြစ်ပြီဟု ထင်မှတ် ယုံကြည်ဖွယ် မရှိချေ၊ သို့ရာတွင်၊ ၎င်း ဆိုလိုရင်း အဓိပ္ပါယ် ပင် ဖြစ်သည်ဟု ကား ထင်မှတ် ယုံကြည်ဖွယ် ရှိလေသည်၊

ဤမျှဖြင့် အရှင် အာဒိစ္စဝံသ မထေရ် မြန်မာ ဘာသာ ပြန်ဆိုအပ်သော အသောကာ ကျောက်စာ များအနက် ရှေးဦးစွာသော ၁၄ မျိုးသော ကျောက်ပြား စာတော်ကြီး ပြီးဆုံးသတည်း။

## ဂ၊ အခဏ်း ၃။

## ကျောက်တိုင် ကျောက်စာတော် ဩဝါဒ ၇ မျိုး။

# အသောက သတ္တ သီလာထမ္ဘ လေခါယော။

## ပဌမ သီလာထမ္ဘ လေခါ အနုသာသနီ

### ၁။ မူလပါဠိ။

ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ အာဟာ; သဍုဝီသတိဝသ အဘိသိတေန မေ ဣယံ ဓမ္မလိပိ လိခါပိတာ။ ဟိဒတ ပါလတေ ဒု သံပဋိပါဒယေ အံနတ အဂါယ ဓမ္မကာမတာယ, အဂါယ ပလီခါယ, အဂါယ သု သူသာယ အဂေန ဘယေန, အဂေန ဥသာဟေန။ ဧသ စု ခေါ မမ အနုသထိယာ ဓံမာပေခါ ဓမ္မကာမတာ စ သုဝေ သုဝေ ဝဍိတာ ဝဍိသတိ ဝေဝ; ပုလိသာ ပိ စ မေ ဥက္ကသာ စ ဂေဝယာ စ မဇ္ဈိမာ စ အနုဝိဓီယန္တိ; သံပဋိပါဒယန္တိ စ အလံ စပလံ သမာဒပယိတဝေ။ ဟေဝံ ဝေဝ အံတ မဟာမာတာ ပိ။ ဧသာ ဟိ ဝိဓိ ယာ ဣယံ ဓမ္မေန ပါလနာ, ဓမ္မေန ဝိဓာနေ, ဓမ္မေန သုခီယနာ, ဓမ္မေန ဂေါတီ တိ။

[ဒေဟလီ သိဝါလိက်, ဒေဟလီ မီရတ်, အလ္လာဟာဗတ်, လော်ရိယာ– (အရရာဇ်) လော်ရိယာ–(နန္ဒန်ဂဍ်) ရာမ်ပူရဝါ အစရှိသော ကျောက်တိုင်စာများတွင် တွေ့ရသော အက္ခရာ ညီညွတ်ကြသည်။]

၂။ မှတ်ချက်။ ကျောက်စာတွင်ပါသော ဒေဝါနံ ပိယေ မှာ ဒေဝါနံ ပိယော နှင့်, ပိယဒသိ မှာ ပိယဒဿီ နှင့် ညီ၏, လာဇာ မှာ ရာဇာ နှင့်, ဟေဝံ မှာ ဧဝံ နှင့်, သဍုဝီသတိဝသ အဘိသိတေန မှာ ဆဗ္ဗီသတိဝဿ အဘိသိတေန နှင့်, ဣယံ မှာ အယံ နှင့်, ဓမ္မလိပိ မှာ ဓမ္မလိပိ နှင့်, လိခါပိတာ မှာ လေခါပိတာ နှင့်, ဟိဒတပါလတေ မှာ ဣဓတ္တပရတ္တေ နှင့်, အံနတ မှာ အညတြ နှင့်, အဂါယ မှာ အဂ္ဂါယ နှင့်, ပလီခါယ မှာ ပရိက္ခာယ နှင့်, သုသူသာယ မှာ သုဿူသာယ နှင့်, အဂေန မှာ အဂ္ဂေန နှင့်, ဥသာဟေန မှာ ဥဿာဟေန နှင့်, ဧသ စု မှာ ဧသော တု, ဒုတိယ ပုဂ္ဂလ နှင့်, အနုသထိယာ မှာ အနုသတ္ထိယာ နှင့်, ဓံမာပေခါ မှာ ဓမ္မာပေက္ခာ နှင့်, သုဝေ သုဝေ မှာ

ဝဇ္ဇိတာ နှင့်, ဝဝိသတိ မှာ ဝဇ္ဇိသတိ နှင့်, ပုလိသာ မှာ ပုရိသာ နှင့် ဥကာ—
သာမှာ ဥက္ကဋ္ဌာနှင့်, ဓဂဝယာ မှာ နဝကာ နှင့်, မဇ္ဈိမာ မှာ မဇ္ဈိမာ နှင့်, အလံစပလံ
မှာ အထ စာ ပရံ နှင့်, ယောမေဝ မှာ ဧဝ မေဝ နှင့်, အံတ မဟာ မတာ မှာ အန္တော
မဟာ မတ္တာ နှင့်, ဂုတိ မှာ ဂုတ္တိ နှင့် ညီမျှသည် ဟု မှတ်။ သဒ္ဓုဝိသတိ ရှိလျက် ဆဝိ–
သတိ x ဆဗ္ဗိသတိ ဟု ပြင်ရသည်မှာ စဒ္ဒိ ဝိသတိ ဟူသော သင်္ကေတ ပုံရင်းမှ
ကျောက်စာ ထုလုပ် ကူးယူရာတို့၌ မှားယွင်းခဲ့သည် ဟု သိအပ်သောကြောင့်တည်း။

# ၃၊ မြန်မာဘာသာပြန် ၁၊

## မျက်မှောက် တမလွန် ၂ ကျိုးရခဲ့ယဥ်းပုံ၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိ ဟု ဗွဲ့ရှိ ခပ်နိုပ် အရှင်
မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်းကြီး
ကြီးသည် ဤသို့ မိန့်ပြန်ထားတော်မူပြီ၊ (ဤစကားမှာ စာရေးစေသော အမတ်၏ စကား;
ဤဆို လတ္တံ့ သာ အသောကမင်း၏ စကားတည်း၊) ငါ ဘုရင်မင်းမြတ်သည် အဘိသိက်
ခံတော်မူ၍ နှစ်ဆယ့် ခြောက်နှစ် မြောက်လတ်သော်, ဤ တရားစာတော်ကို ရေးသား
စေတော်မူအပ်၏၊ ဤ ပစ္စက္ခ ကောင်းကျိုး စီးပွား တပါးသော ဘဝ၌ ရရှိ ခံစံရန်
ကောင်းကျိုး စီးပွားတို့ကို အထူးမြောက်မြားစွာ လိုလားအပ်သော တရားတော်နှင့်
လွတ်ကင်း၍, ၎င်း, အထူး တလည် ကြံစည် ဆင်ခြင်သော ဉာဏ်နှင့် ကင်း၍, ၎င်း,
ကောင်းမွန် ကျနစွာ ဆရာတို့ အဆုံး-အမကို နာခံသော လိုက်နာခြင်းမျိုးနှင့် ကင်း
လွတ်၍, ၎င်း, အထူး ဆင်ခြင် သိမြင်တတ်သော ဉာဏ်ဖြင့် ဘဝ သံသရာဘေး, အပါယ်
ဘေး, မင်းစိုး ဘေးကို တွေးတော ကြောက်ရွံ့ခြင်း နှင့် လွတ်ကင်း၍, ၎င်း, အထူး
ထိုက်ထုတ် အားခဲ မြဲမြံ တည်တန့်သော လုံ့လမျိုးနှင့် လွတ်ကင်း၍, ၎င်း ဖြစ်မြောက်ရန်
ခဲယဥ်းကြီး ခဲယဥ်းလှပေသည်။

ဤ သည့် ငါ မင်းတရား၏ တရား ဩဝါဒ အဆုံး—အမတော်ဖြင့် တရား
ဉာဏ်မြင် ဆင်ခြင် တတ်သူ, တရား သဘောကို လိုက်လျော လိုသူသည်ကား

အသစ် အသစ် ကားပွင့်, အဆင့်ဆင့် တိုးပွားမည် သာ တည်း၊ ငါ ဘုရင်မင်းမြတ်၏ အစိုးရ အဖွဲ့ဝင် အရာ အတန်း ကြီးကျယ် မြင့်မြတ်သူ, အရာ အတန်း အလတ်စား ဖြစ်သသူ, နိမ့်သသူတို့သည် လည်း ငါ မင်းမြတ်၏ အမူ အယာကို တုမူ လိုက်နာ၍ စီမံ ခန့်ခွဲကြကုန်စေ; ကောင်းစွာ ဆင့်ကား ဖြစ်ပွား တိုးတက် ကြကုန်-စေ၊ ထို့မှ တပါး, ငါ မင်းမြတ်၏ မှူးတော် မတ်တော်ကြီးတို့က လည်း ထိုသို့ စီမံခွင့်, ပြုလုပ် စေခွင့်များ အတွက် ငါ မင်းမြတ်၏ အလားတူ ဆင့်ဆို ခန့်ခွဲကြကုန်၊ ထိုသို့ စီမံ ခန့်ခွဲခြင်းသည် သာ တရား သဖြင့် စောင့်ရှောက်ခြင်း, တရား သဖြင့် စီမံ ခန့်ခွဲခြင်း, တရား သဖြင့် တိုင်းနိုင်ငံသူ နိုင်ငံသားတို့ကို ချမ်းသာစေခြင်း, တရား သဖြင့် လုံခြုံစေခြင်း မည်လေသည်-ဤသို့ အသောက မင်းတရားမြတ်ကြီး မိန့်ပြန် ထားရှိတော်မူလေပြီ။

၄၊ ဥပဒေသ၊ ။ဤ ကျောက်စာ၌ ပစ္စက္ခ ကောင်းကျိုး, တမလွန် ကောင်းကျိုး ရရှိအောင် လုပ်နိုင်သူကို သာ ပညာရှိ ဆိုရကြောင်း ဘုရားဟော ရှိသည့် အရ, ထိုသို့သော အကျိုး ၂ မျိုးကို သာမန် တရား ဆန္ဒ ရှိခြင်း, သာမန် ဆင်ခြင် ဥာဏ်ရှိခြင်း စသည်ဖြင့် မဖြစ်နိုင် ဟု ဆိုခြင်းမှာ အထူး မှတ်လောက်သော အချက် ဖြစ်၏၊ ထို့ကြောင့် ပစ္စက္ခ တမလွန် ကောင်းကျိုးကို ရရှိအောင် မိမိနှင့် အလားတူ လုံ့လ ထုတ်စိုက်ရန်ကို တိုက်တွန်းလေသည်၊ ဤစကားဖြင့် အသောက မင်းတရားကြီးသည် မိမိအလား သူတပါးအကျိုးများကို လည်း ကောင်းကောင်း ဆောင်ရွက်သူ ဖြစ်ကြောင်း သိအပ်၏၊ ကျွန်ုပ်တို့အား လည်း ထိုသို့ ပင် ညွှန်ပြလေသည်။

မှတ်ချက်၊ ။ပစ္စက္ခ တမလွန် ကောင်းကျိုး ၂ မျိုးလုံး ပင် (၁) အကျိုးကို နားလည်နိုင်လောက်သော တရားဩဝါဒ, (၂) အကျိုးကို သိမြင်အောင် ဆင်ခြင်တတ်သော ဥာဏ်, (၃) အကျိုးကို ထင်မြင်အောင် ဆုံးမသော ဆရာ၏ ဩဝါဒကို လိုက်နာခြင်း, (၄) သံသရာဘေး, မင်းဆိုးဘေးတို့မှ ကြောက်၍ တတ်သော သံဝေဂဉာဏ်, (၅) အကျိုး ရရောက်ခွင့် လုံလောက်အောင် စိုက်ထုတ်သော လုံ့လ ဝီရိယ,-ဤအင်္ဂါ ၅ ပါးမျိုးနှင့် ကင်း၍ မဖြစ်ပေါ် မရနိုင်, ၎င်း အင်္ဂါ ၅ မျိုး ပြည့်စုံမှ ပင် ဖြစ်သည်-ဟူသော ကောင်းကျိုး ရကြောင်း အင်္ဂါများမှာ မှတ်သား လောက်၏။

## ၄၊ မြန်မာဘာသာပြန် ၂၊

### ကောင်းမှုကို အထပ်ထပ် ဖြစ်စေရကြောင်း။

မင်းတရားတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဘွဲ့ရှိ၍ ဆင်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏ ဓမ္မစိတ်တော်ကို သိယူ—ရရှိသော အသောက မင်းကြီး မြတ်ကြီး ဤသို့ မိန့်ပြန် တော်မူပြီ— တရား၌ ကောင်းမှုနှစ်ခု လိုက်နာ—ပြုကျင့်ခြင်း မည်သည်ကား အကျွဲ ဝါတို့အား သနား ကြင်နာ ကိုယ်ချင်း စာခြင်း, ရှုံးကြီး ပေးကမ်း လှူဒါန်းခြင်း, ကိုယ်-နှုတ်-စိတ် သုံးပါးကို တရား အတိုင်း ဖြောင့်မတ် အညီမှုခြင်း, ကိုယ်ကျင့်, နှုတ်ပြော, စိတ်ထား သုံးပါးလုံး စင်ကြယ်ခြင်း— ဤသို့သော ကောင်းမှု များစွာကို အထပ်—အထပ် ဖြစ်ပွား စေခြင်း ဖြစ်၏။ ဤ တရားတော်တို့ အတွက် ငါ မင်းတရားသည် လူတွေ တာစား မြောက်များစွာသော ဒါန—ပေးကမ်း ရှုံးကြီးခြင်းကို ပြုလုပ် ပေးလှူတော်မူအပ်၏။ အခြေ ၂ ချောင်း ရှိသူ လူ အပေါင်း, အခြေ လေးချောင်းရှိ သား အပေါင်းတို့၌ ၎င်း, ငှက် အပေါင်းနှင့် ရေ၌ ကျက်စားသော ငါး စသော အကျွဲ ဝါတို့၌ ၎င်း အထွေထွေ အစားစား အရေအတွက် မရ မြောက်မြား လှစွာ ပြီးမြောက်—ထောက်ပံ့ခြင်းကို လည်း ငါ မင်းမြတ်သည် အသက် သတ်ရေး ပြီးအောင် ချမ်းသာစေခြင်း တိုင်အောင် ပြုလုပ်တော်မူ၏။

ငါ မင်းမြတ်သည် ဤမှ တပါး မြောက်မြားစွာသော (ဓယာ, သစ္စ, သောစေယျ စသည်) ကောင်းမှု ကုသိုလ်တို့ကို လည်း ပြုလုပ် — ကျင့်ဆောင်တော် မူအပ်ကုန်၏။ ဤသို့သော တရား ကျင့်စရာများ အလို့ငှါ ပင် ငါ မင်းမြတ်သည် ဤ တရား ကျောက်စာတော်ကို ရေးသား တည်ထား တော်မူစေအပ်၏။ ဤသို့ ညွှန်ပြ ခဲ့သည့် နည်းတူ လူမှု လိုက်နာ၍, ကျင့်ဆောင်ကြကုန်; အရှည် အမြင့် တရား ကျင့်ရေး၌ တည်တန့် သူတို့လည်း ဖြစ်ကြကုန်။ ယင်းသို့ ညွှန်ပြတိုင်း တရားတော်ကို လိုက်နာ ကျင့်ဆောင် သူတို့သည်ကား မိမိတို့၏ မျက်မှောက်—တမလွန် ၂ တန်သော ချမ်းသာနှင့် တကွ ဝဋ်ဒုက္ခ ငြိမ်းရာ အေးမြဲစွာသော နိဗ္ဗာန်—ချမ်းသာ တိုင်အောင် ပြုလုပ်သူ မည်ကုန်သတည်း။— ဤသို့ အသောက မင်းကြီးကြီး မိန့်ပြန် ထားရှိတော်မူပြီ။

၅၊ ဥပဒေသ၊ — အသောက မင်းကြီး ညွှန်ပြချက် ဥဒ္ဒေသမှာ ဒယာ၊ ဒါန၊ သစ္စ၊ သောစေယျ—သနားခြင်း၊ လှူဒါန်းခြင်း၊ ဖြောင့်မှန်ခြင်း၊ စင်ကြယ်ခြင်းတို့ ဖြစ်ကုန်၏၊ ဤသို့သော တရားတို့ကို အသစ် အသစ် အဖန်ဖန် ဖြစ်စေသော် သာ တရား၌ ကောင်းကောင်း လိုက်နာ ပြုကျင့်သူ ဟု ဆိုရမည်; တခါကရံမျှ ပြုကျင့်သူကို မဆိုရ ဟု ၏၊ ထိုသို့ တရား၌ ကောင်းကောင်း ကျင့်ဘူမှာ မိမိ ဖြစ်ကြောင်းကို ပြရာ၌လည်း လူ—သားဝှက် ရေ-သတ္တဝါတို့အား အနုဂ္ဂဟ စေတနာနှင့် သာ လုပ်ဆောင်ခဲ့ပုံကို ပြလေသည်၊ ၎င်းမှာ များစွာ ကျနသော ပြချက် ဟု ဆိုသင့်လေသည်၊ ကျွန်ုပ်တို့အား လည်း တရား၌ ကောင်းကောင်း ကျင့်သူ ဖြစ်ရန် အနုဂ္ဂဟ စိတ်ထားကို ညွှန်ပြလေသည်။

၆၊ မှတ်ချက်၊ ၊ဒယာ၊ ဒါန၊ သစ္စ၊ သောစေယျ ဟု သရုပ် ပြချက်များ အနက် ဒါန—အရာတွင် သာမန်မျှ ပြညွှန်၏၊ ဝိနည်း-ပိဋက-အဖွင့် အဋ္ဌကထာများ၌ ကား ရေတွင်း—ရေကန်—ကျောင်း ဘုရား ရှစ်သောင်း လေးထောင် လှူဒါန်းခြင်းနှင့် တနေ့တနေ့ လျှင် အသပြာ ၅ သိန်းကုန် သာသနာ၌ စွန့်ကြဲခဲ့ကြောင်း ; ဒါန-အရာတွင် ဤ ဘုရား သာသနာ၌ အတုမဲ့ ဖြစ်ကြောင်း ချီးကျူး ထား၏၊ ဒယာအရစ္စဒ္ဒသမ တေရသမ— ကျောက်စာ ဖြင့် ၎င်း၊ ဤ သတ္တာနုသာသနီမှ ပဥ္စ-ကျောက်စာ ဖြင့် ၎င်း သိအပ်၏၊ သစ္စ-အရ စုဒ္ဒသမှ ပထမနှင့် ဒသမ-ကျောက်စာတို့ဖြင့် သိအပ်၏၊ သောစေယျ—အရ စုဒ္ဒသမှ သတ္တမ၊ နဝမ၊ ဒသမ၊ ကောဒသမ—ကျောက်စာတို့ဖြင့် သိအပ်၏။

# တတိယ သိလာ ထမ္ဘာ နုသာသနီ၊

## ၃၊ မူလပါဠိ၊

ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ အာဟ; ကယာနံ မေဝ ဒေခတိ, ဣယံ မေ ကယာနေ ကဋေ'—တိ နော မိနာ ပါပကံ ဒေခတိ, 'ဣယံ မေ ပါပေ ကဋေ'၊ ဣယံ'ဝ အာသိနဝေ နာမာ'တိ;၊ ဒုပဋိဝေခေ စု ခေါ ဧသ၊ ဟေဝံ စု ခေါ ဧသ ဒေခိယေ၊ ဣမာနိ အာသိ နဝ—ဂါမီနိ နာမ; အထ စံဍိယေ, နိဋုလိယေ, ကောဓေ, မာနေ ဣသျာ၊ ကာလနေ နဝ' ဟကံ မာ ပလိဘသယိသံတိ၊ ဧသ ဗာဍှံ ဒေခိယေ; ဣယံ မေ ဟိဒ တိကာယေ, ဣယံ မန မေ ပါလတိကာယေ'တိ။

၄၊ ။မှတ်ချက်၊ ။ကယာနံ ကယာနေ ပုဒ်တို့မှာ ကလျာဏံ ကလျာဏေ ဟု ဖြစ်သင့်ကုန်၏၊ 'နော မိနာ' မှာ 'နော ပန' ဟု ဖြစ်သင့်၏၊ အာသိနဝေ အာသိနဝ ပုဒ်တို့မှာ အာဒီနဝေ အာဒီနဝ ဟု ရှိလိုကုန်၏၊ ဗာဍှံ မှာ ဗာဠှံ ဆိုလို၏၊ ဟိဒတိကာ—ယေ မှာ ဟိဒတ္တိကာယ ဟု နောက်ပုဒ်သို့ ပင် ရှိသင့်၏၊ ဣယံ မန မေ မှာ အယံ ပန မေ ဟု ရှိလို၏။

## ၄၊ မြန်မာဘာသာပြန် ၃၊

### ကောင်းကျိုးကဲ့သို့ မကောင်းကျိုးကို လည်း မြင်ရန်။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဖွဲ့ချီ ခပ်နှိပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်းတရားကြီး ဤသို့ မိန့်မြွန် ထားလေပြီ၊ ပုဂ္ဂိုလ် တစုံတဦးသည် ငါကား ကောင်းမှုကို ပြုအပ်ပြီ ဟု ကောင်းမှုကို သာ — အကောင်းကို သာ ရှုမြင် တတ်၏၊ မကောင်းမှုကိုမူ ငါကား မကောင်းမှုကို ပြုအပ်ပြီ ဟု မရှုမြင်တတ်လေ၊ (စင်စစ်ကား) ဤ

မကောင်းမှုကို လည်း (မကောင်းကျိုး ခံစားရမည့်) အမှုသစ် မည်၏—ဟု ကား ရှုမြင် ဆင်ခြင်ရန် ခဲယဉ်းလှ၏၊ မည်သို့ ဖြစ်စေကာ, စင်စစ်ကား ဤ မကောင်းမှုတို့မှာ (မကောင်းကျိုး ရရှိမည့်) အမှုသစ်တို့ သာ ဖြစ်ကုန်၏ ဟု ရှုမြင် ဆင်ခြင် သင့်လေသည်၊ ထိုသို့ မရှုမြင် မဆင်ခြင်ပဲ: သာ သူတပါး အပေါ်၌ ကိုယ်အားဖြင့် ကြမ်းတန်းခြင်း နှုတ်အားဖြင့် ကြမ်းတန်းခြင်း, အမျက် ဒေါသ ချောင်းချောင်း ထခြင်း, တက်ကြွားမြင့်မောက် စိတ်ခေတ် ရောက်ခြင်း, ငြူစူ စောင်းမြောင်းခြင်း တို့ဖြင့် ကောင်းမှု-ကုသိုလ်၌ အကုသိုလ် ဒုစရိုက်ဖျင်းကို မဖျန်းပက် မလျော ကျကုန်မိစေလသေား၊ ဤ ဆိုခဲ့သည့် ကောင်းမှု-မကောင်းမှု ၂-မျိုးကို တိုးဆင့် ဖွံ့ကား၍, ရှုမြင်ရာ၏၊ (အသို့ ရှုမြင်မည်နည်း)? ဤ ကောင်းမှု-မကောင်းမှုကား ဤ ပစ္စုပ္ပန်၌ ၎င်း, တမလွန်၌ ၎င်း, ခံစားရရှိမည့် အကြောင်း တရားများ ဖြစ်၏ ဟု ရှုမြင် ရာ၏၊—ဤသို့ အဘေဿက မင်းတရား မိန့်ပြန် ထားရှိတော်မူပြီ။

၅၊ ဥပဒေသ၊ ၊ဤ၌ အဘေဿက မင်းတရား ပြလိုရင်းကား လောက၌ လူတို့သည် ကောင်းမှုကို မြင်တတ် ရှုတတ်၏၊ ခံစံရလိမ့်မည် ဟုမြော်လင့်ချက် ထားတတ်ကြ၏၊ မကောင်းမှုကိုကား ထိုသို့ မရှုမြင်, မမြော်လင့်ပဲ: ရှိတတ်ကြ၏၊ ကုသိုလ်ကို ရှုမြင် မြော်လင့်သကဲ့သို့ အကုသိုလ်ကို လည်း ရှုမြင် မြော်လင့်ချက် ထားရမည်, သို့မှမကောင်းမှုကို မပြုပဲ: ကြဉ်ရှောင်မည် ဟု ဆိုလို၏၊ ထို့အတိုင်း ကျွန်ုပ်တို့ လိုက်နာရန် ဖြစ်ကြ၏၊ အကြောင်းကား အကုသိုလ်ကို မမြော်လင့်စေကာ, ၎င်းသည် ကုသိုလ်ကဲ့သို့ အကြောင်း သစ် ပင် ဖြစ်ရကား ၎င်းအတွက် မကောင်းကျိုး ခံစားကြရမည်မှာ ဧကန်တည်း။

၆၊ မူလပါဠိ၌ မှတ်ချက်၊ ၊နေဝ ဟကံ ကို နေဝ အကံ ဟု ပုဒ်ဖြတ်၊ အကံ—ဆင်းရဲ ဟု ပြန်၊— အခြား ကျောက်စာများ၌ ကား ဟကံ-အစီး အမှား ဟောတည်း၊ ကုယံ မေ ဟိဒကိကာယေ, ပါလတိ ကာယေ စ ဟု နေရမည့်အစား, ၂ ဝါကျ နေရာ၌ အဓိပ္ပါယ်ထူး မရှိသင့်; ထိုလက်ထက် ပြောထုံး အထူး ဟု သာ မှတ်အပ်၏၊ အင်္ဂလိပ်ဘာသာပြန် ဆရာတို့ကား This document is easily understood— ဤ ကျောက်စာတော်ကို လွယ်ကူစွာ သိအပ်၏ ဟု အကယ်၍ ဆိုထား၏; သို့ရာ—တွင်, ကျွန်ုပ်တို့ အတွက်ကား ထို့ထက် မှန်ကန် ကောင်းမွန်အောင် ကြံစည်ရန် ရှိသေး၏။

# စတုဿ သိလာထမ္ဘာ နုသာသနီ၊

## ၄၊ မူလပါဠိ၊

ဒေဝါနံ ပိယေ ပိယဒသိ လာဇ ဟေဝံ အာဟ; သဍုဝီသတိဝသာ' အဘိသိ–တေန မေ ဣယံ ဓံမလိပိ လိခါပိတာ၊ †လာဇူကာ မေ ဗဟူသု ပါန-သတ-သဟ-သေသု ဇနသိ အာယတာ၊ တေသံ ယေ အဘိဟာလေ ဝါ, ဒံဍေ ဝါ အတပတိယေ မေ ကဋေ ကိံတိ လဇူကာ အသွထ၊ အဘီတ–ကံမာနိ ပဝတယေဝူ'တိ; ဇနသ ဇာနပဒသ ဟိတသုခံ ဥပဒဟေဝူ, အနုဂဟိနေဝု စ, သု ခီယန–ဒုခီယနံ ဇာနိသံတိ၊ ဓံမယုတေန စ ဝိယော ဝဒိသံတိ၊ ဇနံ ဇာနပဒံ ကိံတိ ဟိဒတံ စ ပါလတံ စ အာ–လာဓယေဝူ'တိ လဇူကာ'ပိ လဃံတိ ပဋိစလိတဝေ မံ၊ ပုလိသာနိ ပိ၊ မေ ဆံဒံ နာနိ–ပဋိ စလိသံတိ၊ တေ ပိ စ ကာနိ ဝိယော ဝဒိသံတိ ယေန မံ လာဇူကာ စဃံတိ အာလာဓယိတဝေ၊ အထာ ဟိ ပဇံ ဝိယတာယေ ဓာတိယေ နိသိဇိတု အသွထေ ဟောတိ; ဝိယတဓာတိ စဃတိ မေ ပဇံ သုခံ ပလိဟဋဝေ'တိ။

ဟေဝံ မမ လဇူကာ; ဇာနပဒသ ဟိတသုခါယေ၊ ယေန ဧတေ အဘီတ အသွထာ သံတံ အဝိမနာ ကံမာနိ ပဝတယေဝူ'တိ၊ ဧတေန မေ လဇူကာနံ အဘိဟာလေ ဝါ ဒံဍေ ဝါ အတပတိယေ ကဋေ, ဣစ္ဆိတ ဝိယေ ဟိ ဧသာ, ကိံတိ ဝိယော–ဟာလသမတာ စ သိယာ, ဒံဍ–သမတာ စ အာဝ ဣတေ ပိ စ မေ အာဝု တိ, ဗံဓနဗဓာနံ မုနိသာနံ တီလိတ–ဒံဍာနံ ပတဝဓာနံ တိံနိ ဒိဝသာနိ မေ ယော–တေ ဒိံနေ နာတိကာ ဝါ ကာနိ နိဈပယိသံတိ ဇီဝိတာယေ တာနံ; နာ'သံတံ ဝါ နိဈပယိတာ, ဒါနံ ဒါဟံတိ, ပါလတိကံ ဥပဝါသံ ဝါ ကစ္ဆံတိ၊ ဣစ္ဆာ ဟိ မေ ဟေဝံ နိလုဓသိ'ပိ ကာလသိ ပါလတံ အာလာဓယေဝူ'တိ၊ ဇနေ စ ဝဍတိ ဝိဝိ–ဓေ ဓံမ–စလနေ သံယမေ ဒါန–သဝိဘာဂေ'တိ။

---

† ဤ လာဇုကာ ပုဒ်ကား အမှားတည်း၊ လာဇုကာ ဖြစ်ရမည်၊ ဤကျောက်စာတွင် ပင် ရှေ့ခါက်၌ လဇုကာ, လာဇုကာ ဟုရှိ၏။ ရာဇုကာ ပုဒ်ရင်းပင် ...

၅၊ မှတ်ချက်၊ ၊လာဇုက–ရာဇုကာ, အာယတာ–အာယတ္တာ, အဘိဟာလေ–အဘိဟာရေ [အဘိဟာရ အပစိကိစ္စာယံ, အဘိဂမျကမ္မေ, သာကစ္ဆိုယေ, အဘိယောဂေ ကာတဗ္ဗော ဝုတ္တော–သဒ္ဒနီတိ], အဘိတ–ကံမာနိ ယေ, အဘိဃာတောပနီ ဖြစ်သင့်၏၊ ဟိတသုခံ ဥပဒဟေဝူ ဟူသော ရှေ့ဝါကျရှိ စကားပုဒ်မှာ အပဟိတသမ္ဗာနိ ဖြစ်သင့်၏၊ ဟိတသုခံ ဥပဒဟေဝူ ဟူသော ရှေ့ဝါကျရှိ စကားကို ထောက်၊ ဝိယော–[ဝိယတ် ဗုဒ္ဓေ, နိုလ္လဇ္ဇေ၊–ထောမနိုတိ၊] ဟိဒတ်–ဣဓတ္တံ, ပါလတ်ပါရတ္တံ လယ်ဆံတိ [သောဓနေ၊ ၊ထောမနိတိ၊] ပဋိဝလိတဝေ–ပရိဓရိတဝေ, စယ်တိ [သံာတနေ၊ ထောမနိတိ၊] ဝိလာတာယေ–ဝိယတ္တတာယ၊ ပလိဟာတဝေ–ပရိဟာ–တဝေ၊ အဘိဟာလေ–အဘိဟာရေ–[ဟု ရှေးကနှင့် အလားတူ ဖြစ်ရမည်] အတ–ပတိယေ–အတ္တပ္ပတိယေ–[အတ္တနော အဓိပတိဓမ္မ] ဟာလသမဟာ–ဟာရသမတာ၊ အာဝ–ယာဝ, ဋူဓော–ဒေဘော, အာဝုတိ–အာဂုတ္တိ, မုနိသာနံ–မနုဿာနံ, တိလိတ–ဒံဍာနံ တိရိတ–ဒံဍာနံ, သဝိဘာဂေ–သံဝိဘာဂေ စသည် မူလပါဠိနှင့် ယခု ပါဠိသွား ပါဠိတို့ကို မှတ်ရာ၏။

## ၆၊ မြန်မာဘာသာပြန် ၄၊

### တိုင်း၊ ကြား၊ အုပ်ချုပ်ရိုးမှိုးရေး၊

မင်းတကာတို့ ချစ်ကြည်–လေးစားအပ်၍, ပိယဒဿီဟု ဌဲ့ခ ခဲ့ခ် သေ ခ် အရှင်မဟာကဿပ မဓောဝ်ဖြတ်၏ မျာဒိတ်တော်ကို ခံယူ–ရရှိတော်မူသော အသောကမင်းကြွားမြတ်ကြီး ဤသို့ မိန့်ပြန် ထားရှိတော်မူပြီ၊– ငါ မင်းမြတ်အဘိသိက် သွန်း၍, ၂၆ နှစ်ရှိတော်မူသော်, ဤ တရား ကျောက်စာတော်ကို ရေးသား ထားရှိစေတော်မူ အပ်၏၊ သိန်းပေါင်း များစွာသော တိုင်းနေ ပြည်သူတို့ အပေါ်၌ ငါ မင်းမြတ်၏ ကိုယ်စား အုပ်ချုပ် စီမံသော † ဘုရင်ခံ အပေါင်းတို့သည် တိုင်းနေ ပြည်သူ ဗိုလ်လူ အပေါင်းနှင့် ပတ်သက် စပ်ဆိုင်ကြကုန်သည်၊ ထို တိုင်းနေ ပြည်သူတို့၏, တရား–မှုခင်း ကိစ္စ၌ ဖြစ်စေ, ရာဇဝတ် မှုခင်း ကိစ္စ၌ ဖြစ်စေ, အပြစ်ဒဏ် ထားခြင်းကိစ္စ၌ ဖြစ်စေ ငါ မင်းမြတ် ကိုယ်တိုင် အပိုင်–အစိုး တိုက်ရိုက် ပြုလုပ်စီမံ ဆောင်ရွက်တော်

---

† ဘုရင်ခံ ... ဟု လည်း ပြန်ဆိုနိုင်၏။

မှုခဲ့သော်, ငါမင်းမြတ်၏ ကိုယ်စားတော်စား စီမံ အုပ်ချုပ်သော ဘုရင်ခံ အပေါင်း
တို့သည် မည်သို့ ရှိကုန်လိမ့်နည်း?။

(ငါမင်းကြွား၏ ကိုယ်စားတော် ဘုရင်ခံ အမူးရှိ အထိုးရ အဖွဲ့၏) စီးပွားမှဲ
အလုပ်တို့ ပင် ဖြစ်ကုန်အံ့လော? (သို့မဟုတ်) တိုင်းပြည်ရှု တိုင်းပြည်သားတို့၏ ငြိမ်း
ဇနပုဒ်—တိုင်းသားတို့၏ ငြိမ်း စီးပွား ချမ်းသာကို ပင် ဖြစ် စေကုန်အံ့လော? ငြိမ်းမြောက်
ထောက်ပံ့ခြင်း ပင်ဖြစ်ကုန်အံ့လော?၊ ချမ်းသာ ဆင်းရဲ ၂-မျိုးကိုပင် ဖြစ်စေကုန်လတ္တံ့
စင်စစ် ဆိုသော်ကား တရား မှန်တိုင်း ပြုကျင့်ခဲ့မှု, တိုင်းဖျက် ပြည်ဖျက် ခိုးသား ဒါးမြ
များ မပွားစီး မပေါ်ပေါက် ရှိကုန်လတ္တံ့၊ မည်သို့ မဆို; တိုင်းသူ ပြည်သားကို ငြိမ်း, ဇနပုဒ်
ကို ငြိမ်း မည်သို့အားဖြင့် ညှဉ်းပန်းကျူး,တမလွန်ကျိုးကို နစ်သက်စေကုန် ရာမည်နည်း ဟု
ငါ မင်းမြတ်၏ ကိုယ်စားတော်များ ဘုရင်ခံ အပေါင်းတို့က ငါမင်းမြတ် အပေါ်၌
ထောက်ပံ့ကူညီ၍ ပြုစုရန် (စတ်တရားကြောင်း) ဆင်ခြင်ဖွယ် ဖြစ်ကုန်၏။

ငါ မင်းမြတ်၏ အပါးတော်မြဲ မှူးတော် မတ်တော်တို့သည် လည်း ငါမင်း
မြတ်၏ အလိုဆန္ဒတော်ကို လိုက်နာ၍ မကျင့်ကြကုန်လတ္တံ့, ထိုသို့ ပြုလုပ်ခြင်းဖြင့် ငါ
မင်းတရား၏ ဘုရင်ခံ အပေါင်းကို လည်း မနစ်သက် စေနိုင်ကုန်ရာ၊ ထိုစကား ထင်ရှား
စွာ၏; တတ်သိ—လိမ်မာသော နို့ထိမ်းထံ သားငယ်ကို စွန့်လွှတ် အပ်နှင်းခြင်းသည် ထို
သားငယ်၏ အကျိုး-စီးပွား အတွက် ဖြစ် သကဲ့သို့ ငြိမ်း, ထိုသို့ အပ်နှင်းခြင်းကြောင့်
ထို နို့ထိန်းက လည်း ထို သားငယ်ကို ချမ်းသာစွာ ကြီးပွားအောင် စောင့်ရှောက် ထိန်း
သိမ်းရန် စွန့်လွှတ် အပ်နှင်းပေးသည် တကား ဟု ယုံကြည်သကဲ့သို့ ငြိမ်း, ထို့ အတူ မင်း
လျှင် ငါကောရာဇ် မင်းမြတ်သည် တိုင်းသား ပြည်သူ၏ ချမ်းသာ အတွက်, ငါကောရာဇ်
မင်းမြတ် ကိုယ်တော်စား လိမ်မာ ချေးခြားသော ဘုရင်ခံ မင်း အပေါင်းအား အရေး
လွှဲအပ်—ဆောင်နှင်းတော်မူပြီ၊ ငါကောရာဇ် မင်းမြတ်သည် လက်အောက် ဘုရင်ခံ အပေါင်း
တို့အား ကြောက်ရွံ့မဲ့ ငြိမ်း, ကိုယ်ကျိုး မငဲ့ပဲ စိတ်ထား ရှင်ပျစွာ ငြိမ်း ပြုလုပ် ဆောင်
ရွက်ခွင့်ကို အပ်နှင်း ပေးသားတော်မူပြီ။

ထို့ကြောင့် ငါကောရာဇ် မင်းမြတ်၏ ကိုယ်စားတော် ဘုရင်ခံ မင်းအပေါင်း
တို့သည် တရားမ မှုခင်းကိစ္စ ပြုလုပ် စီမံရေး၌ ငြိမ်း, ရာဇဝတ် မှုခင်းကိစ္စအတွက် အပြစ်ဒဏ်
ထားရေး၌ ငြိမ်း မိမိတို့ ဆိုင်ရာ ဆိုင်ရာ ပိုင်ခွင့်ကို ပြုလုပ်ကြ ကုန်ခဲ့သော်, ထိုသို့အော
မှုခင်း—ကိစ္စများတွင် တရားမ မှုများ၌ အဘယ်သို့ အားဖြင့် တရားဥပဒေ ဖြောင့်မှန်ခြင်း
ဖြစ်ကုန်အံ့နည်း ဟု ငြိမ်း, ရာဇဝတ်မှုများ၌ အဘယ်သို့ မျှတခြင်း ဖြစ်နိုင်ကုန်အံ့နည်း ဟု

ရှင်း၊ စိတ်ထား ဖြစ်စေကုန်ရာ၏၊ ထိုသို့သော အကျိုးငှာ ငါကေရာဇ် မင်းမြတ်၏ ဤအမိန့်တော်ကို ထုတ်ပြန်တော်မူအပ်၏၊ ထို့ကြောင့်၊ နှောင်ဖွဲ့ခြင်း၊ သတ်ဖြတ်ခြင်း အပြစ်ဒဏ် စီရင်ခြင်းကို ကျခံရသူတို့တွင် အသက် သေဒဏ် ကျခံစေ ဖြစ်မှု ချပေးသူတို့အား သုံးရက် အထိ ဆိုင်းငံ့ ခွင့် ပေးကြရမည်၊ (အကြောင်းကား) ထိုဆိုင်းငံ့ ခွင့် ပေးသော နေ့-အတွင်း၌ (ရှင်းတို့၏) ဆွေမျိုး ဉာတကာတို့ကသော် လည်း၊ ထိုသူတို့ အတွက် အသက် ရှင်ရန် ကိုးစားဖွယ်ကို ရှာဖွေ၍ အယူခံခြင်း အားဖြင့် လျှောက်ထား ကြားသိစေကုန်ရာသည်၊ ယင်းသို့ တစုံ တရာ အယူခံခြင်း အားဖြင့် လျှောက်ထား ကြားသိစေနိုင်ခွင့် မရှိကုန်ခဲ့မူ၊ တမလွန်၌ ကောင်းစားရေး အတွက် လှူဒါန်း ပေးကမ်းမှုကို သော် လည်း ပြုကြ ကုန်ရာသည်၊ သီလ၊ သိတင်းကို သော် လည်း ပြုကျင့် ဆောက်တည်ကြ ကုန်ရာသည်။

ထိုသို့ ပြုခွင့်ကို ပြောဆို မိန့်ပြန်ရန် သင့်တင့်ပေ၏၊ ငါကေရာဇ် မင်းမြတ်သည် ဤမျှ အသက် သေစေခွင့်ကို ပေးရသည် အထိ ကြမ်းကြုတ် ရက်စက်စွာ ပြုရသော အခါ၌ ပင် တမလွန် လောက၌ နစ်သက် ရှင်ပျံစေရန် လိုလားတောင့်တ တော်မူပေ၏၊ ထို့ပြင်၊ တိုင်းသားပြည်သူ ပုံလ်လူ အပေါင်း၏ ကောင်းမွန် ထူးဆွဲသော တရား ကျင့်ရေး၊ စောင့်စည်းရေး၊ အလှူ အတာန်း ပေးရေး၊ ခွဲခြမ်း ဝေဖန် ပေးကမ်းရေးများ ၌ ကြီးပွားခြင်း လည်း ဖြစ်ရှိရန် လိုလားတော်မူပေ၏၊– ဤသို့ အသောက မင်းကြီးကြီး ပြန်ကြား မိန့်မြွက်တော်မူပြီ။

၇၊ ဥပဒေသ၊ ——ဤ ကျောက်စာ၌ အသောက မင်းကြီး ဆိုလိုရင်းမှာ တိုင်းပြည် တခု၌ ရှင်ဘုရင် တဦးက သာ အရာရာ ကြီးမှူး ကွပ်ကဲခွင့် မရှိ၊ လက်အောက်ခံ အစိုးရတို့က လည်း ထောက်ပံ့ ကူညီ၍ ကွပ်ကဲ–ကြီးမှူးရသည်၊ သို့ အထက်အောက် ၂ ဖက်ညှပ် ကွပ်ကဲ အုပ်ချုပ်သော် သာ အုပ်စိုးသူတို့ အဖြစ်ကောင်း၍ တိုင်းပြည်သူတို့ လည်း ကြီးပွားကုန်ရာသည်၊ မိမိ တာဝန် ရှိတိုင်း လက်အောက် အစိုးရတို့အား အုပ်စိုး စီမံခွင့်ကို လည်း မိမိက လွှဲအပ်ထားကြောင်း၊ မိမိကို မငဲ့ပဲ တရား မှန်တိုင်း စီမံသင့်ကြောင်း၊ ထိုသို့ အုပ်စိုးရာ၌ လည်း စစ်ရေး စစ်မှု မဖြစ်ပွားအောင်၊ အပြစ်ဒဏ် ထား ခြင်း များစွာ မဖြစ်ရန်၊ အလျင်းသော် မရှိရန် စိတ်ဆန္ဒ ထားကြ ရမည်၊ နောက်ဆုံး မရှောင်သာ ပြုကျင့် ရမည့် အပြစ် ဒဏ်၊ သေဒဏ် ပေးခွင့် ပင် ဆိုက်စေကာမူ၊ ရုတ်တရက် မဆောစေတဲ့ သေးပဲ၊ ၃–ရက် ဆိုင်းငံ့ ထားရမည်၊ ထိုသို့ အခွင့်ပြုလျှင်၊ ထိုသူတို့၏ ဆွေမျိုး ဉာတိတို့က အပြစ်မဲ့ခွင့်များ ကိုသော် ရှာဖွေ၍ အယူခံသော အားဖြင့် လျှောက် ကြား သိစေနိုင်ရာသည်၊ သို့မဟုတ် လျှင်၊ တမလွန်၌ ကိုးစားရာ အတွက် လှူမှု၊ တာန်းမှု

စသည်ကိုဆောင် ပြုကြရာသည်; ထိုမျှ အထိ တိုင်းသူ ပြည်သားတို့၏ ကောင်းကျိုးကို လိုလားစောင့်ရှောက်ရာသည်၊—ဟူ၏၊ ဤစကားဖြင့် အစိုးရ ကြီးများနှင့် လက်အောက်ခံ အစိုးရ အမှုထမ်းများ လိုက်နာရန် အရေးကြီးသော ဝတ်တရားကို ပြ၏။

၈၊ မှတ်ချက်၊ ဤ ကျောက်စာ မြန်မာပြန်မှာ အကယ်၍ကား အင်္ဂလိပ် ပညာရှိတို့ ပြန်ဆိုချက်နှင့် ဖြောင့်ဖြောင့် ဆန့်ကျင်လျက် ရှိ၏; သို့ရာတွင် ကျွန်ုပ်တို့ ပြန်ဆိုခဲ့ချက်မှာ သဒ္ဒါသွား အဓိပ္ပါယ် သာလွန် ဆီလျော်သည် ဟု ကျွန်ုပ် ယုံကြည်ကြောင်း၊ မည်သို့ မဆို, ပညာရှင်တို့ ချင့်ချိန်ခွင့်သို့ သာ လွှဲအပ်ရတော့၏၊ အကြောင်းကား ဤအထိ ပြန်ဆိုခဲ့သော ကျောက်စာများ အနက် ဤ ကျောက်စာသည် ကျွန်ုပ်အတွက် အခဲခက်ဆုံး ဖြစ်၏၊ ထို့ကြောင့် ကျွန်ုပ်သည် ဤကျောက်စာ တခုတည်း အတွက် ၂—ရက်တိုင် ပါဠိသွား အနက်သွား ပုဒ်ထား ဝါကျနေ, ဆိုလိုရင်း အာဘော် များကို ကြံစည် စဉ်းစားလျက်, ၂—ရက်တိုင် ဆိုင်းငံ့ ပြန်ဆိုရပေ၏၊ အင်္ဂလိပ် ပညာရှိတို့ လည်း ဤ ကျောက်စာ အတွက် အလွန် ခဲခက်လှ၍ နှစ်ပေါင်းများစွာ ဆွေးနွေး ကြာမြင့် ကြောင်းကို— The meaning of this rather difficult edict which had been discussed and misunderstood for many years— ဤ ကျောက်စာ အနက်—အဓိပ္ပါယ် အလွန် ခဲခက်လှ၍, နှစ်ပေါင်း များစွာ ကာလပတ်လုံး စုံစမ်း ဆွေးနွေး လျက် သာ အမှန် မပေါက်နိုင်ဘဲ ရှိနေခဲ့ပြီ၊—ဟု, ဆိုလေသည်။

# ပဌမ သိလာ ထမ္ဘာ နုသာသနီ၊

## ၅၊ မူလပါဠိ၊

ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ အာဟ; သဍုဝီသတိဝသ-အဘိ— သိတေန မေ ဣမာနိ ဇာတာနိ အဝဓိယာနိ ကတာနိ၊ သေယထာ? သုကေ, သာလိ-ကာ, အလုနေ, စကဝါကေ, ဟံသေ, နန္ဒီမုခေ, ဂေ လာဋေ, ဇတူကာ အံဗာ-ကပိ-လိက, ဒုဠိ (ဒုဠိ) အနဋ္ဌိမစ္ဆေ, ဝေဒဝေယကေ, ဂံဂါ ပု ပုဋကေ, သံကုဇမစ္ဆေ, ကဖဋသေယကေ, ပံနသသေ, သိမလေ, သံဍကေ, ဥကပိံဍေ, ပလသတေ, သေတ-ကပေါတေ, ဂါမ—ကပေါတေ, သဗေ စတုပဒေ, ယေ ပဋိဘောဂံ နော ဧတိ, န စ ခါဒိယတိ၊ အဇကာ နာနိ, ဧဠကာ စ, သူကလီ စ ဂဘိနီ ဝါ, ပါယမီနာ ဝါ အ-ဝဓျာ; ပေါတကေ ပိ စ ကာနိ အာသံမာသိကေ၊ ဝ ဓိ ကုကုဋေ နော ကဋဝိယေ, တု-သေ သဇီဝေ, နော ဈာပယိတဝိယေ ဒါဝေ အနဋ္ဌာယေ ဝါ ဝိဟိသာယေဝါ နော ဈာပယိတဝိယေ၊ ဇီဝေန ဇီဝေ နော ပုသိတဝိယေ။

တီသု စာတုမာသီသု, တိသာယံ ပုံဏမာ သိယံ, တိံနိ ဒိဝသာနိ, စာဝုဒသံ ပံနဒသံ, ပဋိပဒါယေ ဓုဝါယေ စ, အနုပေါသထံ မစ္ဆေ အဝဓိယေ; နော ပိ ဝိကေ-တဝိယေ၊ ဧတာနိ ယေဝ ဒိဝသာနိ နာဂ ဝနသိ ကေဝဋ-ဘောဂသိ, ယာနိ အံနာနိ ပိ ဇီဝနိကာယာနိ နော ဟံတဝိယာနိ၊ အဋ္ဌမီ ပက္ခာယေ စာဝုဒသာယေ, ပံနဒသာ ယေ, တိသာယေ, ပုနာဝသုနေ, တီသု စာတုံမာသီသု သုဒိဝသာယေ ဂေါနေ နော နီလခိတဝိယေ၊ အဇကေ, ဧဠကေ, သူကလေ, ဧ ဝါ အံနေ နီလခီယတိ; နော နီလခိတဝိယေ တိသာယံ ပုနာဝသုနေ စာတုမာသိယေ စာတုမာသိ ပခိယေ အသွ-သ ဂေါနသ လခနေ နော ကဋဝိယေ ယာဝ သဍုဝီသတိဝသာ' အဘိသိတေန မေ ဧတာယေ အံတ လိကါယေ ပံနာဝီသတိ ဗံဓနမောက္ခါနိ ကတာနိ။

၆၊ မှတ်ချက်၊ ဇာတာနိ မှာ ဇီဝါနိ, ဇီဝိတာနိ ရှိသင့်၊ စာဝုဒသံ မှာ စာတု ဒသံ ရှိသင့်၊ ဓုဝါယေ မှာ ဒုဝါဒေ ရှိသင့်၊ အံတ မှာ အထာယေ ဖြစ်ရန် ရှိ၏။

# ၇၊ မြန်မာဘာသာပြန် ၅၊

## ဘေးမဲ့သတ္တဝါနှင့် ဘေးမဲ့ နေ့ရက်။

မင်းတကာတို့ ချစ်ကြည်လေးစားအပ်၍ ပိယဒဿီ ဟု ဘွဲ့ ချီးပင့်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူရရှိတော်မူသော အသောက မင်းတရားကြီး ဤသို့ မိန့်မြွက် ထားရှိလေပြီ၊— ငါ မင်းတရားသည် အဘိသိက် သွန်း၍ ၂၆-နှစ် ရှိသော်, ဤဆိုသတ္တွာ့သော အသက်ရှိ သတ္တဝါတို့ကို သတ်ဖြတ် ခြင်းမှ တားမြစ်တော်မူအပ်ကုန်၏၊ ထိုသတ္တဝါတို့ကား— ကျေး—ကျက်တူရွေး—သာလိကာ—ဆက်ရက်, ငှက်ကြီး-တိုးစပ်— ဝန်လို့ငှက်ကြီး, စက္ကဝါကငှက်, ဟင်းသာ-နေးငှက်, နန္ဒီမုခ—မည်သောငှက်, ဂေလာဋ—မည်သောငှက်, လင်းနို့, ခါချဉ်—သို့မဟုတ် တောင်ပို့ချ; လိပ်, အရိုးမရှိသော ငါး, ဝေဒဝေယက—မည်သော ငါး, ဂင်္ဂပုပုဋက—မည်သော ငါး, ပင်လယ် ငါးလင်းပန်း, မြစ်လိပ်-ရေလိပ်, ဖြူသတ္တဝါ, သစ်တောက်ရှဉ့်—ဝါ ရှဉ့်မွဲး, ဦးချိုတက် များသော ဆတ်, နွားသူတော်, နွားလား, မျောက်သတ္တဝါ, ဥချိုးငှက်—ခိုဖြူ—ခိုပြာ, အသုံး မပြုသော အခြေ လေးချောင်းရှိ သားသတ္တဝါတို့ကို လည်း မစားအပ်၊ ထို့ပြင်, ကိုယ်ဝန်ရှိသော, သို့မဟုတ် နို့စို့ သားငယ်ရှိသော ဆိတ်မ, သိုးမ, ဝက်မ တို့ကို, ၎င်းတို့ သားငယ်များ ကောင်းမွန်စွာ ကြီးပွားခြင်းသို့ မရောက်မီ, မသတ်ဖြတ်အပ်ကုန်၊ ကြက်တိုက်ခြင်း, ကြက်တယ်ခြင်း, ထိုမှ တပါး အသက်ရှိ သတ္တဝါတို့ကို အပျော်အပါး တိုက်ခိုက် မြှူးတူး ခြင်းတို့ကို လည်း မပြုအပ် ကုန်၏။

တောသား သတ္တဝါတို့ နိုကိုးရာမဲ့ ဖြစ်စေတတ်, ညှဉ်းဆဲခြင်းကို ပြုတတ်သော တောမီး ရှို့မြှိုက်ခြင်းကို မပြုအပ်၊ အသက်ရှိ သတ္တဝါဖြင့် သော် ၎င်း, ၎င်း၏ အသားဖြင့် သော် ၎င်း သတ္တဝါ တပါးကို အစာ ကျွေး၍ မမွေးမြူအပ်၊ သုံးဥတု လေးလ လေးလတို့ အဆုံးဖြစ်သော နေ့များ, နှစ်၏ ၃ လ မြောက် ဝါဆိုလနှင့် လပြည့်နေ့, ဤ ၃ နေ့တို့ပတ်လုံး ၎င်း, လဆန်း—လဆုတ် ၁၅—၁၄ ရက်မြောက် နေ့, လဆုတ် ၁၅ ရက် မြောက်သော နေ့, လေးသီတင်း အတွက် တရက်နေ့, အတွက် ၂ ရက်နေ့, ဥပုသ်-နေ့တိုင်း ၎င်း,—ဤနေ့ရက်များ၌ ငါးတို့ကို မဖမ်း မသတ်ရ;၊ ရောင်းလည်း မရောင်းဝယ်

ရ၊ ထိုနေ့ ထိုရက် အတွင်းတို့၌ ဆင်မြင်းတို့ နေထိုင်ရာ တောတောင်များ၌ ရှင်း, တံငါတို့ ကျက်စားရာ ရေကန်–မြစ်–ချောင်း–အင်း အိုင်များ၌ သား ငါးများ, ထိုမှ တပါး အခြား ဥက် စသော သက်ရှိ သတ္တဝါ မှန်သမျှတို့ကို မသတ် ဖြတ်အပ်, မလိုက်အပ်ကုန်။

လတိုင်း ဆဆုတ် ပက္ခ ရှစ်ရက်မြောက်, ၁၄ ရက်မြောက်, ၁၅ ရက် မြောက်, ၃ ရက်မြောက်နေ့, ပုဿဖုသျှ နက္ခတ် ပွဲနေ့, ၃ ဥတု အဆုံး လေးလ မြောက်သောနေ့–ဤနေ့များ၌ နွားတို့ကို သင်း မကုပ်အပ်၊ ထိုမှ တပါးသော ဆိတ်သိုး–ဝက်နှင့် အခြား သတ္တဝါတို့ကိုလည်း သင်း မကုပ်အပ်, သင်းမကုပ်စေအပ်၊ လဆန်း–လဆုတ် ၃ ရက်နေ့, ပုဿဖုသျှ နက္ခတ်ပွဲနေ့ ဥတု–အဆုံး လေးလမြောက် နေ့, လေးလ၏ ပက္ခနေ့တို့၌ မြင်း–နွားတို့ကို သတ်ရန် တံဆိပ် ထိုးမှတ်ခြင်း, မှတ်စေခြင်းတို့ကို မပြုလုပ်အပ်၊ ငါဘုရင် မင်းမြတ် အဘိသိက် သွန်း၍, ၂၆–နှစ်မြောက် အတွင်း အခါ၌ ဤ တရား သံးမ ကန့်မြစ်စာကို ရေးသား ထုတ်ပြန် စေအပ်သည်၊ ထိုနှင့် အလားတူ လည်း ၂၅ ကြိမ်တိုင် အကျဉ်းသားတို့အား အကျဉ်းထောင်မှ လွှတ်စေခြင်းတို့ကို ပြုစေအပ်ကုန်ပြီ။

၈၊ ဥပဒေသ၊ ။ဤကျောက်စာဖြင့် အသောက မင်းကြီးသည် ဗုဒ္ဓဘာသာ တရားတော် အတိုင်း သားငှက်တို့အား ဘေးမဲ့ ပေးခြင်း, မသတ်ဖြတ်ရန် နေ့များ ပိုင်းခြား ထားရှိခြင်း, အကျဉ်းသားများကို လွှတ်ခြင်းတို့ကို ပြုသကဲ့သို့ ထိုထို မင်းတို့ လည်း ပြုကျင့် လိုက်နာသင့်ပုံကို ပြ၏၊ မင်းတို့ကို ပဓာန ပြုသဖြင့် အခြားသော သူမှန် သမျှ လည်း ဤ ဓမ္မ နမူနာ အတိုင်း လိုက်နာသင့်ကြောင်း ပြ၏။

၉၊ မှတ်ချက်၊ ။နေ့ရက် ပိုင်းခြားရာတွင် တိသု စာတုမာ သီသု တိသာယံ, ပုံဏမာသီယံ တိ"နိ ဒိဝသာနိ–စကားဖြင့် ပြည့် ၃ မျိုးကို စွဲယူ ပိုင်းခြား၏၊ ထင်ရှား ဆိုသော်, တိသု စတုမာသီသု ဖြင့် ဥတုပြည့်, တိသာယံ ဖြင့် အယဉ် ၂ ပါး နှစ်ပြည့်, ပုဏ္ဏမာသီယံ ဖြင့် တလပြည့်ကို ပိုင်းခြားသတည်း၊ ဤစကားဖြင့် ယခု မြန်မာများ ခေါ် ဝေါ် သမုတ် ရှိနေကြသော တသသည် မှားယွင်းကြောင်း မှတ်ချက် ပြ၏၊ ထို စကား မှန်၏; ပါဠိဘော်, အဋ္ဌကထာ, ဋီကာတို့၌ ပြထားသော ရက်–လ ဝေါဟာရ, ယခု ပစ္စက္ခ ကုန်သွယ်သားတို့ ခေါ်ဝေါ် သုံးစွဲ ရှိနေသော လ–ဝေါဟာရ, ဗေဒင်ကျမ်း များ၌ လာရှိသော ဝေါဟာရမှာ ကောင်းကောင်းရှိ လ၏ ပြည့်သော နေ့ ပင် ရက် ၃၀ လလည်း ပြည့်ခေါ် နေ့ ဖြစ်၏၊ ထို့ကြောင့် တန်ဆောင်မုန်း လပြည့်ကို ပြရာ သီလက္ခန် အဋ္ဌကထာ၌, မာသ–ပုဏ္ဏဘာယ ဥတုပုဏ္ဏဘာယ သံဝစ္ဆ–ပုဏ္ဏဘာယ ပုဏ္ဏ–သံ–ပုဏ္ဏာတိ ပုဏ္ဏမာ၊ မာ ဣတိ စန္ဒော ဝုစ္စတိ၊ သော ဧတ္ထ ပုဏ္ဏောတိ ပုဏ္ဏမာ၊ ဧဝံ ပုဏ္ဏာယ ပုဏ္ဏမာယာတိ ဣမသ္မိံ ပဒဒ္ဝယေ ဧ အတ္ထော ဝေဒိတဗ္ဗောဟု မိန့်ဆို၏။

တ၀ုဒ(တ)ဒသံ, မန္တဒသံ—စကားဖြင့် လက်ခနေ့ကို ပိုင်းခြား ပြသို၏၊ ပဋိဒါယေ
စကားဖြင့် လက်၏ အစ တရက်နေ့ကို ပြ၏၊ ဓုဝါရေ[ဓုဝါရေ]ဖြင့် ၁၅-ရက်ပြည့်ကို လ
ဝက်မှတ်ယူခြင်း ပြည့်သူတို့အတွက် လက်၏ အစ တရက်နေ့ကို ပြ၏၊ အနုပေါသထ ဖြ
လဆန်း, လဆုတ် ၈—ရက်, လပြည့်, လကွယ် ဥပုသ်နေ့ များကို ပြ၏၊ ထိုနေ့များမှ
လောက မင်္ဂလာ အသရေရှိ နေ့များ ဖြစ်၍, ၎င်း, တရား လိုက်နာ ကျင့်ဆောင်သူတို့၏
တရား ကျင့်ဝတ် သုံးနေသော နေ့များဖြစ်၍, ၎င်း, မှန်မြတ်၏၊ ထို့ကြောင့် ထိုနေ့များ၌
အမင်္ဂလာ, အသိရိက အလုပ် ဖြစ်သော သတ်ဖြတ် ညှဉ်းဆဲခြင်းများကို မပြုရ ဟု တား
မြစ်လေသည်၊ ထိုကြောင့်ပင် နောက် တကြိမ် ပြ မြန်ရာ၌ 'သုဒိဝသာယေ' ဟု ဆိုထား
၏; မှတ်လောက်ပေစွ၊ ပုန၀သု ဟူသည် ပွဲလမ်း နေ့ကို ဆိုလို၏; ထိုနေ့မှာ ဗုဒ္ဓ နက္ခတ်
နှင့် သာ ယှဉ်၍, ပြတတ်ရကား ထိုသို့ ဆို၏၊ မသတ်အပ်သော သတ္တဝါတို့၏ အမည်
များကို သရုပ် ထုတ်ပြရာ၌ မသိနိုင်သော သတ္တဝါပေါင်း များစွာ ပါဝင်လျက် ရှိ၏
၎င်းများမှာ ဘာသာစကား ဝေါဟာရ ခြားခြင်း, ဒေသ—ကာလ ဝေါဟာရ ခြားခြင်း,
အက္ခရာ အရေး—အသား ပေါက်ပြန်ခြင်းတို့ကြောင့် အနက် သိရန် မလွယ်ကူလှ သဖြင့်
အမှန် အကာနိ ဖြစ်ပို့ သိမြင်ရန် တောင့်တသော် လည်း မြော်မြင်သာ ဖြစ်ရာ၏၊
အမှန် သိလိုအပ်သည်မှာ ထို အသောက မင်းတရားကြီးသည် ထိုသို့သော မိမိ ပြုလုပ်သင့်
ရာ အမှုကို ပြုလုပ်ပေသည်၊ ငါတို့ လည်း အလားတူ အမှုများကို ပြုထိုက်သည်, ပြု
သင့်သည်, ပြုလုပ်မည် ဟု စံနမူနာပြု၍ အတု ယူကြရာ၏။

## ဆဋ္ဌမ သိလာ ထမ္ဘာ နုသာသနီ။

### ၆။ မူလပါဠိ။

ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟာ; ဒုဝါဒသ ဝသ—အဘိသိ· တေန မေ ဣယံ ဓံမလိပိ လိခါပိတာ; လောကသ ဟိတ—သုခါယေ သေတံ အပဟ· တာ, တံ တံ—ဓံမ—ဝဍိ°—ပါပေါ ဝါ, ဟေဝံ လောကသ ဟိတသုခေတိ ပဋိဝေခါမိ၊ အထ ဣယံ နာတိသု ဟေဝံ ပတိယာ သံနေသု ဟေဝံ အပကဋ္ဌေသု ကိမံကာနိ သုခံ အာ· ဝဟာမီတိ; တထာ စ ဝိဒဟာမိ၊ ဟေဝံ မေဝ သဝ—နိကာယေသု ပဋိဝေခါမိ၊ သဝ— ပါသံဍာ ပိ မေ ပူဇိတာ ဝိဝိဓာယ ပူဇာယ၊ ဧသု ဣယံ အတနာ ပစုပဂမနေ သေ မေ မောချ—မတေ၊ သဍု ဝီသတိ·ဝသ·အဘိသိတေန မေ ဣယံ ဓံမလိပိ လိ· ခါပိတာ။

၇။ မှတ်ချက်။ ဤကျောက်စာ အစ၌ 'ဒုဝါဒသ ဝသ အဘိသိတေန·အဘိသိက် သွန်း၍, ၁၂ နှစ် ရှိသော အခါ ဤကျောက်စာကို ရေးသားစေသည် ဟု ဆိုအပ်ပြီးလျက်, ၎င်း နောက်ပိုင်း၌ သဍုဝီသတိ ဝသ အဘိသိတေန-အဘိသိက် သွန်း၍, အနှစ် ၂၆ နှစ် ရှိမှ ရေးသည် ဟု ပါရှိ နေပြန်ခြင်းမှာ ကူးယူစဉ်က မှားသည်, သို့ မဟုတ် အက္ခရာ ချွတ်၍, ပျက်ပြားသဖြင့် အမှား ဖြစ်နေသည် ဟု ဆိုရန်ရှိ၏။ အမှန်မှာ အခြား ကျောက်စာများ ကဲ့သို့ ပင် 'သဍုဝီသတိတိ အဘိသိတေန' ဆဗ္ဗီ သတိ အဘိသိတေန ဖြစ်ရမည်။

## ၈။ မြန်မာဘာသာပြန် ၆။

### တရားတော်ပွားစီးရန် လုပ်ဆောင်ရေး။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ရှိ ခပ်နိုင် အရှင် မဟာကဿပ မထေရ်ဖြတ်၏, ဗျာဒိတ်တော်ကို ခံယူ—ရရှိသော အသောက မင်း—

ကြားမြွက်ကြီး ဤသို့ မိန့်မြွက် မြွန်ကြား ထားတော်မူပြီ၊ ဤ တရား စာတော်ကို ငါ ဘုရင် မင်းမြတ် အဘိသိက် သွန်း၍, ၂၆ နှစ် မြောက်တွင် လောကနေသူ ဗိုလ်လူ အပေါင်း၏, စီးပွား—ချမ်းသာ အလို့ငှါ ၎င်း, ထိုသို့ ဖြစ်ရန် မပေါ်လွင်မထင်ရှား, အ-များ မသိ တိမ်မြုပ် နေသော တရားတော်တို့၏, ပေါ်လွင် ထင်ရှား ကြီးပွားခြင်းသို့ ရောက်စေရန် ၎င်း, ရေးသား ထားစေအပ်၏၊— ဤသို့ အားဖြင့် လောက နေသူဗိုလ်လူ-တို့ အစီးအပွား များစွာသော ချမ်းသာ ဖြစ်၏ ဟု ဆင်ခြင် ချိန်ဆတော် မူမိ၏၊ ထို့ အခါ ရှေးဦးစွာ ဤတရားတော်ကို ဆွေတော်, မျိုးတော်တို့ အတွင်း၌ ကျင့်ဆောင်—လိုက်နာရန် စီမံတော်မူ၏။

ထို့ အတူ မင်, နီးနွယ် စပ်ဟပ်သော မိတ်ဆွေများ အတွင်း၌ ၎င်း, တရားတော်ကို အလျင်း မသိရှိသေးသူတို့ အတွင်း၌၎င်း, ၎င်းတို့ ချမ်းသာကို ဆောင်နိုင်စွာသော တရား ကျင့်ဝတ်ကို စီမံတော်မူ၏၊ ဤ နှင့် အလားတူ သာ လျှင် အားလုံးသော အယူ-ဝါဒ တပါးတို့ အတွင်း၌ လည်း ပြုကျင့်ရန် ကြံစည် ချိန်ဆတော်မူ၏၊ ငါ ဘုရင် မင်းမြတ်ကား အားလုံးသော အခြား အယူ-ဝါဒ ရှိသူ တို့ကို လည်း အထူးထူးသော ပူဇော်ခြင်း, ချီးမြှောက်ခြင်းမျိုးဖြင့် ပူဇော် ချီးမြှောက်တော် မူ၏၊ ယင်းသို့ ပြုခြင်းကား မိမိနှင့် အယူ တပါး ရှိသူတို့ အချင်းချင်း နီးနွှောမိရန် သာ မူ၍ ငါ မင်းမြတ် အလို ဖြစ်တော်မူသည်၊ ဤကျောက်စာကို ငါ မင်းမြတ် အဘိသိက် သွန်း၍, ၂၆ နှစ် မြောက် အခါ ရေးသား ထားစေတော်မူ၏၊— ဤသို့ အသောက မင်းတရားကြီး မိန့်ကြား မြွက်ဆိုတော်မူပြီ။

၉၊ ဥပဒေသ၊———ဤ ကျောက်စာကား မိမိ တရား ပွားစီး-စည်ပင်အောင် လုပ်နည်းကို ညွှန်ပြ၏၊ ပထမ နည်းမှာ မိမိ ဆွေမျိုးက စ၍, မိတ် သင်္ဂဟ, ထိုနောက် မိမိနှင့် မစပ်သူ, တရားကို အလျင်း မသိသူ, ထိုနောက် အယူ တပါး ရှိသူတို့အား တရားမှန် သိရန် စီမံ၏၊ အယူ တပါး ရှိသူ ဟု မရေ မတွက်, ပေးကမ်း စွန့်ကြဲခြင်းမှ စ၍, ချီးမြှောက် ထောက်ပံ့တော်မူ၏၊ ကျွန်ုပ်တို့အား လည်း မိမိ အလားတူ လိုက်နာ ပြုကျင့်ရန် နည်းကို ညွှန်ပြ၏။

၁၀၊ မှတ်ချက်၊ ဤ လောက နေသူများ အတွင်း၌ အမျိုးဇာတ် ခြားနား ခြင်း, ဘာသာ-အယူ-ဝါဒ ခြားနားခြင်း, နေရပ်-ဒေသ ခြားနားခြင်း,—ဤ၃မျိုးကြောင့် မေတ္တာ-ပေမ အချင်းချင်း လူ တမျိုးနှင့် တမျိုး, တဦးနှင့် တဦး စသည်၌ လူအချင်းချင်း

ဗုဒ္ဓဘာသာဝင်တို့ လိုက်နာအပ်သည့် ဗြဟ္မစိုရ် တရားသည်ကား ဤသို့ အမျိုး - ဘာသာ—ဒေသခြား - မခြား ရွေးကောက်—သီးသန့်မပြုမူ၍ ကျင့်ဆောင်ရန် သာ ဖြစ်၏၊ ထိုဗြဟ္မစိုရ် အတိုင်း လိုက်နာသူ မှန်လျှင်, ဤသို့ အမျိုး စသည် သီးသန့်ဖွယ် မရှိ; အားလုံး မျှတနိုင်တော့လေ၏၊ အသောက မင်းတြားကြီးကား မင်းတို့ ကျင့်အပ်သော ဗြဟ္မစိုရ် တရား, သင်္ဂဟ တရားများ အရ ကျနစွာ လိုက်နာခဲ့လေပြီ၊ အမျိုးသား တဦးနှင့် တဦး ဗြဟ္မစိုရ် တရား အတိုင်း ကျင့်ကြံ လိုက်နာခြင်းတွင် လည်း မေတ္တာနှင့် ကရုဏာ သည် အထူး ထင်ရှား လေသည်၊ ၎င်းမှာ လည်း အစီး - အပွားကို ကျင့်ခြင်းအမှတ်-အသား ထင်ရှား ရှိလေသည်၊ ၎င်းတွင် လည်း မနောကံ, ဝစီကံများ ထက် ကာယကံမှာ သာလွန် ထင်ရှား လေသည်၊ ၎င်းတွင် လည်း အခြား တပါးသော ကိစ္စများ ထက် ပေးကမ်းခြင်းသည် အကျိုး စီးပွား ကျင့်ကြောင်း အထူး ပေါ်လွင်—သိသာစေလေသည်၊ ထို့ကြောင့် ထိုသို့သော ပေးကမ်းရေးဖြင့် ဘာသာဝါဒ ခြားသူတို့နှင့် အသောက မင်း ဆက်ဆံခဲ့ခြင်းမှာ လွန်မင်းစွာ သင့်တော်လှပေသည်၊ အသောက မင်းတြားမှာ မိမိ၏ တိုင်းသား ပြည်သူတို့ ချည်း ဖြစ်ခြင်းကြောင့် ထိုသို့သော မေတ္တာ ကရုဏာ ဗြဟ္မစိုရ်များကို ထူးထူး ခြားခြား ပြုနိုင်သည် ဟု ဆိုနိုင်ခဲ့လျှင်; အသောက မင်းတြားထက် သတ္တဝါ အများနှင့် တရားစပ် နီးနွှားသော ဗုဒ္ဓဘာသာ ရဟန်းတော်များမှာ, အသောက မင်းတရား၏ ဒါန—ဖက်၌ ဘာသာခြားတို့နှင့် ဆက်ဆံ၍ ထို သူတို့ကို တရားဖက်သို့ ပါစေသည့်အလား, ထိုအတူ တရား—ဓမ္မ ဟောပြော ညွှန်ကြားခြင်း—ဝစီကံ အားဖြင့် ဘာသာခြားတို့နှင့် ဆက်ဆံနိုင်ရန် အခွင့်သင့်တော်လေသည်၊ ဤသို့ အခွင့်ရှိတိုင်း ပြုလုပ်ခြင်းသည် ရဟန်းတော်တို့၏ ကမ္ဘာ့ဆရာ, အများ့ဆရာ ဟူသော အမည်နှင့် အလွန်သင့်လျော်၏ ဟု မြဲမြဲ စွဲစွဲ မှတ်ထား သင့်လေသည်။

# သတ္တမသိလာထမ္ဘာ’နုသာသနီ

## ၇၊ မူလပါဠိ၊

## ဒေဠိသိဝါလိကထမ္ဘ ၇-၁၊

ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟ;— ယေ အတိကံတံ အံတလံ လာဇာနေ ဟုသု, ဟေဝံ ဣဆိသု ကထံ ဇနေ ဓံမဝဎိ ဝါဎေဝါ, နော စု ဇနေ အနုလုပါယ ဓံမဝဎိယာ ဝဎိထ၊ ဧတံ ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟ;— ဧသ မေ ဟုထာ အတိကံတံ စ အံတလံ ဟေဝံ ဣဆိသု လာဇာနေ ကထံ ဇနေ အနုလုပါယ ဓံမဝဎိယာ ဝဎေယာ’တိ; ကိနုသုကာနိ အဗျုန္နာမယေ’ ဟံ ဓံမဝဎိယာ’တိ၊ ဧတံ ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟ; ဧသ မေ ဟုထာ ဓံမသာဝနာနိ သာဝါပယာမိ; ဓံမာ’နုသထိနိ အနုသာသာမိ၊ ဧတံ မေ သုတု အနုပဋိပဇီသတိ အဗျုန္နမိသတိ။

[ ၇-၂၊ ]

ဓံမဝဎိယာ စ ဗာဎံ ဝဎိသတိ၊ ဧတာယေ မေ အဋာယေ ဓံမသာဝနာနိ သာဝါပိတာနိ; ဓံမာ’နုသထိနိ ဝိဝိဓာနိ အာနပိတာနိ; ယထာ မေ ပုလိသာ’ ပိ ဗဟုနေ ဇနသိ အာယတာ, ဧတေ ပလိယော ဝ ဒိသံတိ’ပိ; ပဝိထလိသံတိ’ပိ၊ လဇူ—ကာပိ ဗဟုကေသု ပါနသတ—သဟသေသု အာယတာ, တေ’ပိ မေ အာနပိတာ; ဟေဝံ စ ဟေဝံ စ ပလိယော’ ဝဒါထ၊ ဇနံ ဓံမယုတံ ဒေဝါနံ ပိယေ ပိယဒသိ ဟေဝံ အာဟ; ဧတံ ဧဝ မေ အနုဝေခမာနေ ဓံမ—ထံဘာနိ ကဋာနိ; ဓံမ—မဟာမာတာ ကဋာ၊ ဓံမသာဝနေ ကဋေ ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟ; မဂေသု’ပိ မေ နိဂေါဟာနိ လောပါပိတာနိ ဆာယော’ပဂါနိ ဟောသံတိ, ပသုမုနိသာနံ အံဗာ—ဝဍိကျာ လောပါပိတာ။

အဎကောသိကျာနိ ပိ မေ ဥဒုပါနာနိ ပဋီဘောဂါယေ ခါနာပါပိတာနိ နိံသိဓိယာ စ ကာလာပိတာနိ၊ အာပါနာနိ မေ ဗဟုကာနိ တတ တတ ကာလာပိတာနိ ပဋီ ဘောဂါယေ ပသုမုနိသာနံ၊ လ (ဟုကေ စု) ဧသ ပဋီဘောဂေ နာမ၊ ဝိဝိဓာယ ဟိ သုခါယနာယ ပုလိမေဟိ ပိ လာဇီဟိ မမ ယာ စ သုခယိတေ လောကေ၊ ဣမံ စု ဓံမာ-နုပဋိပတီ အနုပဋိပဇံတူ တိ၊ ဧတဒထာ မေ ဧသ ကဋေ၊ ဒေဝါနံ ပိယေ ပိယဒသိ ဟေဝံ အာဟ; ဓံမ-မဟာမာတာ ပိ မေ တေ ဗဟုဝိဓေသု အဋေသု အနုဂဟိကေသု ဝိယာပဋာသေ, ပဝဇီတာနံ စေဝ ဂိဟိ-ထာနံ စ သဝ-ပါသံဍေသု ပိ စ ဝိယာပဋာ သေ။

သံဃဋ္ဌသိ ပိ မေ ကဋေ ဣမေ ဝိယာပဋာ ဟောဟံတိ တိ၊ ဟေမေဝ ဗာ-ဘနေသု အာဇီဝိကေသု ပိ မေ ကဋေ, ဣမေ ဝိယာပဋာ ဟောဟံတိ တိ၊ နိဂံဌေသု ပိ မေ ကဋေ; ဣမေ ဝိယာပဋာ ဟောဟံတိ တိ၊ ပဋိဝိသိဋ္ဌံ ပဋိဝိသိဋ္ဌံ တေသု တေသု တေ တေ မဟာမာတာ ဓံမ-မဟာမာတာ စု မေ ဧတေသု စေဝ ဝိယာပဋာ, သ-ဝေသု စ အံနေသု ပါသံဍေသု၊ ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ အာဟ-ဧတေ စ အံနေ စ ဗဟုကာ မုခါ ဒါနဝိသဂသိ ဝိယာပဋာ သေ၊ မမ စေဝ ဒေဝီနံ စ သဝသိ စ မေ ဩလောဓနသိ, တေ ဗဟုဝိဓေန အာကာလေန တာနိ တာနိ တုဋ္ဌာယတနာနိ ပဋိပါဒယံတိ ဟိဒ စေဝ ဒိသာသု စ။

ဒါလကာနံ ပိ စ မေ ကဋေ အံနာနံ စ ဒေဝိ-ကုမာလာနံ, ဣမေ ဒါန-ဝိသဂေသု ဝိယာပဋာ ဟောဟံတိ တိ ဓံမာ ပဒါနဋာယေ ဓံမာ နုပဋိပတီ ယေ၊ ဧသ ဟိ ဓံမာ ပဒါနေ ဓံမာပဋိပတီ စ; ယာ ဣယံ ဒယာ, ဒါနေ, သစေ, သောစဝေ၊ သာဒဝေ စ လောကသ ဟေဝံ ဝဍိသတိ တိ၊ ဒေဝါနံ ပိယေ ပိယဒသိ လာဇာ ဟေဝံ အာဟ; ယာနိ ဟိ ကာနိစိ မမိယာ သာဓဝါနိ ကဋာနိ, တံ လောကေ အနူပဋိပံနေ, တံ စ အနုဝိဓိယံတိ၊ တေန ဝဍိတာ စ ဝဍိသံတိ စ မာတာ-ပိတိသု သုသုသာယ ဂုလုသု သုသုသာယ ဝယောမဟာလကာနံ အနုပဋိပတိယာ ဗာဘန-သမဏေသု, ကပဏဝလာကေသု, အာဝ ဒါသဘတကေသု သံပဋိပတိယာ။

ဒေဝါနံ ပိယေ ပိယဒသိ ရာဇာ ဟေဝံ အာဟာ;—မုနိသာနံ စု ယာ ဣယံ ဓံမဝဎိ—ဝဎိတာ ဒုဝေဟိ ယေဝ အာကာလေဟိ, ဓံမနိယမေန စ, နိဈတိယာ စ၊ တတ စ လဟုသေ ဓံမနိယမေ; နိဈတိယာ'ဝ ဘုယေ၊ ဓံမနိယမေ စု ခေါ ဧသ, ယေ မေ ဣယံ ကဋေ၊ ဣမာနိ စ ဇာတာနိ အဝဓိယာနိ; အံနာနိ ပိ စု ဗဟုကာနိ ဓံမနိယာမာနိ၊ ယာနိ မေ ကဋာနိ နိဈတိယာ' ဝ စု ဘုယေ မုနိသာနံ ဓံမဝဎိ—ဝဎိတာ, အဝိဟိံသာယေ ဘူတာနံ အနာလံဘာယေ ပါနာနံ, သေ ဧတာယေ အဋာယေ ဣယံ ကဋေ၊ ပုတာ—ပပေါတိကေ စံဒမသုလိယိကေ ဟောတုတိ၊ တထာ စ အနုပဋိပဇံတု'တိ၊ ဟေဝံ ဟိ အနုပဋိပဇံတံ ဟိဒတ ပါလတေ အာ-လဓေ ဟောတိ၊ † သတဝိသတိဝသာ' ဘိသိတေန မေ ဣယံ ဓံမ-လိဗိ လာခါပါပိတာ'တိ၊ ဧတံ ဒေဝါနံ ပိယေ အာဟာ; ဣယံ ဓံမလိဗိ အတ အထိ သိလာထံဘာနိ ဝါ သိလာဖလကာနိ ဝါ၊ တတ ကဋဝိယာ ဧန ဧသ စိလဋ္ဌိတိကေ သိယာ။

## ဣတိ သတ္တ သိလာ ထမ္ဘာနုသာသနိယော နိဋ္ဌိတာ၊

၈၊ မှတ်ချက်၊ ဤကျောက်စာ၌ 'သတဝီသတိ ဝသာ ဘိ သိတေန'—ဟူသည်ကို 'သတ္တဝီသတိ ဝသာ'ဘိ သိတေန' ဟူသော ပါဠိမှန်နှင့် အညီမှတ်၊ အဆင့်ရှိ ဟူသမျှ အဆင့်မဲ့ ချည်း ဖြစ်သည်မှာ ဤ အသောက ကျောက်စာ ဟူသမျှ၏ ထုံးစံတည်း၊ ၎င်းမှာ ထိုစဉ် အခါက ရေးထုံး ဟု ဆိုသင့်သော် လည်း ကျောက်စာ ဖတ်သူတို့က အဆင့် ရှိ—မဲ့ကို သိ၍ ဖတ်ခြင်း ဟုတ်—မဟုတ် စိစစ်ဖွယ် ရှိသေးသဖြင့် အမှန် မဆို သာ။

† ဤ 'သတဝီသတိ' ဟူသော စကားနှင့် ပထမ ကျောက်စာများတွင် 'သဍုဝီသတိ' ဟူသော စကား၏ သဒ္ဒါနည်း ခြားကွဲလွဲခြင်းအကြောင်း အချင်းချင်း အနက် ခြားနားပုံကို သိသင့်၏။ U.K.D.

## ၉၊ မြန်မာဘာသာပြန် ၇၊

### ပြည်သူတို့အား တရားမှန် ကျင့်နိုင်ခဲ့ကြောင်း၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိ ဟု ဖွဲ့၍ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်းတရားကြီး ဤသို့ မိန့်မြွက် မြွက်ကြားတော်မူပြီ၊ —— ဤ လောက၌ မြောက်မြားစွာသော မင်းကြီးတို့သည် မည်သို့ အားဖြင့် တိုင်းသား ပြည်သူ ဗိုလ်လူအများ၌ တရားနှင့် ညီညွတ်သော အစီးအပွားကို ပွားစီးစေရကုန်အံ့နည်း?၊ မည်သို့ အားဖြင့် တိုင်းသား ပြည်သူ ဗိုလ်လူတို့နှင့် မဆန့်ကျင်ပဲ ရှိ၍ တရားသဖြင့် ပွားစီး စည်ပင် ကုန်အံ့နည်း ? ဟု ဤသို့ အလို ဣစ္ဆာ ရှိကြကုန်ကာသာ သေလွန်ရသည့် ကာလ အကြား ပါတ်လုံး ကုန်လွန်ကြရကုန်၏၊ (အလို့ အတိုင်း ကား မပြုနိုင်ကြသူ အလွန်ရှားလှကုန်၏။)

ဤ အရေးနှင့် စပ်သော စကားကို မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿိ ဟု ဖွဲ့၍ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်းကြီးကြီး ဤသို့ ၎င်း မိန့်မြွက် မြွက်ကြားတော်မူပြီ—ဤသို့ တရားသဖြင့် ကြီးပွားလိုသော မင်းတို့အား ၎င်း, တိုင်းသား ပြည်သူ ဗိုလ်လူတို့အား ၎င်း, အဘယ်သို့လျှင် တရားနှင့် သင့်တင့်သော ကြီးပွားခြင်းမျိုးဖြင့် ကြီးပွားစေနိုင်ကုန်အံ့နည်း ဟု ၎င်း, မည်သို့လျှင် ထိုသို့သော မင်းကြီးတို့နှင့် အများ ပြည်သူတို့အား တရား၌ ကိုင်းညွတ်စေနိုင်အံ့နည်း ဟု ၎င်း- ဤသို့ ကြံစည်ကာ သာ ငါမင်းမြတ်အား ယနေ့ အထိ အကြား ကာလကို ကုန်လွန်စေပြီ။

ဤ မိမိ ကြံစည်ရေးနှင့် စပ်သည်ကို လည်း မင်းတကာတို့ ချစ်ကြည် လေးစား အပ်၍ ပိယဒဿိ ဟု ဖွဲ့၍ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ် တော်ကို ခံယူ—ရရှိတော်မူသော အသောက မင်းတကြားကြီး ဤသို့ မိန့်မြွက် မြွက်ကြား တော်မူပြီ၊ ——ငါ မင်းမြတ်မှာ ဤသို့ တရားတော် ပွားစေလိုသည် စိတ်ဆန္ဒ ဖြစ်— တော်မူ၍ ဓမ္မကထိက ရဟန်း—ရှင်—လူတို့ တရား—စကားကို ဟောပြ—ဆုံးမခြင်းကို ဟောကြားတော်မူ၏၊ တရားတော် ဟောပြော ဆုံးမခြင်းကို လည်း ဟောညွှန် ဆုံးမ ခြင်း ဝါ

ပေး၏၊ ဤသို့ ငါ မင်းမြတ်၏ တရား နာခြင်း, တရား ဟောခြင်းသည် ကောင်းမွန်လှစွာလျှင် အစဉ် မပြတ် အဆက်ဆက်တိုင် ဆက်—စပ်လိမ့်သတည်း၊ တရား နာရေး, ဟောပြောရေး၌ ကောင်းစွာ ညွတ်တွားလိမ့် သတည်း။

၇—၂။ တရားနှင့် သင့်လျော်သော စီးပွားဖြင့် သာ လွန်စွာ ကြီးပွားစေလိမ့်သတည်း၊ ငါ မင်းမြတ်သည် ဤသို့သော တရားတော် ကြီးပွားရေး အတွက် သာ တရားတော်ကို ကြားနာစေတော်မူရ၏; တရားတော် အတိုင်း အဆုံး အမ ပေးတော်မူ; အထူးထူးသော တရား ဩဝါဒတို့ကို လည်း စေစားတော်မူအပ်ကုန်၏၊ ထိုနည်း အတိုင်း ပင် ငါ မင်းမြတ်၏ မှူးတော်, မတ်တော်တို့သည် လည်း များစွာသော တိုင်းသား ပြည်သူတို့နှင့် စပ်ဆက်ကုန်ကြရကား ငါ့ တရားကို တဆင့် ပြောကြား ဆုံးမကြကုန်လတ္တံ့; ဗိုလ်လုတိုင်း အနှံ့ ဖြန့်ဖြူးကြကုန်လတ္တံ့၊ မြားမြောက်စွာသည့် ဗိုလ်လုအသိန်းတို့နှင့် စပ်ဆိုင်ကြကုန်သော လက်အောက် ဘုရင်ခံတို့ ထံသို့ လည်း ဤသို့ ဤသို့ ဆုံးမ—ဩဝါဒ ပြုကြပါကုန် ဟု ငါ မင်းမြတ်က စေစားတော်မူအပ်ကုန်ပြီ။

ထိုထို ဗိုလ်လု မြောက်မြားစွာတို့အား တရားတော် ဆက်ဆံ ရောနှောရေးနှင့် စပ်လျက်, မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဖွဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မယောရိမြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော် မူသော အသောက မင်းမြားကြီး ဤသို့ မိန့်မြွက်တော်မူပြီ၊........ဤသို့ ဗိုလ်လု အများနှင့် တရားတော် ဆက်ဆံရေးကို တွေးဆ ချိန်ဆက်တော်မူ၍ ငါ မင်းမြတ်သည် တရား ဩဝါဒ' နှသာသနိ ကျောက်စာတိုင်တို့ကို အမြောက်အမြား စိုက်ထား တည်ဆောင် ထားရှိအပ်ကုန်၏၊ တရား ညွှန်ပြ ဩဝါဒ အရေး၌ ကြပ်မတ် စီမံရန် အမတ်ကြီးများကို ခန့်ထားတော်မူအပ်ကုန်၏၊ အကြိမ် များစွာ တရား နာခြင်းကို ငါ မင်းမြတ် ပြုတော်မူ၏။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍ ပိယဒဿီ ဟု ဖွဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မယောရိမြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်းတရားကြီး ဤသို့ မိန့်မြွန် ထုတ်ဆင်တော်မူပြီ၊.... .. ငါ မင်းမြတ်သည် သား—ငှက် တိရစ္ဆာန်နှင့် 'လူတို့ အရိပ် ခိုရရန် အလို့ငှါ ခရီးလမ်းတို့၌ ညောင်ပင်များစွာတို့ကို လည်း ကောင်း, သရက်ပင်—ညောင် ပိန္နဲပင် တို့ကို လည်း ကောင်း စိုက်ပျိုးတော်မူအပ်ကုန်၏၊ ကောသဝက်—ကောသဝက်ကွာခြားရာ၌ ရေတွင်း ရေကန် တို့ကို လည်း သောက်သုံးရန် တူးထားစေတော် မူအပ်ကုန်၏၊ ထိုထို လမ်းခရီးတို့၌ နေထိုင်–ခိုနားရန်

ဓမ္မသာလာ တို့ကို လည်း ဆောက်လုပ် တည်ထား စေတော်မူအပ်ကုန်၏၊ ထို့ပြင်, ထိုထို ရေချမ်းစင်, ရေကျင်းတို့ကို လည်း ထိုထို အရပ် ထက်ဝန်းကျင်၌ သားငှက်နှင့် လူတို့ သောက်သုံးရန် တည်ထားစေတော်မူအပ်ကုန်၏၊ ဤ သုံးဆောင်ဖွယ် ကုသိုလ် မည်သည် သေးငယ်—ပေါ့ပါးသော အမှု သာ ဖြစ်၏၊ သင့်မြတ်လှစွာ ရှေးရှေး မင်းကြီးတို့ လည်း အစား စားသော ချမ်းသာစေခြင်း မျိုးဖြင့် ချမ်းသာစေခဲ့ကုန်ပြီ၊ စင်စစ်ကား ဤအမှု၌ တရားအား လျော်သော ကျင့်စဉ်ကို သာ လူမှု ကျင့်ဆောင်ကြကုန်၊ ဤ အကျိုးငှါ သာ ငါ မင်းမြတ်သည် ထိုအမှုကို ပြုတော်မူ၏။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်း တရားကြီး ဤသို့ မိန့်ပြန် တော်မူပြီ၊— ငါ မင်းမြတ်၏, တရားကြပ် အမတ်ကြီးတို့ လည်း များပြားစွာသော အကျိုးရှိ ကိစ္စတို့ကို မြီးမြောက်ကုန်လျက် ကြောင့်ကြစိုက်ကုန်၏၊ ဗုဒ္ဓဘာသာဝင် ရဟန်း-ရှင်လူတို့ အတွင်း၌ ၎င်း, ဗုဒ္ဓဘာသာဝင်မှ တပါးအခြားဘာသာဝင် ပုဂ္ဂိုလ်တို့ အတွင်း၌ ၎င်း, ထင်ရှားကြကုန်၏၊ အလိုရှိသော အယူဝါဒ မရွေး ရှိသမျှ ဝါဒ အပေါင်း အစု၌ ငါမင်းမြတ် ပြုအပ်သော ဤ ကောင်းမှုတို့သည် လည်း ပေါ်လွင်သည် သာ ဖြစ်ကုန်လတ္တံ့၊ ဤ အတူပင် ပုဏ္ဏား အပေါင်းတို့ အတွင်း၌ ၎င်း, အာဇီဝက တက္ကတွန်းတို့အတွင်း၌ ၎င်း, ငါ မင်းမြတ် ပြုအပ်သော တရား အကျင့်တို့သည် ပေါ်လွင်သည် သာဖြစ်ကုန်လတ္တံ့၊ နိဂဏ္ဌ အယူ ရှိသူတို့ အတွင်း၌ ငါ မင်းမြတ် ပြုအပ်သော တရား ကျင့်ဝတ်တို့သည် ထင်စွာ ပေါ်ပြသည်သာဖြစ်ကုန်လတ္တံ့၊ ထူးထွေ-ထူးထွေရာကို သီးသန့်သီးသန့်ပြု၍, ထိုထို ပုဂ္ဂိုလ်တို့အတွင်း၌ ထိုထိုအမတ်ကြီးတို့သည် ၎င်း, ထိုထို တရား ပြဋ္ဌာန် သွန်သင်သော အမတ်တို့သည် ၎င်း, ဤ အားလုံး၌ ဖြစ်စေ, ဤမှ တပါးသော ပုဂ္ဂိုလ်တို့ အတွင်း၌ ဖြစ်စေ ထင်စွာ ပေါ်ပြကြကုန်။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ချီ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်း-တြားကြီး ဤသို့ မိန့်မြွက် ပြန်ကြားတော်မူပြီ—ဤသို့ ညွှန်ကြားခဲ့သည့် ကောင်းမှုတို့ကို ၎င်း, ဤမှ တပါး များစွာ အရေး ရောက်သော အမှုတို့ကို ပေးကမ်း စွန့်ကြဲရေး ဆိုင်-ရာ၌ ထင်စွာ ပေါ်ပြသင့်ကုန်၏၊ ငါ မင်းမြတ် ကိုယ်တော်တိုင် ၎င်း, မိဘုရားကြီး—ငယ်တို့ ၎င်း, အားလုံးသော ငါ မင်းမြတ်၏, နန်းတော်သူ အပေါင်းတို့ ၎င်း, ဤသူတို့သည် မြောက်မြား ထူးထွေသော အမျိုး—အစား အားဖြင့် ဤ မင်းနေပြည်တော် ပါဋလိပုတ်

၌ ၎င်း, အရပ် ရှစ်မျက်နှာတို့၌ ၎င်း ထိုထို စိတ် နှစ်ခြိုက်ရာ အဆောက် အဦးတို့ကို ပြုစုကြကုန်၏၊ ငါမင်းမြတ်၏ သားတော်များနှင့် တပါးသော ဒေဝီတော် မျိုးတော် ဆိုင်ရာ မင်းမိဘုရားတို့၏ သားတော်များ, ဤ အားလုံးတို့ ပြုလုပ်ကြ ကုန်သော ပေး-ကမ်း စေဖန်ခြင်း ဆိုင်ရာ ကုသိုလ်တို့သည် လည်း တရားတော် လမ်းကြောင်း ထင်ရန်, တရား—အတု ပြုလုပ် ကျင့်ကြံကြစေရန် ပေါ်ပြ ပေါ်လွင်စေအပ်သည် ပင် ဖြစ်ကုန်လတ္တံ့၊ အလှူဒါန, မှန်ကန်ခြင်း, စင်ကြယ်ခြင်း, ဤအရာဖက်၌ သနားညှာတာခြင်း ယူသော ဤကျင့်ဝတ်သည် ပြဒါန်းသော ပဋိပတ် မည်၏၊ ဤသူတော်ကောင်း အကျင့်သည် လည်း လောက နေသူ လူတို့ အတွင်း၌ ဤသို့ အားဖြင့် ပြန့်ပွားရာသတည်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ရှိ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်း-တြားကြီး ဤသို့ မိန့်မြွန် မြွက်ကြားတော် မူပြီး —— ငါ မင်းမြတ် ပြုပြုတိုင်း ကောင်း သော အမှု ဟူသမျှကို လူ အများတို့ လိုက်နာ တုမှု နည်းယူ ကျင့်ဆောင် စေရန် စီမံ တော် မူအပ်ကုန်၏၊ ထို့ စီမံ ထားရှိချက်က တိုးတက် ပြန့်ပွားစေခဲ့သော်; အမိ-အဘတို့ စကားကို နားထောင် လိုက်နာခြင်းငှါ ၎င်း, ဆရာ—သမားတို့ အဆုံးအမတို့ နာယူ—ကျင့်-ကြံစေရန် ၎င်း, အရွယ် ကြီးရင့် အိုမင်းသူ, ရဟန်း—ပုဏ္ဏား အသီး ကျန် ထူတောင်းစား တို့၌ တရားနှင့် အညီ ကျင့်ဆောင်စေရန် ၎င်း, ကျွန်—အမှုလုပ်—သူစားတို့ အပေါ်၌ ဖြောင့်မှန် ကောင်းမွန်စွာ ကျင့်ဆောင်စေရန် ၎င်း,— ဤသို့သော တရားကောင်းတို့သာ ကြီးပွား တိုးတက်ကုန်လိမ့်သတည်း၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, ပိယဒဿီ ဟု ဝှဲ့ရှိ ခပ်နိုပ် အရှင် မ-ဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ ရရှိတော်မူသော အသောက မင်း တြားကြီး ဤသို့ မိန့်မြွက် မြန်ကြားတော်မူပြီး—— ဤ ကမ္ဘာ လောက နေသူ လူတို့အ-တွင်း၌ တရား သဘော အားဖြင့် ၎င်း, သိနားလည်အောင် ဟူးစားရန် တိုက်တွန်းခြင်းဖြင့် ဤသို့သော တရား သဖြင့် ကြီးပွားခြင်း ဖြစ်နိုင်လေသည်၊ ထို ၂ မျိုးအနက် တရား သဘော အလို နကိုယ် ပကတိ အားဖြင့် ကြီးပွားခြင်းမှာ အနည်းငယ်မျှ သာ ဖြစ်၍, သိနားလည်အောင် ဟူးစားရန် တိုက်တွန်းခြင်းဖြင့် ကြီးပွားဖြစ်မြောက်ခြင်းသာ အများ-ဖြစ်လေသည်၊ ငါမင်းမြတ်၏ ဤသားငှက် သတ္တဝါတို့ကို မသတ်ဖြတ်အပ်—စသည် ဤနှင့်

အလားတူ အခြား များစွာသော အမှုတို့သည် တရား သဘောအားဖြင့် သာ ပြုလုပ်ခြင်း ဖြစ်ကုန်၏၊ ငါ မင်းမြတ်က လူအပေါင်းတို့အား တရားတော် အတိုင်း ကြီးပွားစေလို၍, တိုက်တွန်းခြင်း—သိစေခြင်းဖြင့် ပြုအပ်သော အရာတို့ကား များစွာ ပင် ဖြစ်ကုန်၏။

[ရှင်းတို့ကို အဘယ့်ကြောင့် ထိုသို့ ပြုရသနည်း?၊] ထင်ရှားသော သတ္တဝါတို့ကို မညှဉ်းဆဲစေရန် ရှင်း, အသက် ရှိ သောမန် သတ္တဝါ ဟူသမျှကို မသတ်ဖြတ်စေရန် ရှင်,—ဤသို့သော အကျိုးငှါ သာ ဤသို့ သိနားလည်သည် တိုင်အောင် တိုက်တွန်းခြင်း ကို ပြုတော်မူရ၏၊ ငါမင်းမြတ်၏ သားတော် အစဉ် မြေးတော် အဆက်တို့ သည်လည်း အမြဲ ထွက်ပေါ်သော နေ—လ အလား, ဖြစ်ကြစေသတည်း ဟု ရှင်း, ထိုနည်း အတူ ပင် ကျင့်ကြစေသတည်း ဟူ၍, ရှင်း,—ဤသို့သော အကျိုးငှါ လည်း ဤသို့ တိုက်တွန်း ခြင်းကို ပြုလုပ်တော်မူရသတည်း၊ ထိုသို့ ပြုခြင့် သင့်မြတ်လှပေစွ; ယင်းသို့ အတူ လိုက်-နာသူတို့မှာ သာ ဤပစ္စုပ္ပန်ကျိုး တမလွန်ကျိုး၌ နှစ်သက်ရခြင်း ဖြစ်ပေါ်လေသည်၊ ငါ မင်းမြတ် အဘိသိက် ၂၇ နှစ်မြောက် အခါ ဤတရားစာတော်ကို ရေးသားစေအပ်၏၊— ဤစကားကို မင်းကြီးကြီး မှာဆိုတော်မူပြီ—ဤတရားတော် ကျောက်တိုင် ကျောက်-ပြား တည်ရှိရာ ဌာနများ၌ ဤကျောက်စာများ ကာလ မြင့်ရှည် တည်နေရန် ပြုစု ပြင်ဆင်ကြစေသတည်း ဟု မှာဆိုတော်မူပြီ။

ဤမျှကား ကျောက်တိုင်တို့၌ ရေးသားသော ကျောက်စာ ဩဝါဒ စာတော် ၇ ခု ပြီးဆုံးသတည်း။

၁၀၊ ဥပဒေသ၊ ဤကျောက်စာ၏ ဆိုလိုရင်း အချုပ်ကား—မင်းအပေါင်း များစွာမှာ တရား ကျင့်ရန် ကြံစည်သည့် အတွင်းပင် မကျင့်ရပဲ ကာလကုန်၍, သေလွန် ကြရ၏၊ မိမိ လည်း ထိုသို့ ကြံစည်သူ တဦး ဖြစ်၏; သို့သော်,မိမိမှာ ကြံစည်ဘိုင်း ဖြစ် မြောက်ရန် တရား နာ၏; ကိုယ်က လည်း ဟော၏; ကျင့် လည်း ကျင့်၏၊ လှူဒါန်းခြင်း, စွန့်ကြဲခြင်း စသည် မိမိ ဘုတမါး အားလုံး ပြုပြုသမျှမှာ မပြောပလောက်ချေ; စင်စစ် ကား တရား လမ်းမကြီး ပွင့်သင်းအောင် ကျင့်ခြင်း သာ မှန်မြတ်၏၊ ထို့ကြောင့် မိမိ သည် ထိုတ ႏ လမ်းကြောင်း ပွင့်လှစ်ရေး တရား နိုးဆော် အမတ်ကြီးများ စသည် သီးသန့် ခန့် ထားခြင်းကို ပြုလုပ်တော်မူ၏၊ ထို အမတ်တို့က မိမိ၏ ကောင်းမှု တော်များနှင့် အခြား သူတို့ ကောင်းမှုများကို ဖော်ပြ ထားခြင်း, အတုး ကျ စေခြင်း စသည်ဖြင့် ထိုထိုကောင်း မှုတို့ကို ပြုကုန်၏; သို့ ပြုခြင်းသည် တရားမှန် လမ်းကြောင်း ပွင့်ရန်သာ ဖြစ်၏၊ မိမိ ကျင့်

တိုင်း, သို့မဟုတ် ညွှန်ကြားတိုင်း လိုက်နာ ကျင့်မည် ဆိုက လူကြီး—သူမတို့ စကားကို နားထောင်ခြင်း စသော လောက ကောင်းစားရေး တရားများ တိုးပွားရန် သာ ဖြစ်၏၊ လူတို့၌ တရား ပွားစီးခြင်းသည် သဘာဝ ဓမ္မတာ အားဖြင့် ၎င်း, အတင်း သိနားလည် အောင် တိုက်တွန်းခြင်း အားဖြင့် ၎င်း,—ဤအကြောင်း ၂ မျိုးကြောင့် ဖြစ်လေသည်၊ မိမိကား တရား သဘော အတိုင်း သိစေမှုကို အနည်းငယ်သာ ပြု၍, အတင်း တိုက် တွန်းမှုကို သာ များစွာ ပြုကြောင်း; သို့မှ သာ အကျိုး ရရှိမည် ဖြစ်ကြောင်း ဟုလေ သည်။— ကောင်းလှပေစွ၊ ကျွန်ုပ်တို့ လည်း ထိုအသောက မင်းကြီး၏ နည်းနာကို သေသေ ချာချာ လိုက်နာဖို့ ကောင်းလှကုန်စွ။

၁၁၊ မှတ်ချက်၊ ။မင်းပေါင်း များစွာတို့မှာ တိုင်းသား ပြည်သူတို့ စီးပွားကိုပြုရန် ကြံစည်ကြကုန်ကာ သာ မပြုကြရ ဖြစ်ကုန်သည်၊ မိမိကား ကြံစည်တိုင်း ထမြောက်အောင် တရား နာခြင်း, တရား ဟောကြားခြင်းကို ပြု၍ ရည်သန်တိုင်း တိုင်းသား ပြည်သူတို့ စီးပွားကို ပြုစု-ပြီးစီးစေကြောင်း—ဟူသော စကားဖြင့် မင်းတို့၏ ထူးခြားသော ကိစ္စကို ၎င်း, ကိစ္စ ပြီးမြောက်ရန် လုပ်ကိုင်နည်းကို ၎င်း ညွှန်ပြ လေသည်၊ ထင်ရှား ဆိုရသော်, ပထမ အချက်မှာ မင်းတို့ မည်သည် လောကသူတို့ ကောင်းကျိုးကို ဆောင်ရွက်ရန် အ- စွမ်းဆောင်နိုင်ဆုံး ဖြစ်လေသည်; ထိုသို့ အရေးရောက်သည့် မင်း ဖြစ်ခိုက်တွင် အစွမ်း ရှိ သမျှ တိုင်းသား ပြည်သူတို့ စီးပွားကို ဆောင်ရွက်ရမည် ဟု ပြလေသည်၊ ဒုတိယ မှာ ထိုသို့သော အခွင့် ကောင်းကို မလွန်စေရန် 'အဇ္ဇေဝ ကိစ္စ မာတပ္ပံ'—ယနေ့ မှ ပြုလုပ် ယနေ ပင်'—ဟူသော ဘုရား စကားတော် အတိုင်း ထမြောက်သည် တိုင်အောင် ဆောင်- ရွက် ရမည်ကို ညွှန်ပြလေသည်။

မိမိ ပြုရန် အရေး ရောက်သော ကိစ္စကို ပြီးစီးအောင် ဆောင်ရွက်လို၍ တရားနာ ခြင်း, တရား ဟောခြင်းကို မိမိ ပြုလုပ်ကြောင်း—ဆိုသော အသောက မင်း၏ စကား ဖြင့်, ဓမ္မဒါနမှာ ဒါန-တကာတို့ထက် အမြင့်မြတ်ဆုံး ဖြစ်သည့် အတိုင်း ၎င်း ကို ပြု လုပ်သင့်ကြောင်း ညွှန်ပြ၏၊ အလှူပေးခြင်း စသည်ကို ပြုရာ၌ လည်း သူတော် တရား လမ်းကြောင်း ပွင့်ရန် သာ ပြုလုပ်ကြောင်း ဆိုသော စကားဖြင့် ဓမ္မ-ဒါန မြောက်အောင် ပင် ဓမ္မဒါနကို အသုံး ပြုကြောင်း ပြ၏၊ သဘော-ဓမ္မတာ အားဖြင့် သူတော် တရား တိုးပွားခြင်း, နိုးဆော် တိုက်တွန်းခြင်း အားဖြင့် သူတော် တရား တိုးပွားခြင်း ဟု သူတော် တရား တိုးပွားကြောင်း ၂-မျိုးကို ပြသော စကား ဖြင့် မိမိတို့ ဘာသာတရား တိုးပွား အောင် သို့မဟုတ် အခြား တစေတေတာ ကိစ ဟာသမကြီးပွားအောင် လုပ်ကိုင်နည်းကို ပြ၏။

ထို ၂ မျိုးတွင် သဗ္ဗောဓမ္မတာ အားဖြင့် ဆိုသည်ကား အတုမြင် အတတ်သင် ဟူသကဲ့သို့ သူတပါးတို့ လိုက်နာ သက်ဝင် နိုင်လောက်အောင် မိမိတို့ တရားကို သုပ္ပတိပန္န, သာမိစိပ္ပတိပန္န စသည် ဖြစ်အောင် ကောင်းမွန်-ရိုသေစွာ ကျင့်ဆောင်ခြင်းတည်း၊ ထိုသို့သော အကြောင်းမှာ တရား ကြီးပွားကြောင်း ဆိုရပေကော, ဖြစ်ခဲ့သည် ဟု အသောက မင်းတရားကြီး ဆိုလေသည်၊ တိုက်တွန်း-နှိုးဆော်ခြင်း ဟူသည်ကား အသောက မင်းတရားကဲ့သို့ မိမိ တရားကြီးပွားရန် ကြောင့်ကြ စိုက်၍ ဒေသ-ဒေသန္တရ-သမယန္တ- အမျိုးမျိုးတို့ အတွင်း၌ တရား ဟောခြင်း, ကျမ်းစာ ဝေငှခြင်း စသည်ကို ပြုလုပ်ခြင်းတည်း၊ ဤနည်းမျိုးကို မိမိ များစွာ အသုံးပြုလုပ်ကြောင်း အသောက မင်းတရားက ဆိုလေသည်၊ ယင်းသည့် နောက်-ပေါ်ပြီသော သူတော်, တရား တိုးပွားကြောင်း နည်းညွှန်များ အနက် နောက်နည်းကို အသုံးပြုခဲ့ခြင်းကြောင့် အသောက မင်း လက်ထက်က သာသနာတော် အထူး ပြန့်ပွား တိုးတက်ပုံကို မြင်သဖြင့် ကျွန်ုပ်တို့ ဗုဒ္ဓ-ဘာသာ တရား ကြီးပွားရေး အတွက် ပြုလုပ်ခွင့်ကို သိရှိ လုံ့လပမ်းကြရန် များစွာ သင့်တော်လှပေ၏။

ဤမျှဖြင့် အရှင်အာဒိစ္စဝံသ မထေရ် ပြန်ဆို ရေးသားအပ်သော အသောက ကျောက်စာတော်များ အနက် ၇ မျိုးသော ကျောက်တိုင် အဆုံး-အမများ ပြီးဆုံး သတည်း။

## ဃ၊ အခဏ်း ၄၊

### ကျောက်တိုင်ငယ် ကျောက်စာတော် ဩဝါဒ ၅ မျိုး။

# အထ ခုဒ္ဒက သိလာ ထမ္ဘ နုသာသနိယော၊

## ပထမ ခုဒ္ဒက သိလာ နုသာသနိ၊

### ၁၊ မူလပါဠိ—က၊

†ဒေဝါနံ ပိယေ— ......................ဟေဝံ အာဟ, သမာပါယံ မဟာ မာတာ နဂလဝိယော ဟာလကာ ဟေဝံ ဝတဝိယာ, အံ ကိဆိ ဒခါမိ ဟကံ, တံ ဣဆာမိ ကိံတိ ကံမန ပဋိပါဒယေ ဟံ; ဒုဝါလတေ စ အာလဘေဟံ၊ ဧသ စ မေ မောချ မတ ဒုဝါလ, အံ တုဖေသု အနုသထိ၊ တု ဖေဟိ ဗဟူသု ပါဏ သဟသေသု အာ [ယတာ] ပန ယံ ဂဆေမ သုမုနိသာနံ၊ သဝေ မုနိသေ ပဇာ မမာ အထ; ပဇာယေ; ဣဆာမိ ဟကံ; ကိံတိ မေ သဝေန ဟိတသုခေန ယုဇေယူ’တိ, ဟိဒလောကိက ပါလလောကိကာယေ ယုဇေဝု’တိ၊ တထာ သဝမုနိသေသု ပိ ဣဆာမိ ဟကံ နော စ တုဖေ ဧတံ ပါပုဏာထ, အာဝဂါမကေ ဣယံ အဌေ။

တေ စ ဝ ဧကပုလိသေ ပိ (မ) နာတိ ဧတံ၊ သေ’ ပိ ဒေသံ နော သဝံ, ဒေခထ ဟိ တုဖေ ဧတံ သုဝိဟိတာ’ပိ ဗဟုကာနိ ဣယံ ဧက—ပုလိသေ ပိ အထိ၊ ယေ ဗံဓနံ ဝါ ပလိကိလေသံ ဝါ ပါပုဏာတိ၊ တတ္ထ ဟောတိ, အကသ္မာ တေန ဗံဓနံတိ (က); အံနေ စ ဗဟုဇနေ ဒဝိယတိ၊ တတ တုဖေ ပိ ဣဆိတဝိယေ ‘တုဖေ ဟိ ကိံတိ မဇ္ဈံ ပဋိပါဒယေမာ’တိ၊ ဣမေဟိ စ ဇာတေဟိ နော သံပဋိပဇတိ ဣသာယ, အာသုလောပေန, နိဋ္ဌုလိယေန, တုလနာယ, † အနာဝုတိယာ အာလသိယေန ကိလမထေန။

သေ ဣဆိတဝိယေ, ကိံတိ ဧတေ ဇာတ—နော ဟုဝေယု မမာ’တိ၊ ဧတသ စ သဝသ မူလေ အနာသုလောပေ, † အတုလနာ စ နိတိယံ ကိလံ တေ သိယာ

---

†မှတ်ချက်၊ ရောမာဝတာရ သမ္ဘ၏ အသောက ကျောက်စာ စာအုပ်မျက်နှာ နာမ်ပါတ် ၂၇, ၂၄ တို့၌ ဤကျောက်စာကို ဓောလိ—ပထမ ကျောက်စာ ဟု အမည်ပေး၏။ U. K. D.

သံဃလိတု ဥဠာဒယ၊ သံဃလိတာဝိယေ ဝဇိတဝိယေ, တောဝိဓေယ ဝါ၊ ဟေဝံ မေဝ အိမေ တုဟာက တေန ဝတဝိယေ, အံနေ နိဂျာပေတာဝိယေ၊ ဟေဝံ စ ဟေဝံစ ဒေဝါနံ ပိယသ အနုသထိ တေသ (သံပ) တိပဒါ, တံ မဟာဖလေ ဟောတိ၊ အသံပဋိပတိ အပါဓေယ ဟောတိ; ဝိပဋိပါဒယံတံ နော သွဂ အာလဓိ; နောလာဓလေဓိ၊ ဂုံအာဟ—လေ တေသ ကံမသ မေ ကုတေ မနေ အတိလေကေ သံပဋိပဇ မာနေ ဇု သွဂံ အလာဓယိုသထ။

ဣယံ စ လိပိ တိသနခတေန သောတဝိယေ; အံတလာ ပိ စ ခဏသိ ခဏသိ ကေနဧကေန ပိ သောတဝိယေ၊ ဟေဝံ စ ကလံတံ တုဖေ စ အံနေ စ (သ) သံပဋိ—ပါဒယိတဝေ၊ ဧတာယေ အဌာယေ ဣယံ လိပိ လိခိတာ; ဟိဒ ဧန နဂလဝိယော ဟာလက သသ္ပတံ သမယံ ယုဇေယျု' တိ နဂလဇနသအကသ္မာ ပလိဗောဓေ ဝါ အ—ကသ္မာ ပလိကိလေသေ ဝါ နော သိယာ' တိ၊ ဧတာယေ စ အဌာယေ ဟကံ... မတေ ပံစသု ပံစသု ဝသေသု အနုသံယာနံ နိခါမိယိသာမိ၊ မဟာ မာတံ အစံဍံ အ—ဖလဟာတ ဝစနေလ......အိ......မာလေ ဝါ ကလံတိ အထ မမ အနုသထီ' တိ၊ ဥဇေနိတေ ပိ ကုမာလေ...တော ယေ ဝ အဌာယေ နိခါမယိသ; ဟေဒိသ' မေဝ ဝဂံ နော စ အတိကာမယိသတိ၊ တိံနိ—ဝသာနိ ဟေမေဝ တခသိလတေ ပိ အဒါ အ (နုသံယာနံ) ......... မဟာမာတာ နိခါမိသံတိ အနုသံယာနံ; တဒါ အဟာပယိတ (—) အတနေ ကံမံ ဧတံ ပိ ဇာနိသံတိ၊ တံ ပိ တထာ ကလံတိ လာဇိနေ အနု—သထီ' တိ။ [ ဓောလိ, ဇောဂဍ—ကျောက်စာ မူများမှ သဘော သက်ရာ ညှိနှိုင်း ကူးယူချက်။ ]

၂။ မှတ်ချက်၊ ။အံ ကိဆိ မှာ ယံကိဝိ ဟု ရင်း, ဟကံ မှာ ဤအရာ၌ အစီးအပွားသော ဟိတတ္တ ဟု ရင်း, ဒုဝါလတေ မှာ ဒုဝါရတ္တေ ဟု ရင်း, ဒုဝါလံ မှာ ဒုဝါရတ္တံ ဟု ရင်း, [ အချို့မူမှာ ဒုဝါလ - အထံ ဟု ပင်ရှိ၏ ] တုဖေ မှာ တုမှေ ဟု ရင်း, မုနိသ မှာ မနုသ ဟု ရင်း, တုလနာ ကို အတုလနာ ဟု ရင်း, အနာဝုလောပေ မှာ အာသုလောပေ ဟု ရင်း ကလံယိ မှာ ကရာန္တီ ဟု ရင်း, ဤသို့ စသည် ထူးတွေ ပေါက်ဖြန် ရှိနေပုံကို မှတ်ရာ၏၊ ဤ၌ ဟကံ ဟိတတ္တ ယူသည်မှာ တပါးသော ပါဠိသဒ္ဒါကော အဘိဓာန် စသည် အကိုး ရချေ့ မဟုတ် စင်စစ်ကား——

အတ္တာ ပကာရဏာ လိင်္ဂါ,
ဩ ဝိတျာ ကာလဒေသတော၊
သဒ္ဒတ္ထာ ဝိဘာဂီယန္တိ,
န သဒ္ဒါယေဝ ကေဝလာ'၊—

ဟူ သော သဒ္ဒတ္ထဇာလိနီ စကား, အတ္တ'မေဝ နာသယေ ကိံ'ကာဟာသိ ဗျူဠနံ ဗဟုံ' ဟူသော သာရိပုတ္တ ပရိပိုင်တ်၏ စကားတို့ကို ထောက်ထား၍ အနက် ဖြစ်သင့်ရာကို သင်ခြင် ကောက်ယူချက် သာ ဖြစ်၏၊ စင်စစ်ကား, မူလ ပုဒ်မှန်ကို ပင် စိစစ်ရန် ရှိ—သေး၏; သို့သော်, ဤကျောက်စာ၌ ထိုသို့ လည်း မလိုအပ်ဟု ကျွန်ုပ် ထင်၏။

ဤမှ အခြားမဲ့၌ ကျောက်တိုင်ငယ် ဆိုင်ရာ ဩဝါဒ ကျောက်စာ များကို ဆိုအပ်ကုန်၏။

## ၃၊ မြန်မာဘာသာ ၁၊

### မိမိ သူ တပါး ၂-ကျိုးရ ပြုဆင့်ပုံ၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်၍, (†ပိယဒဿီဟု ခံ့ရှိ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ—ရရှိသော အသောက မင်းတရား—ကြီး) ဤသို့ မြွက်ကြား မိန့်မြွက်တော်မူပြီ၊ အမတ်တော်ကြီး များနှင့် မြို့ချုပ် မြို့ကွပ် အကြီး အကဲ ဖြစ်သူများသည် ကောင်းမွန်သော ဥပါယ် နည်းနာဖြင့် ဤသို့ လိုက်နာ ပြုကျင့်စေကုန်၊ [ကျင့်နည်း ဥပါယ်ကား] ငါသည် ကြင်းမဲ့ ဥဿုံ ကုန်အောင် စုံ—သော အစီး—အပွားကို ကြည့်ရှု စောင်မသူ ဖြစ်၏; ထိုသို့သော ကြီးပွားရေး စီးပွားရေးကို ငါ သည် အဘယ်သို့ ပြုလုပ်ခြင်းဖြင့် ဖြစ်စေနိုင်အံ့နည်း; ငါသည် မည်သို့သော နည်းဖြင့် မိမိ သူတပါး အစီး အပွား ၂ မျိုးကို အားထုတ်ရအံ့နည်း—[ဤသို့ ပြုကျင့်ကြကုန်] ဤသည်လျှင် ငါ ဘုရင်မြတ် ကေန် လိုလားတော် မူ၍ သင်တို့အား ဆုံးမ ဩဝါဒ ထားအပ်သည့် အကျိုး ၂ ပါးတည်း။

† ဤ အကြွင်းတွင်း စကားမှာ ကျောက်စာ၌ ပျက်ကွက်သော ဓနရာကို မှန်းဆ [illegible] ဖြစ်၏။

မှူးတော် မတ်တော်များနှင့် မြို့ချုပ် မြို့ကွပ်ဖြစ်ကြသည့် သင်တို့အား ထောင်ပေါင်းများစွာသော သူတို့အား ကွပ်ကဲ အုပ်စိုးရကုန်သည် ဖြစ်ကြ၍, ကောင်းမြတ်သော သူများနှင့် လည်း ပေါင်းသင်း ဆက်ဆံကြရကုန်၏၊ (ထို့ကြောင့်) အားလုံး ကုန်အောင် စုံသော တိုင်းသား ပြည်သူတို့မှာ ငါ၏ သားနှင့် မခြားနားသူတို့ ချည်းဖြစ်ကုန်၏; ထိုသို့သော သားစစ်နှင့် မခြားသော တိုင်းသား ပြည်သူတို့အား ငါသည် စီးပွားရေး, ကြီးပွားရေးကို လိုလား၏; မည်မျှ မြောက်မြား၍ အားလုံး အကုန် စုံလင်သော အစီး-အပွားနှင့် ပတ်သက် စပ်ဆိုင်စေရအံ့နည်း ဟု ၎င်း, ဤ ပစ္စက္ခကျိုး, တမလွန်ကျိုးတို့၌ အဘယ်သို့ တည်စေနိုင်ရာ သနည်း ဟု ၎င်း, ထို့အတူ ကြင်းမဲ့ ဥဿုံ ကုန်အောင် စုံသော ဗိုလ်ပါတို့၌ ပင် ကြီးပွားရေး, စီးပွားရေးကို ငါသည် ဖြစ်စေလို၏ ဟု ၎င်း-- [ဤသို့ပြုကျင့်ကြကုန်၊] ဤမျှ အထိ သီးအပ်သော အစီး အပွား၌ သင်တို့သည် ထိုသို့သော စိတ်မျိုး အပြု-အမူမျိုးသို့ မရောက်နိုင်ကုန်အံ့; ထိုသို့ ဖြစ်သော်, အချို့ အစိတ် အပိုင်း မျှသော သူတို့ အပေါ်၌သော် (ထိုသို့သော စိတ်ထား အပြု-အမူ ရောက်ကုန်ရာ၏၊ သို့မဟုတ် ဒေသ အားလုံးကုန် မဟုတ်, အချို့ဒေသ အစိတ်ကို သော် ရောက်စေကုန်။)

သင်တို့သည် တယောက်မျှသော ပုဂ္ဂိုလ်၏ အပေါ်၌ပင် ဤစိတ်ထားမျိုး ဤ အပြု-အမူမျိုးကို ထားခဲ့ကုန်အံ့; အကျိုးများစွာကို ကောင်းစွာ ပြုလုပ် ထားရှိမိကုန်သည် ဟု ကြည့်ရှု သိမြင်ကြကုန်လော၊ အချို့ အချို့သော သူတို့သည် နှောင်ဖွဲ့ခြင်း, ညှဉ်းပန်း နှိပ်စက်ခြင်းကို ခံကြရကုန်သော်, ထိုသို့ နှောင်ဖွဲ့ခြင်း ညှဉ်းပန်းခြင်း အကြောင်းကြောင့် ထိုသူနှင့် စပ်ဆိုင်ရာ များစွာသော သူတို့ကို ပင် ဆင်းရဲခြင်း ဖြစ်စေ၏၊ ထို့ကြောင့် သင်တို့သည် မည်သို့လျှင် အလယ်-အလတ် ဖြစ်၍ မလျော့လွန်း မတင်းလွန်း အောင် ဖြစ်စေကုန်အံ့နည်း ဟု အလိုရှိအပ်ကုန်၏၊ [ဤသည် ကိစ္စကို] ဩဠု ဖောင်း မြောင်းခြင်း, လျင်လျားစွာ ပြုလုပ်ခြင်း, ကြမ်းကြုတ်ခြင်း, ကိုယ်ချင်း မစာနာခြင်း, ကောင်းစွာ မပြုကျင့်ခြင်း, ပျင်းရိခြင်း, ပင်ပန်းတတ်ခြင်း,-ဤသို့ သဘောရှိသော အမူ-အကျင့်မျိုးဖြင့် မကျင့်ကြံ မဖြစ်ပွားစေနိုင်ချေ။

ထို့ကြောင့် ဤသို့သော တရားတို့ကို ငါသည် အဘယ်သို့လျှင် မအောင်မြင်အပ် မဖိစီးအပ်နိုင်ပဲ ရှိကုန်အံ့နည်း ဟု ထိုတရားပျက်တို့ကို တွန်းလှန်ရန် စိတ်ထားကို အလိုရှိအပ်ရာ၏၊ ဤ ဂုဏ်သော စသော တရားယုတ်, တရားပျက် အားလုံး၏ အရင်း-အမြစ် ဖြစ်သော ဆောဆော လျင်လျင် ပြုခြင်း, နိတိကျမ်း ဟူသော ချိန်၌ မချိန့်တက်ခြင်း,

ပြုလုပ်ရာ၌ ပင်ပန်းတတ်ခြင်း—ဤသုံးပါးကို ရှေ့ရှား ပြောင်းလဲရန် လုံ့လကို ဖြစ်ပွားစေရာ၏၊ ပြောင်းရွှေ့ပြင်ဆင်မှုကား အောင်မြင်လေရာ၏; ပျောက်ပျက်ခြင်းသို့ ရောက်စေနိုင်လေရာ၏၊ ဤသို့လျှင် သင်တို့ ကိုယ်ကို ကြည့်ရှု ဆင်ခြင် ကြကုန်၊ ထိုသို့သော တရားဖြင့်သာ ကိုယ်မှ တပါး အခြားသူတို့ကို လည်း တိုက်တွန်းကြကုန်၊ ဤသည်လျှင်, မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းမြတ်၏ အဆုံး–အမတည်း၊ (ထိုသို့သော အကျင့်တို့ကို မှူးတော် မတ်တော်ကြီးတို့ လိုက်နာ၍, ကောင်းစွာ ကျင့်ကုန်၏၊) ထိုသို့ ကျင့်သော်, အကျိုး စီးပွား များ၏; မကျင့်သော်, ချမ်းသာ ကင်းရာ အပါယ်သို့ ကျရောက်၏; ချွတ်ယွင်း ကျင့်ကြံသူတို့မှာ နတ်ရွာကို မနှစ်မြို့ရ; မင်း အစိုးရ အဖြစ်ကို မရနိုင်၊ [ဤသို့ ပြောပြ တိုက်တွန်း ရာ၏။] ဤသို့သော အမှု ကိစ္စမျိုးကို ငါ မင်းမြတ် ပြုနိုင်ခဲ့ ပြုလုပ်သည် တို့ကို စိတ်မြတ် အမှန်, အလွန် ထား၍ လိုက်နာ ကျင့်ကြံခဲ့သော်, နတ်ရွာကို နှစ်မြို့ ကြရကုန် လတ္တံ့။

ဤတရား စာတော်ကို လည်း နှစ်၏ သုံးလမြောက် အာသဠ° နက္ခတ်နှင့် ယှဉ်သော ဝါဆို လပြည့်နေ့တိုင်း ဖတ်ကြား နာယူစေ၊ ထိုအခါသို့ မရောက်မီ, အကြား၌သော် လည်း အခွင့် သင့်သော်, ခဏ ခဏ တိုင်း တခုခုသော နေ့၌ လည်း ဖတ်ကြား နာယူစေ၊ ဤသို့ ပြုကျင့်ကုန်လျက်, သင်တို့သည် ၎င်း, အခြား သူတို့သည် ၎င်း,……… *ကောင်းစွာ ပြုကျင့် ဖြစ်မြောက်ကုန်စေရာ၏၊ ထိုသို့သော အကျိုးငှာ .သာ ဤတရား စာတော်ကို ရေးသား ထားစေတော်မူအပ်၏၊ ဤသို့ ရေးသား ထားရှိစေခြင်းဖြင့် ဤတရား စာတော်ကို အကြောင်း ပြု၍., မြို့ရွာကို စိုးအုပ် ကုပ်ကဲ သူတို့သည် အကျိုးရှိသော အခါကို သာ ဖြစ်ပွားစေရန် အားထုတ်ကြရာ၏ ဟု ၎င်း, ထို့ကြောင့် တိုင်းသား ပြည်သူ ဗိုလ်လူ အပေါင်းအား ဝန်လေးလံခြင်း လည်း မဖြစ်ရာ, သို့ ဝန်မလေး သဖြင့် ပင်ပန်းရှိရှားခြင်းသော်လည်း မဖြစ်လေရာ၊ [ဤသို့ ရည်ရွယ်၍ လည်း ဤတရား စာတော်ကို ထားအပ်၏။] ဤသို့သော အကျိုးငှာ သာလျှင် တိုင်းသူ ပြည်သားတို့ စီးပွားရေး, ကြီး–ပွားရေး အလို့ငှာ ငါးနှစ် ငါးနှစ်လျှင် တကြိမ်ကျ တရားတော်ကို အထူး လေ့လာ ကျင့်ဆောင်ရန် နယ်လှည့်ထွက်ကြစေ၊ (အမတ်ကြီး တို့ကို လည်း ငါ မင်းတရား၏ အဆုံး-အမ အတိုင်း ပြုလုပ် နိုးဆော်စေတော် မူအပ်ကုန်၏။)

---

* ဤနေရာမှာ စာလုံးပျက်၍, မထင်လှသော 'ဿ' အက္ခရာ တခုရှိနေ၏။

ဥဇ္ဇေနီ ပြည်ကို အုပ်စိုးစေသော မင်းသားသည် လည်း ဤအကျိုးငှာ သာလျှင် နယ်လှည့် ထွက်စေလတ္တံ့; ဤသို့သော အကျိုးရ တရား၏ အဖို့–အစုကို မလွန်စေလတ္တံ့၊ တက္ကသိုလ်ပြည်မှ လည်း ၃ နှစ် ကာလပတ်လုံး ထို့အတူ ထွက်စေလတ္တံ့၊ (အမတ်ကြီး တို့လည်း ၃ နှစ် တကြိမ် တရားကျင့် နှိုးဆော်ရန် နယ်လှည့် ထွက်ကြ ကုန်လတ္တံ့; မိမိတို့ ကိုယ်တိုင် လည်း မဆုတ်ယုတ် စေမူ၍), မိမိတို့ အမှု ဖြစ်သော ထိုတရား ကျင့်–ရေးကို သိကြကုန်လတ္တံ့၊ ထိုကိစ္စကို လည်း ငါမင်းမြတ်၏ အဆုံး အမ အတိုင်းသာ ပြုကုန်လတ္တံ့၊ ဤသို့ မိန့်မြွက် ထားရှိတော်မြီ။

၄၊ ဥပဒေသ၊ ဤကျောက်စာ ဆိုလိုရင်းမှာ တိုင်းသား ပြည်သူတို့ ချမ်းသာရန် အမတ်ကြီး စသော သူတို့ ကျင့်ရန် ဝတ်တရား ဖြစ်ကြောင်း၊ ထိုသို့သော တိုင်း–သူ ပြည်သားတို့ အကျိုးကို အုပ်ချုပ်သူတို့က ပြုလုပ် တိုက်တွန်းရမည့် အကြောင်း; ထို့ကြောင့် ၎င်းတို့ အကျိုးငှာ ၅ နှစ် တကြိမ် တရား ဟော့လာ ကျင့်ဆောင်ရန် ဟော–ပြောခြင်းငှာ နယ်လှည့် ထွက်ကြရမည့်–အကြောင်းကို ဆို၏၊ အမှန် မှုချမှာ တရား ကျင့်ရေးနှင့် ကင်း၍ လောကသူတို့ ကြီးပွားရန် မရှိဟု ပင် အဓေသာက မင်းကြီး ထင်မှတ် စွဲလမ်းလေသည်။ ကျွန်ုပ်တို့ လည်း အဓေသာက–မင်းကြီးကဲ့သို့ တရား စိတ် သက်ဝင်ရန် သင့်ကုန်စွ။

၅၊ မှတ်ချက်၊ ဤကျောက်စာလည်း အခက် ဒုတိယတန်း၌ ပါဝင်သည် ပင် တည်း၊ ထို့ကြောင့် ဤပြန်ဆိုခဲ့ချက်မျှနှင့် တင်းမဘိမ်ကြသေးမူ၍ ထို့ထက် ကောင်း မွန်စေရန် ရှိသေးသည် ဟု ယူဆကြရန် ဖြစ်ပေ၏။ (———) ဤအကွင်းတွင်း ရှိစကား များမှာ အကြား အကြား၌ ပုဒ်–အက္ခရာ ပျက်ကို မှန်းဆ ပြန်ဆိုချက် သာ ဖြစ်ကြောင်း မှတ်ကြစေသတည်း၊ ဤကျောက်စာကား ဆိုလတ္တံ့ ကျောက်စာ၏ မူကွဲတည်း။

# ဒုတိယ စုဒ္ဒက သိလာ’ နုသာသနီ၊

## ၂၊ မူလပါဠိ၊

†ဒေဝါနံ ပိယေ ဟေဝံ အာဟ; သမာ’ ပါယံ မဟာ မာတာ လဇဝစနိက ဝတဝိယာ အံကိဆိ ဒခါမိ ဟကံ, တံ ဣဆာမိ ဟကံ ကိံတိ ကံကမန ပဋိပတ—ယေ’ဟံ; ဒုဝါ...တေ စ အာလဘေ’ဟံ၊ ဧသ စ မေ မောခိယမတ် ဒုဝါလ၊ ဧတသ အဋသ အံ တုဖေသု အနုသထိ၊ သဝ မုနိသာ မေပဇာ.......အထပဇာယေ ဣဆာမိ; ကိံတိ မေ သဝေန ဟိတသုခေန ယုဇေယု’တိ ဟိဒလောကိက—ပလလောကိကာ ယေ’တိ၊ ဟေဝံ မမဝ မေ ဣဆာ သဝမုနိသေသု သိယာ; အံတာနံ အဝိဇိတာနံ ကိံဆံဒေသု လာဇာ အဖေသု’တိ ဧတကာ’ဝ မေ ဣဆာ အံတေသု ပါပုဏေယု, လာဇာ ဟေဝံ ဣဆတိ အနုဝိဂိနေဝ.......ဟုဝေယု, မမိယာ ယေ, အံဝသေယု စ မေ သုခံ မေဝ စ လဟေယု, မမ တေ နော..........ခံ။

ဟေဝံ စ ပါပုဏေယု ခမိသတိ နေ လာဇာ၊....ဧ....စကိယေ ခမိတဝေ မမံ နိမိတံ စ ဓံမံ စလေယု’တိ ဟိဒ—လောဂံ စ ပလလောကံ စ အာလာဓယေယု၊ ဧတာယေ စ အဋာယေ ဟကံ တုဖေ နိ..... အနုသာသာမိ၊ အနနေ ဧတ ကေန ဟကံ တုဖေ နိ အနုသာသိတု ဆံဒံ စ ဝေဒိတု အာ မမ ဓိတိ, ပတိံ’နာ စ အစလာ၊ သေ ဟေဝံ ကတု ကံမေ စလိတဝိယေ၊ အသွာသနိယာ စ တေ နေ တေ ပါပုဏေယု၊ အထာ ပိတာ ဟေဝံ ဒေဝါနံ ပိယေ အဖါက—အထာ စ အတာနံ အနုကံပတိ၊ ဟေဝံ အဖေနိ အနုကံပတိ။ ဟေဝံ မယေ လာဇိနေ—တုဖေနိ ဟကံ အနုသာသိတု ဆံဒံ စ ဝေဒိတု ဓိတိ, ပဋိံ’နာ စ အစလ.... ဒေသာ ....အာယုတိကေ ဟောသာမိ ဧတသိ အဋသိ။

---

† မှတ်ချက်၊ ။ရာမာဝတာရ သမ္မ၏ အသောကကျောက်စာ စာအုပ်ကို မျက်နှာ နာမ်ပါတ် ၂၆,၂၇ တို့၌ ဤကျောက်စာကို ယာဝဂရိဟာမ် ဒုတိယကျောက်စာ ဟု အမည်ပေးထား၏၊

အလံ ဟိ တုဖေ အသွာသနာယေ ဟိတသုခါယေ စ သေံ ဟိဒ လောဂိက-ပလလောကိကာယေ၊ ဟေဝံ စ ကလံတံ တုဖေ သွဂံ အာလာဓယိသထ; မမ စ အာနနေယံ ဧသထ၊ ဧတာယေ စ အဌာယေ ဣယံ လိပိ လိခိတာ၊ ဟိဒ ဧန မဟာမာတာ သွသတံ သမံ ယုဇေယု, အသွာသနာယေ စ ဓံမ-စလနာယေ စ † အမိတာနံ ဣယံ စ လိပိ အနုစာတုံမာသံ သောတဝိယာ တိသေန, အံတလာ ပိ စ သောတဝိယာ၊ ခနေ သံတံ ဧကေန ပိ သောတဝိယာ၊ ဟေဝံ စ ကလံတံ စဃထ သံပဋိပါဒယိတဝေ။

၃၊ မှတ်ချက်၊ ။ဤမူကား ယခင် လက်မှန် မူ၏ မူကွဲ ဖြစ်၏၊ ထိုသို့ ကွဲပြားသော် လည်း အဓိပ္ပါယ်မှာ များစွာ မခြားနားလှချေ၊ ထို့ကြောင့် ကျောက်စာ တခု၏ အာဘော်မှာ ကျောက်စာ တခု၏ အာဘော် ပင် ဖြစ်သည်; ထို့ပြင် အချင်းချင်း အနက်-အဓိပ္ပါယ် ဖွင့်ပြကြောင်း လည်း ဖြစ်သည် ဟု မှတ်ရမည်။........ဤ အစက်ပြည့် ထားသည့် နေရာမှာ ကျောက်ချပ်၌ စာလုံး ပျက်စီး နေသည်။

## ၄၊ မြန်မာဘာသာပြန် ၂၊

### တိုင်းသားပြည်ရွာတို့ အကျိုးကို ကျင့်ပုံ၊

မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းကြီး ဤသို့ မိန့်မြွက် ထုတ်ဆင့် ထားတော်မူပြီ၊—ကောင်းမွန်သော နည်းဥပါယ်ဖြင့် မှူးတော် မတ်တော်ကြီးတို့သည် ငါ မင်းတရား၏ အမိန့်တော် စကားကို လိုက်နာ ပြုကျင့်ကြရမည်၊—ငါ သည် တိုင်းသူ ပြည်သားတို့ အတွက် ကြွင်းမဲ့ ဥဿုံ အလုံးစုံသော ကြီးပွားရေး, စီးပွားရေးကို ကြည့်ရှု တွေ့မြင်၏၊ ထိုသို့ ကြည့်ရှု—တွေ့မြင်ရသော ကြီးပွားရေး, စီးပွားရေးကို မည်သို့ ဆောင်ရွက် ပြုလုပ်ခြင်းဖြင့် မိမိ သူတပါး

† မှတ်ချက်၊ ။ရောမာဝတာ ရ သမ္မတ်၏ အသောက ကျောက်စာစောင်ပေါင်း စာအုပ်၌ 'အမိတာနံ' နေရာတွင် 'အန္တာနံ' ဟု ရှိနေ၏၊ U.K D.

၂–စားသော အကျိုး ကိစ္စကို ပြီးစေရအံ့နည်း, မိမိ သူတပါး ကိစ္စ ၂ ပါးကို ငါကား မည်သို့ အားထုတ် ရထုံ့အံ့နည်း ဟု လိုက်နာကြည့်ဆောင်ကြရမည်၊ ဤသည်လျှင် ငါမင်း မြတ် မှချ လိုလားအပ်၍, သင်တို့အား ပေးထားသော ဩဝါဒ ကိစ္စ ၂ မျိုးတည်း၊ အမတ်ကြီးတို့သည် အားလုံးသော တိုင်းသား ပြည်သူတို့ကား ငါ၏ သား သမီးတို့တည်း; ထို့ကြောင့် ၎င်းတို့ကို မည်သို့ ကုန်အောင် ဝုံသော စီးပွား ချမ်းသာအမျိုးနှင့် ယှဉ်စပ်– ရရောက်စေအံ့နည်း ဟု ၎င်း, မည်သို့သော ဤပစ္စက္ခကျိုး, တမလွန်ကျိုး၌ တည်စေနိုင် အံ့နည်း ဟု ၎င်း လိုလား ပြုကျင့်ကြရမည်။

ငါ ဘုရင် မင်းမြတ်၏ ခယ်သိမ်းသော ပြည်သူ ဗိုလ်လူ အပေါင်းတို့၌ ပင် ဤသို့ လိုလားသော ဆန္ဒ ဖြစ်ခဲ့မှုကား နိုင်ငံတော်အတွင်း၌ နေထိုင်သူတို့အား ၎င်း, ငါမင်းမြတ် မအောင်မြင်သေး သည့် နိုင်ငံစပ်တို့၌ နေထိုင်သူတို့အား ၎င်း ငါမင်းမြတ်သည် အဘယ်သို့ လိုအင် ဆန္ဒ ဖြစ်လေရာသနည်း? ငါ မင်းမြတ်၏ နိုင်ငံတော်တွင်းသား ဖြစ်သူတို့၌ ဤမျှ တရား ကျင့်ဆောင်ရန် လိုအင် ဆန္ဒ ဖြစ်တော်မူ၏၊ မင်းတရားမြတ်သည် မိမိအား အတု လိုက်၍, ကုသိုလ် စု ပါဝင်ရန် လိုလားတော်မူ၏၊ မိမိ အလို ဆန္ဒတို့၌ ငါ့အား ချမ်း သာစွာ နေစေလို (....) ဤ သို့လျှင် မင်းတရားမြတ်သည် ထိုသို့သော အရာ၌ ပါဝင် သူတို့ ပါဝင် ရောက်ရှိရန် နှစ်သက်တော်မူလိမ့်မည်၊ ငါ မင်းမြတ်ကို အကြောင်း ပြု၍, တရားကျင့်ကြံခြင်းကို နှစ်သက်သည် ဟု ၎င်း, ဤပစ္စက္ခကျိုး, တမလွန်ကျိုးကို နှစ်ခြိုက်စေလို သည့် ဟု ၎င်း, [ဤသို့ သိရှိ လိုက်နာ ကြရမည်၊] ဤ အကျိုးအလို့ငှါ သာ ကြီးပွား ရေး စီးပွားရေး အတွက် သင်တို့ကို သုံးမ နည်းပေးတော်မူ၏။

သင်တို့ အတွက် အစီး အပွားကို သုံးမလိုသည့် ဆန္ဒ ရှိခြင်းသည် ၎င်း, သင်တို့ သိနားလည်စေရန် ငါမင်းမြတ်၏ ဩဝါဒ ပေးရေး၌ တည်တန့်ခြင်းသည် ၎င်း, ဩဝါဒ ပေးမည် ဟု ပဋိညာဉ် မတုန် မလှုပ် ထားရှိခြင်းသည် ၎င်း, ဤ မှုဖြင့် သင်တို့၌ ပြုအပ်သည့် ကြေး ကင်းလွတ်ခြင်း ဖြစ်လေ၏၊ ထို့ကြောင့် ငါ မင်းမြတ်၏ ဤသို့ ပြုလုပ် ကျင့်ကြံမှုကို ကျင့်ကြံကြလော၊ ထိုသို့ ကျင့်ကြသဖြင့် သက်သာ – ပေါ့ပါးခြင်း ဖြစ်ကြ၍, လိုအပ်သော ထိုအကျိုးတို့ကို ရရောက်ကြစေကုန်သတည်း၊ ငါတို့ အမိ– အဘတို့ အကျိုး, ထို့အတူ ငါ တို့အကျိုး ထို့ပြင်, မိမိ ကိုယ်တော်တိုင် အကျိုးငှါ မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းတြားကြီး အစဉ် သနား စောင့်ရှောက်တော်မူ၏၊ ဤမျှတိုင် ငါတို့ကို စောင့်ရှောက်တော်မူ၏၊ ဤသို့လျှင် ငါတို့ အား ၎င်း, သင်တို့အား ၎င်း မင်းတြားကြီးသည် အစီး အပွားကို သုံးမရန် အလို ရှား

သိစေလိုသော ဆန္ဒနှင့် ဟောပြောရန် တည်တန့်ခြင်း ဟောမည် ဟု ဝန်ခံထားရှိချက်၌ မတုန်လှုပ်ခြင်း (ရှိတော်မူ၏၊ ငါတို့သည် ထိုတရားများကို လိုက်နာခြင်းဖြင့် ငါတို့ အရပ်ဒေသ၏ ကြီးပွားရန်) ဤဆိုခဲ့သော ကိစ္စ၌ အားထုတ်သူတို့ ဖြစ်ကုန်အံ့ [ဟု လိုက်နာလိုစိတ် ရှိကုန်ရာ၏၊]

ထိုသို့ လိုက်နာ ပြုကျင့်ခွင့် သင့်တော်လှပေစွ ထိုတရားကျင့်ဝတ်တို့မှာ သင်တို့ [ကျင့်ကြသော်,] သက်သာရာ ရရှိရန် စီးပွား ချမ်းသာ ဖြစ်ရှိရန်, ပစ္စုပ္ပန် တမလွန် ၂-တန် အကျိုး ပွားစီးရန် စွမ်းနိုင်သင့်ကုန်၏၊ ဤသို့ လိုက်နာ ပြုကျင့်ကြသော သင်တို့သည် နတ်စည်းစိမ်ကို နှစ်သက်ရကုန် လတ္တံ့၊ ငါမင်းမြတ်၏ ကြွေးမြီမှ လွတ်ကင်းကြသည်လည်း ဖြစ်ကုန်လတ္တံ့၊ ဤသို့သော အကျိုးငှါလည်း ဤတရား စာတော်ကို ရေးသား ထားတော်မူ၏၊ ဤနေရာ၌ ဤကျောက်စာဖြင့် တရားကြပ် အမတ်သို့သည် မြဲမြဲ ကောင်းမွန်စွာ များစွာသော သူတို့ သက်သာရာ ရကြစေရန် ၎င်း, တရားကျင့်ဆောင်ကြစေရန် ၎င်း အားပေး တိုက်တွန်းကြစေ၊ ဤ စာတော်ကို လည်း [အယုတ်ဆုံး] လေးလ တကြိမ် ကြားနာကြစေ၊ နှစ်၏ ၃-လမြောက်ဝါဆိုလ၌ ၎င်း, အကြား အကြား၌ ၎င်း နာကြားကြစေ၊ အခွင့် ရခဲ့သော်, တဦးချင်း လည်း ဖတ်ကြား နာယူစေ၊ ဤသို့ ပြုကျင့်ခြင်းဖြင့် ကောင်းကောင်း ဖြစ်မြောက် စေရန် အားထုတ်ကြစေ၊—[ဤသို့ အသောက မင်းတရားကြီး မြွက်ကြားတော်မူပြီ။]

၅၊ ဥပဒေသ၊ ။အာဏာနေ ဧဝါဧဝန ဟက့ံ တုဖေနိ အနုသာသာမိ—ကြွေးမြီကင်းရန် သင်တို့အား ငါဆုံးမသည်? ဟု ဆိုချက် အရ, မိမိက ဆုံးမ–ကန့်မြစ်သည်မှာ တိုင်းသူ-ပြည်သားတို့ အပေါ်၌ ဆုံးမရမည့် ကြွေးမြီများ တင်နေသည်, ၎င်းမှ လွတ်ကင်းရန် တာဝန် ရှိတိုင်း ဆုံးမရသည် ဟူသည်မှာ အထူး မှတ်ရော ကောင်းလှ၏၊ ထို့ပြင်, မမ ဧ အနေနယံ ဧဝဝ—ဟူသည့် အရ သင်တို့က လည်း ငါ ဆုံးမတိုင်း လိုက်နာရမည့် ကြွေးမှ လွတ်ကြစေ ဟူသည်မှာ လည်း အထူး မှတ်ဖွယ် ကောင်းလှ၏၊ ထိုစကားဖြင့် အမိ—အဘနှင့် သား—သမီး, ဆရာနှင့် တပည့်, တကာနှင့် ဆရာ, ကျွန်နှင့် အရှင်, မိတ်ဆွေ တဦးနှင့် မိတ်ဆွေ တဦး, မောင်နှင့် နှမ, လင်နှင့် မယား ဆွေမျိုး တဦးနှင့် ဆွေမျိုး တဦး, အတူ နေထိုင်သူ တဦးနှင့်အတူ နေထိုင်သူ တဦး, တွေ့မြင် ခရီးဆုံ၌ တွေ့ရှိရသူ တဦးနှင့် တဦး—ဤသို့ စသည် ဆက်သွယ်ရာတိုင်း၌ တဦးနှင့် တဦး အချင်းချင်း အခွင့် အလိုက် ကြွေး ကြေစေရမည် ဟု ညွှန်ပြ၏၊ ထို့ပြင်, တဦးတည်း ဖြစ်စေ, မိမိ ဆောင်ရွက်ရမည့် တာဝန် မကြေပြန်က ကြွေး မကြေသူ ဟု ပင် အခွင့် အကြောင်း ဆိုရမည်—သူမှာ လမ်းခရီး၌ ဆေး တွေလျက် မဖယ်ရှားသည် ဖယ်ရှားရမည်

တာဝန် မကြေလျှင်, ကြွေးတင်သူ ပင် မှတ်ရမည် ဟု လည်း ညွှန်ပြ၏၊ အရှင် မဟာကဿပ အရှင်မြတ်က လည်း မိမိအား ဘုရားရှင်က ကိုယ်တော် ဝတ်ရုံသော သင်္ကန်းတော်ကို ချီးမြှောက်ခဲ့ခြင်း, အရိယာ တရား၌ ကိုယ်တော့် အတူ ပြု၍ ချီးကျူးခဲ့ခြင်းများဖြင့် မိမိ အပေါ်မှာ ဘုရား၏ ကြွေး တင်ရှိသောကြောင့်, ရင်းကြွေးမြီများမှာ သင်္ဂါယနာ တင်ခြင်းနှင့် ကင်း၍ ကြေလည်မည် မဟုတ် ဟု မိန့်ဆိုလတ်ပြီ၊ ဤ စကားဖြင့်,——

မယာ ဟဝေ ကတ — ကလျာဏော,
ကတဗ္ဗော နာ၀ ဗုဇ္ဈတိ၊
အတ္ထာ တဿ ပလုဇ္ဇန္တိ,
ယေ ဟောန္တိ အဘိပတ္ထိတာ။—

ကျေးဇူး မှု သူပြု ရှိပြီးကို,
တုန့်ပြန် ကျေးဇူး စိတ်တူး မလို၊
လိုလို ကိစ္စ ပျက်ရ သူ့ကိုယ်,
ကိုယ်ကြိုက် စု ပြုဖွယ် မျိုးမျိုးလို။—

ဟူသော နိပါတ်တော် အရ ကျေးဇူး တုန့်လှည့်ရန် အခွင့် မသိတတ်လျှင် အကျိုး ပျက်စီး တတ်ကြောင်း ပြဆိုလေသည်၊ အရေး မပြုလောက် ထင်မှတ်ရသည့် သာမန် ကိစ္စမှ ထိုမျှ အရေး ပေါ်ထွက်အောင် ဟောပြောအား ရှိသည်ကို ချီးမွမ်းသင့်၏။

# တတိယ ခုဒ္ဒက သိလာနုသာသနီ၊

## ၃၊ မူလပါဠိ၊

† သုဝဏ္ဏဂိရိတော အယပုတ္တာသ မဟာမာတာနံ စ ဝစေနေန ဣ (သိ) လာသိ မဟာမာတာ အရောဂိယံ ဝတ္တဝိယာ; ဟေဝံ စ ဝတ္တဝိယာ၊— ဒေဝါနံ ပိယေဟေဝံ အာဟ; "အဓိကာနိ အဍ္ဍာတိယာနိ ဝဿနိ ယံ ဟံ— ဥပါသကေ သာဝကေ, နော တု ခေါ ဗာဍှံ ပကတေ ဟုသံ၊ ဧကံ သဝဆရံ သာတိရေကေ တု ခေါ သံဝဆရံ ယံ မယာ သံဃေ ဥပဂတေ, ဗာဍှံ စ မေ ပကတေ, ဣမိနာ စု ကာလေန အမိသာ သမာ နာ မုနိသာ ဇံဗုဒီပသိ အမိသံ ဒေဝါ သံတာ ဟုသု; တေ ဒါနိ မုနိသာ မိသံ ဒေဝေဟိ၊ ပကမသ ဟိ ဣယံ ဖလေ၊ နော ဟိ ယံ သကျေ မဟာတနေဝေနေဝ ပါ— ပေါတဝေ; ကာမံ တု ခေါ ခုဒကေန ပိ ပလကမနေန ဝိပုလေ သွဂေ သကျေ အာရာဓေတဝေ။

ဧတာ ' ယဋ္ဌာယ ဣယံ သာဝနေ ကတေ၊ သာဝါပိကေ ယထာ ခုဒကာ စ မဟာလကာ စ ဣမံ ပလကမံတု, အတာ ပိ စ မေ ဇာနံတု၊ ဣယံ ပကာရေ စိရဋ္ဌိတိကေ စ ဣယံ ပလကမေ ဟောတု၊ ဣယံ ဟိ အဌေ ဝဍိသတိ; ဝိ— ဝဍိံ တိ စိရဋ္ဌိတိကေ စ ဣယံ ပလကမေ ဟောတု၊ ဣယံ ဟိ အဌေ ဝဍိသတိ; ဝိ— ပုလံ ပိ စ ဝဍိသတိ ဒိယဍိယံ၊ အပလဒိယေန ဒိယဍိယံ ဝဍိသတိ၊ ဣယ စ အဌေ ပဗတိသု လေခါပေတ ဝါလတဟာစ *...စ...အထိ သိလာထဘေ သိလာ— ထံဘသိ...လာခါပေတဝယ တ ဧတိနာ စ ဝယဇနေနာ ယာဝတက တုပက—အ— ဟာလေ၊ သဝရ—ဝိဝသေတဝါ...တိ၊ ဣယံ စ သာဝနေ သာဝါပိတေ ဗျုဌေန ၂၅၆ သတ ဝိဝါသာ တိ... သာဝနေ ကတေ, ဒုဝေ သပံနာ လာတိ သတာဝိဗျုထာ 'တိ သတဝိယာ — ဝုာတ၊ ဣမံ စ အဌံ ပဝတေသု ယထာ.... ယ .... အာ .... အထိ ဟေတာ သိလာထံဘာ၊ တတ ပိ လိခ ....ထ....ဣ.... [သိဒ္ဓပုရ, သဟာသရာမ, ရူပနာထ, ဗေရာဋ, မသကီ— အရပ်ရှိ ကျောက်စာ မူများမှ သဘော သက်ရာ ညှိနှိုင်း ကူးယူချက်။]

---

† ရာမဝတာရသမ္မာ၏ အနူသာက ကျောက်စာပေါင်း ဝေဖန်ချက်စာအုပ် စာမျက်နှာ နံပါတ် ၄၃ ၌ ဤကျောက်စာကို သိဒ္ဓပုရသိလာလေခ ဟု အမည်ပေးထား၏။ U.K.D.

... ... ... ... ...က် အစက်ရှိသော နေရာမှာ စာလုံး ပျောက်သောနေရာ ဖြစ်၏။

# ၄၊ မြန်မာဘာသာပြန် ၃၊

## ကျနစ္စာဆီးကပ်မှ ဘာသာရေး တရားရကြောင်း၊

သုဝဏ္ဏ-ဂီရိ မြို့၌ တည်နေ၍, အရှင် မင်းကြီး၏, သားတော်, စကား, အမတ်
ကြီးတို့ စကားဖြင့် ဣ(သိ)လဝသိ အမတ်ကြီးသည် † မပျက်—မကွက် လိုက်နာရ
မည်၊—မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းကြီးကြီး ဤသို့ မိန့်
ကြားတော်မူပြီ—ငါ မင်းမြတ်သည် လက်မှန် မဆု ၂ နှစ်ခွဲကျော် ကာလပတ်လုံး ရတနာ
၃ ပါးကို ကိုးကွယ် ဆည်းကပ်သော ဥပါသကာ ဖြစ်သော်လည်း မြဲစွဲစွာ ဆည်းကပ်သော
ဥပါသကာ တဦးကား မဟုတ်သေးချေ၊ တနှစ်ကို လွန်သော အခါ၌ ကား ငါ မင်း
မြတ်သည် သံဃာတော်များထံဆည်းကပ်လေသော်, ၎င်းတို့ထံ လည်း ငါ မင်းမြတ်သည်
မြဲစွဲကောင်းမွန်စွာ ကပ်ရောက်လေသော်, ဤအခါ၌ကား (ရှေးအခါ) ဤဇမ္ဗူဒိပ်ကျွန်း၌
လူမျိုး လူဇာတ် ဖြစ်လျက် ထိုနတ်ပြည်၌ နတ်သား-နတ်သမီး ဖြစ်ကြကုန်၏၊ ယခု အခါ
ထိုလူ ဖြစ်သူတို့သည် နတ်တို့နှင့် နီးနှောနိုင်ခြင်းကား ဤလူ့ အဖြစ်က အားထုတ်ခြင်း၏
အကျိုးတည်း၊ ထိုသို့သော အကျိုးကို ကြီးကျယ် မြောက်မြားသော လူ့လဖြင့် သာ
ရရောက်ရန် စွမ်းနိုင်ကြသည် မဟုတ်ကုန်; စင်စစ်သော်ကား သေးငယ် နုံနဲ့သော အား
ထုတ်ခြင်းဖြင့် လည်း မြန့်ပြော ကြီးကျယ်သော ချမ်းသာကို ရ၍, နတ်ပြည်၌ နစ်ခိုက်ရန်
စွမ်းနိုင်ကုန်၏၊ ဤအတ္ထုပ္ပတ်တို့ကို ကြားသိတော်မူရာ၏။

ငါ မင်းမြတ် ကြားသိတော် မူရသကဲ့သို့ (ဤလူ့ပြည်၌) ငယ်ရွယ်သူ ဖြစ်စေ
အိုမင်းသူ ဖြစ်စေ ဤနတ်ရွာ ရောက်ကြောင်း တရားကို အားထုတ်ကြစေ၊ ထို့ အတိုင်
လည်း ငါ စကားကို သိနားလည်ကြစေ၊ ဤနည်းကို သာ ပြုလုပ်၍, ရှည်မြင့်စွာ
အားထုတ်ကြစေ၊ ယင်းသို့ အာ ထုတ်ခြင်းသည် ထိုအကျိုးကို တိုးစေလတ္တံ့၊ နှစ်
ထပိုး တိုးတက် ပြန့်ပွားသော အကျိုးကို လည်း တိုးတက် ပွားစီးစေလတ္တံ့၊ မချွတ်-

---

† မှတ်ချက်၊ ၊အရောဂိယံ ဝေထိယာ—အရ ချမ်းသာ ပွားများရေးကို ကျင့်ရမည်
ပညာရှိ ဦးကျော်ထွန်းက ပြန်လိုက်၏၊ အရောဂိယ – သုခ – နိဗ္ဗာန ပုဒ်တို့မှာ အရာဌာန အလိုက်
ဗဒိယာယ်တူ ဟု လည်း ဆို၏။

လျှင် ၂ ဆ ထပိုး တိုးပွားလတ္တံ့၊ ဤသို့သော အကြောင်းအရာကို တောင်တို့ အထက်၌ ရေးသား တည်ထားအပ်၏၊ (ဝါသတဟာစ) အရပ် ကျောက်တိုင်ထက်၌ ရေးသားစေ အပ်၏၊ ဤသို့သော တရား သိမှတ်ကြောင်း စာတော်ဖြင့် လည်း (တွေ့မြင် သိနားလည် သမျှ သူတို့သည် ပြုကျင့် လိုက်နာစေသတည်း၊ ဤမိန့်မြွက်ချက် တရား စာတော်ကို ထုတ် ပြန်ပြီးလျှင်, ပြောကြားစေခြင်း, ပြောကြားရန် အားထုတ်စေသူ ထားရှိစေခြင်း— ဤ ၂ မျိုးကို ပြည့်စုံစွာ အမြဲ—အခိုင် အားထုတ်နိုးဆော်စေရန် မြဲစွဲစွာ ထားရှိစေ၏၊ ဤ အဓိပ္ပါယ်ကို တောင်ထက်တို့၌ လည်းကောင်း ထို့အတူ—ကျောက်တိုင် တို့၌ လည်းကောင်း ရေးသားစိုက်ထားစေအပ်၏။..................)—

၆၊ ဥပဒေသ၊ ။ဤကျောက်စာ၏ အချုပ် အဘေဓာက မင်းကြီး သိစေလို ရင်းမှာ ဗုဒ္ဓဘာသာ ဆိုင်ရာ တရားတို့ကို သာမန် ဥပါသကာ ဖြစ်ကာမျှနှင့် သိနိုင်သည် မဟုတ်; သမဏာနံ စ ဒဿနမင်္ဂလာ, ကာလေန ဓမ္မသာကစ္ဆာ မင်္ဂလာတော် ရှိတိုင်း သံဃာ တော်များထံ ကပ်ရောက်၍ တရား နာယူ ဆွေးနွေး— ခြင်းများကို ပြုလုပ်မှ သိနိုင်၏၊ မိမိသည် ပထမ ၂ နှစ်ခွဲကျော် ဥပါသကာ သာမန်မျှ ဖြစ်ခဲ့၍ တစုံတရာ ထူးခြားခြင်း မရှိသေးသော်လည်း, နောက်တနှစ်ခန့်မှာ သံဃာတော်- များထံ ကပ်ရောက် တရား နာယူသဖြင့် သိရသည်မှာ နတ်ပြည်၌ ဆိုက်ရောက်ရေးသည် အလွန် ကြီးလေးသော လုံ့လဖြင့် သာ မဟုတ်; သာမန် လုံ့လမျှဖြင့် လည်း ဖြစ်နိုင်၏၊ ကုသိုလ်၏ အကျိုးကိုကား မိမိပြုသည့်ထက် အဆ များစွာ တိုးတက် ခံစားရ၏၊ ထို့ကြောင့် ထိုအကြောင်းကို သိစေရန် ဤစာတော်ကို ထားရှိစေသည်—ဟသည် ဖြစ်၏၊ ဤကျောက်စာဖြင့် ဥပါသကာ မည်ကာမျှ မနေကြပဲ ဗုဒ္ဓဘာသာ တရားကို ထိထိ မိမိ သိနားလည်ရန် ဘာသာရေး၌ ကျွမ်းကျင်သော ရဟန်းတော်များထံ မှီဝဲဆည်းကပ်၍, တရား နာယူ ဆွေးနွေးရမည်ကို နည်းညွှန်ပြသ၏။

၇၊ မှတ်ချက်၊ ။ဤကျောက်စာတွင်†'အဓိကာနိ အဍာတိယာနိ ဝသနိ ယံဟံ ဥပါသကေ သာဝကေ, နော တု ခေါ ဗာဍှံ ပကာတေဟုသံ, သံဝဆရံ သာတိရေကေ

† မှတ်ချက်၊ ။ဤ ၃ နှစ်ခွဲဝါဒ် ကျောက်စာ၌ ပါရှိပြီပုတ်ပြည်သား ရာမာဝတာရ သမ္မ သည် လည်း မိမိ၏ အဘေဓာက ကျောက်စာခေါင်းစာအုပ်၌ မင်းဆင်းတ်ဆမင်သ်တို့၏ နည်းတူပင် အဘေဓာက မင်းကြီး ရဟန်းပြုလုပ်သည် ဟု ပြန်ဆိုထား၏၊ ၎င်း ပြန်ဆိုခြင်းသည် မမှန် ဤမြန်မာ ပြန် ပုဂ္ဂိုလ်၏ ပြန်ဆို ခြင်းသည် သာ မှန်သည် ဟု သဘောရ၏။— U.K.D.

တု ခေါ် သံဝေဂ ယံ မယာ သံဃေ ဥပဂတေ,—ဗာဒွ် စ မေ ပကတေ-ဟူသော စကားကို ထောက်ထားလျက် ဤကျောက်စာများကို ကြီးမှူး ပြန်ဆိုသော ဗင်းဆင့်တ် ဧအ ဆမစ်သ် ဆီ, အိုင်အီ, အဲမ်-ဧ(Vincent A. Smith, C. I. E., M. A.)က ဤကျောက်စာ ဘာသာပြန်၌ ၎င်း, အသောက အတ္ထုပ္ပတ္တိ၌ ၎င်း, 'အသောက မင်း ကြီးသည် မိမိကိုယ်တိုင် ဝင်ရောက် ရဟန်း ပြုလုပ်ကြောင်း,' စသည် ရေးသော ယူဆ လေသည်၊ မစ္စတာ့ရှ် ဟရိုက်ဆ် ဒေးဗစ်ဒ (Mr. Hris David)က လည်း ၎င်း ရေး သားသော ဣန္ဒိယ ဗုဒ္ဓဘာသာရေး—(Buddhist India)ခေါ် စာအုပ်၌ 'အသောက မင်းကြီး ကိုယ်တိုင် ပင် ရဟန်းဘောင်၌ သက်ဝင်၍, သာသနာ ပြုကြောင်း' စသည် ကြံစည် လေသည်၊ ဤသို့ ကြံစည် ရေးသားခြင်းသည် 'သံဃေ ဥပဂတေ' ဟူသော စကား၏, အဓိပ္ပါယ်ကို မှန်ကန် ကျနစွာ မပိုင်းခြားနိုင်၍, သာ ဖြစ်၏၊ ၎င်း သံဃေ ဥပဂတေ ဟူသော စကား၏, အမှန် အဓိပ္ပါယ်ကား 'သံဃာတော်များထံသို့ ကပ် ရောက်သည်' ဟူသော အလျော့ဆုံး အဓိပ္ပါယ် ဖြစ်၏၊ သံဃေ ဥပဂတေ၏, အဓိပ္ပါယ်ကို 'ရဟန်း ပြုသည်' ဟု ဘာသာခြား လူမျိုးတို့က ထင်မှတ် ယူဆကြ ကုန်သော် လည်း ဗုဒ္ဓဘာသာ လမ်းကြောင်းကို သိနားလည်၍, ဗုဒ္ဓဘာသာ ဝါဒသူ, ပါဠိ—သဒ္ဒာ, ဝါကျ၏, အဓိပ္ပါယ်တွ—ကျနသူတို့က ထိုသို့ ယူဆကြလိမ့်မည် မဟုတ်ကုန်၊ အကြောင်း ကား 'သံဃာ' ဆိုသည်နှင့် 'ရဟန်း အဖြစ်' ဆိုသည့် စကား နှစ်ရပ်သည် အဓိပ္ပါယ် အားဖြင့် လွန်စွာ ခြားနား၏၊ အကယ်၍, အသောကမင်း ရဟန်း ပြုခဲ့ ပါပြီကား 'ဥပသမ္ပန္နတာဝေ ဥပဂတေ' ဟု သာ ဆိုခဲ့ရာသည်၊ ဤ သို့ကား မဆိုခဲ့၊ ထို့ကြောင့် 'သံဃေ ဥပဂတေ'၏, အဓိပ္ပါယ်ကို 'သံဃာတော်များ ထံသို့ ဆည်းကပ် ဝင်ရောက် သည်' ဟု သာ ယုံမှား မရှိ သိမှတ်ရာ၏။

ဤ နေရာ၌ ဤကျောက်စာ အတွက် ယုံမှား ဖျောက်လိုသတို့ ကြေနပ်စေရန် ၎င်း, ကျောက်စာဘာသာ ပြန်ဆိုရန် ခဲခက်လှပုံကို ၎င်း, ထိုသို့ ခဲခက်သည့် အမှုကို အစ တည်ထောင် ပြန်ဆို ထားရှိကြသော ကျောက်စာပိုင်း ဆိုင်ရာ—ပညာရှိတို့အား ကျေးဇူး အထူး တင်သင့်ကြောင်းကို ၎င်း ပေါ်လွင်စေရန် အထက်ပါ ကျောက်စာဘာ ဗင်းဆင့်တ် အေဆမစ်သ် ဆိုသူ (Vincent A. Smith) ပြုဆို ထားချက်ကို ဣန္ဒိယ ကေရာင် ဗုဒ္ဓဘာသာ အသောက မင်းကြီး (Asoka the Buddhist Emperor of India) ခေါ် စာအုပ်မှ ထုတ်နှုတ် ပြန်ဆို ထား အပ်၏၊ [Chapte: IV, No. 145, အခန်း ၄, နာမ်ပါတ် ၁၄၅—၌ ကြည့်။]

## ၇၊ အားထုတ်ခြင်း အကျိုး၊

အရှင် မင်းတရားကြီး၏ သားတော်မြတ်နှင့် သုဝဏ္ဏဂိရိ အမတ်ကြီး၏ မိန့်မြွက် ပြန်ကြားတော်မူချက်နှင့် အညီ ဣသိလာ အရပ်ရှိ အမတ်ကြီးတို့သည် မှိုသောလေးနာ့စွာ အမိန့်တော်ကို နာခံကြရသည် ဖြစ်၍ အောက်ပါ အတိုင်း ပြန်ကြားထားကြ၏။

မင်းတကာတို့ လေးမြတ် ပူဇော်ရာ အသောက မင်းတြားကြီးသည် ဤသို့ ဩဝါဒ စကား မိန့်ကြားတော်မူ၏ — ငါ မင်းတြားသည် နှစ်နှစ်ခွဲကျော် ကာလပတ်လုံး မြဲမြဲ ကျနစွာ အားပါး စိုက်ထုတ်ခြင်း အထူး မရှိခဲ့ပဲ သာ ဥပါသကာ အဖြစ်သို့ ကပ်ရောက် ခဲ့ပြီ၊ သို့ရာတွင်, တနှစ်, အမှန်အားဖြင့် တနှစ်ကျော် လွန်သော အခါ၌ ငါ မင်းတြား ကြီးသည် သာသနာတော်တွင်းသို့ ဝင်ရောက်ခဲ့ရာ, ထိုအခါမှ စ၍ ငါ မင်းမြတ် ကိုယ်တော်တိုင် မြဲခိုင် တည်တန့်စွာ အားပါး စိုက်ထုတ်ခဲ့၏။

ထိုအခါ ကာလ အတွင်း၌ နတ်သား, နတ်သမီးများနှင့် မနီးနော မဆက်ဆံကြ ရဖူးသော ဇမ္ဗူဒီပါ လူအပေါင်းတို့သည် ထို နတ်များနှင့် ပေါင်းသင်း ဆက်ဆံနိုင်ခြင်း ဖြစ်ကြရကုန်ပြီ၊ ဤသည်လျှင် အားစိုက်ထုတ်ခြင်း၏ အကျိုးတည်း၊ ထိုသို့သော အကျိုးမှာ လည်း ကြီးကျယ် မြင့်မြတ်သော အမှုဖြင့် သာ ရရှိ နိုင်သည် မဟုတ်; ကိုယ်တိုင် အားစိုက်ခဲ့သော်, နိမ့်ကျသေးငယ်သူ တဦး တယောက်သည် ပင် ကြီးကျယ် မြောက်မြား လှစွာသော အကျိုးကို ရရောက်နိုင်ခွင့် ရှိလေသည်။

ထို သို့သော အကျိုးငှါ သာလျှင် ဤအမိန့် ပြန်တမ်း တော်ကို ထုတ်ပြန် ထားရှိ စေတော်မူအပ်လေသည်၊ သေးသိမ် — နိမ့်ကျသူ, ကြီးကျယ် — မြင့်မြတ်သူ မဟူ, အားလုံး တို့ပင် မိမိတို့ ကိုယ်တိုင် ထိုသို့သော အကျိုးများသို့ ထိရောက် ပြီးဆုံးအောင် လုံ့လ စိုက် ကြစေ၊ ငါ မင်းတြား၏ ထံပါး အနီး၌ နေထိုင်ကြသူ, (ငါ မင်းတြား၏ တိုင်းပြည် တော် အနီး ယှက်စပ်ရှိ မင်းအပေါင်း) တို့ လည်း ဤ အဆုံး - အမကို လိုက်နာ သိမှတ် ကြစေ၊ ထိုပြင်, ဤဩဝါဒ တရားတော်ကို ကြာမြင့် အရှည် တည်စေရန် အားစိုက် ကြစေ။

ထိုသို့ အားဖြင့် ဤ အကျိုးသည် တိုးပွားလိမ့်သတည်း ; အမှန် အားဖြင့် များပြာ ကျယ်ပြန့်စွာ တိုးပွားလိမ့်မည် ; အနည်းဆုံး, ရင်းမှာ အက်၀က်ခန့် မြောက်များစွာ တဖန် တိုးပွားလိမ့်မည်၊ ဤသို့ မိန့်တော်မူ၍, ထိုအမိန့်တော်ကို သံတော်ဆင့် အပေါင်း တို့က [ လူအများ သိကြစေရန် ] အမိန့်ပြန်တမ်း ထုတ်ဆင့် ကြေညာ လေပြီ။ [ဤအား- ဗင်းဆင်းတ် အေ ဿမစ်သ် Vincent ၏ ပြန်ဆိုချက်။]

ဂ၊ ရှင်းပြချက်— With Salutations– ရှိသေ လေးမြတ်စွာ, အမိန့်တော် မြတ်ကို ဦးထိပ်ရွက် ဆင်ရတိုင်း —— ဟူသော စကားသည် † 'အရောဂိယံ' ဟူသော မူလ ကျောက်စာရှိ ပုဒ်၏ အဓိပ္ပါယ် ပင် ဖြစ်သည် ဟု ဆိုရန် ရှိ၏၊ ကျွန်ုပ် ထင်မြင်ချက်မှာ 'အရောဂိယံ' ပါဠိသဒ္ဒါသည် ထို သို့သော အဓိပ္ပါယ်ဖက်သို့ မသွား၊ † ဝင်စစ်ကား 'မပျက် မကွက်' ဟူ၍ သာ ဆိုလို၏၊ ကောန် အမှန် လိုက်နာရမည် ဆိုက, ရှိသေစွာ လိုက်နာရမည် ဟူသော အဓိပ္ပါယ် ပါ၀င်သည်ကား မှန်၏; သဒ္ဒါကမူကား ထိုအဓိပ္ပါယ်ကို မဟောနိုင်ချေ၊ ထို့ပြင်, မဟာမာတာနံ— ဟူသော ပုဒ်အရ လည်း High Officer— အရာရှိကြီး—ဟု သာမန်မျှ ပြန်ထားချက် ရှိ၏၊ ထိုသို့ ပြန်ကာမျှနှင့် ပါဠိဘာသာ၏ ဆိုလိုရာ, ရှုန္ဒိယ - မြန်မာတို့ ဆိုလိုရာသို့ မရောက်သေးချေ၊— ဤမျှလောက် ဘာသာပြန် ခဲယဉ်းကြောင်း လေးနက်စွာ မှတ်ကြကုန်။

ယံ မယာ သံဃေ ဥပဂတေ (ဥပယိတေ, ဥပယာတေ) ပါဠိကို 'I entered the order– ငါ သာသနာတော်တွင်းသို့ ဝင်ရောက်ပြီ' ဟုပြန်လေသည်၊ ရင်းမှာ အသောက မင်းကြီးသည် ဓာ ချေတ္တမျှ သာသနာတော်၌ ရဟန်း ဖြစ်ပြီ ဟု အချို့ ပညာရှိတို့ အဓိပ္ပါယ် ကောက်ယူ ချက်ကို, 'သာသနာတော်၌ ဆက်ဆံ ခြင်းမျှ ဖြစ်သည်' ဟု အနည်းငယ် လွှဲဖယ်ချက်နှင့် တကွ ကျွန်ုပ် မြစ်ပယ်၏၊ ဤသို့ အားဖြင့် ကျောက်စာ ပြန်ချက်၌ ဗင်းဆင်းတ် အေ ဿမစ်သ် (Vincent) က ဆိုဝေ ကာ ; အသောက ရာဇဝင် Cha.-1, No: 35– အခန်း ၁, နံပါတ် ၃၅ ၌ကား— 'The fact is undoubted that Asoka was both monk and monarch at the same time– အသောက မင်းကြီးသည် တပြိုင်နက် ပင်

† မှတ်ချက်၊ ပညာရှိ ဦးကျော်ထွန်းကမူ 'အရောဂိယံ' ကို ချမ်းသာ ပွားများစေ ဟု မြန်မာပြန်လို၏။

ရဟန်း လည်း ဖြစ်, မင်းအဖြစ် လည်း ပြုလျက် ၂–ဖက် ပင် ဖြစ်ခဲ့ပြီ– ဟူသော အကြောင်းမှာ ယုံမှားမဲ့ ဖြစ်သည်’ ဟု ရင်း, ‘He had been for more than a year exerting himseli strenuously as a member of ihe Buddhist samgha, or order of monks, the organized monastric church, of which the sovereign had Assumed the headship— အသောကမင်းကြီးသည် သာသနာတော်၌ သူ့ကိုယ်တိုင် ခေါင်းဆောင်–သာသနာပိုင် ပြုလုပ်၍ သံဃာတော် တဦး အဖြစ်ဖြင့် တနှစ်ကျော် ဝင်ရောက် အားထုတ်ပြီး ဖြစ်လေပြီ’ စသည် ဆုံးဆုံး ဖြတ်ဖြတ် ဆိုထားချက်ရှိလေသည်၊ ဤအချက်နှင့် စပ်၍ ကျွန်ုပ် ရှင်းပြချက် ရှိလေပြီ၊ [ဒေါက်တာမုဒ မုကရဂျီ M. A., PH. D. မည်သော ဗင်္ဂါလီပညာရှိ တဦး ပြန်ဆိုချက် ကျောက်စာ CHA.- VII, P. 109–၌ကား “အများ ထင်တိုင်း ရဟန်း ပြုသည် မဆိုလို, သံဃာတော်များထံ ကပ်ရောက်ခြင်း သာ ဖြစ်ရာ၏” ဟု ဆိုထား၏။] ဤလည်း ကျောက်စာ ပြန်ရန်နှင့် အာဘော်မှန် သိရန် ခဲယဉ်းချက် ပင် တည်း။

ဣမိနာ စ ကာလေန အမိသာ သံမာနာ မုနိသာ ဇံဗုဒိပသိ အမိသံ ဒေဝါ သံတာ, တေ ဒါနိ မုနိသာ မိသံ ဒေဝေဟိ’ ဟူသော ပါဌ်ကို လည်း During that time the men in India who had been unassociated- with the gods became associated with them’ ဟု ပြန်ဆိုထားရှိ၏၊ ရင်း အင်္ဂလိပ် စကားမှ မိမိ ကိုယ်တိုင် နတ်ပြည်၌ ဖြစ်ချပြီ–ဟူသော အဓိပ္ပါယ်မှာ မည်သည့် နည်းနှင့်မျှ မထွက်ပေါ်နိုင်၊ စင်စစ်ကား, ‘ရင်းတို့နှင့် ပေါင်းသင်း နီးနှောနိုင်ခြင်း’ ဟူသော အဓိပ္ပါယ်မျှ ထွက်ပေါ်နိုင်၏၊ ပါဠိ သဒ္ဒါတွက် အနက် တိုက်ရိုက်မှာ ဤအတိုင်း ထွက်၏၊ သို့သော် ‘ရင်း ပါဠိ ဝါကျ၏ အဓိပ္ပါယ်ကား လူတို့သည် မိမိတို့ ကိုယ်တိုင် နတ်ပြည်၌ ဖြစ်၍, နတ်စည်းစိမ် ခံစားရကြောင်း ဆိုလို၏၊ ထိုစကားမှန်၏ ; နောက်၌ ကာမံတု ခေါ ခုဒ္ဒကေန ပိ ပကမမနေန ဝိပုလေ သွဂေ သကျေ အာရာဓေတဝေ’ ဟု ဆိုထားချက် ရှိလေပြီ။ ထို့ပြင်, ဇံဗုဒိပ–ကို လည်း ဣန္ဒိယ–ဟိန္ဒူစတာန် တိုင်းပြည် ဟု ပြန်ထား၏၊ စင်စစ် ဇံဗုဒိပ အဓိပ္ပါယ်မှာ ကမ္ဘာ့နေသူ အားလုံးကို ပင် လိုအပ်၏၊ ဤလည်း ဘာသာစာပါနှင့် အယူဝါဒ တပါး၏, အာဘော်၌ အသိ ခဲခက်ပုံကို သိစေခြင်း ဖြစ်၏။

ဣယံ စ အဋေ ဝဍိသိတိ ဝိပုလံ ပိ စ ဝဍိသိတိ, ဒိယာဍိယံ အပလဒိယေနာ ဒိယာဍိယံ ဝဍိသိတိ–ဟူရာ၌လည်း And this purpose will increase–yea, it will increase vastly,at least half as much again will it increase’ ဟု ပြန်ဆိုချက် ရှိ၏၊ ကျင့်ကြံ လိုက်နာသူပေါင်း တိုးပွားရန်ကို သာ ရည်ရွယ်လျက်

ဤသည်လည်း ရှေ့–နောက် ဝါကျ ၂–ရပ် စပ်ဆက်၍, ဘာသာဝါဒ အလိုကျ ထိထိ ရောက်ရောက် ယူနိုင်ရန် ဘာသာခြား ဝါဒခြားများ အတွက် ခဲခက်ခြင်း တမျိုး ပင် ဖြစ်၏။

ထို့ပြင်, 'ဗျူယာ စ အဘေ ပဝတိသု လေခါပိတာ, ဝါသေတဟာ စ အာထိ သိလာထုဘော သိလာထံဘံသိ လာခါပေယာ ဝယဘေ တိနာ စ ဝယဇ နေနာ ယာဝ တိကာ တုဖက အဟာလေ သစရ ဝိဝေ သတာဝါ(ယု)တိ'၊–ဟူသော စကားစုသည်ကား အင်္ဂလိပ် ဘာသာ ပြန်ဆိုရာ၌ ကျန်ရစ်ခဲ့၏၊ ထို့နောက်, 'ဗျူယံ စ သာဝနေ သာဝါပိတေ ဗျူဌေန သာဝနေ ကဋေ ဒုဝေ သံပံနာ လာတိ သတာ ဝိယုထာတိ' စသော နောက်ဆုံး စကားကို လည်း **And this proclamation was proclaimed by the body of missioners (vyuthena), (to wit) 256 (persons)** ဟု သာ အင်္ဂလိပ် ပြန်ဆို ထားလေသည်၊ ကျွန်ုပ် ပြန်ဆိုချက်နှင့် တိုက်ဆိုင် ကြည့်ကြ-ကုန်၊ ဤလည်း ဘာသန္တရ အယူ–အဆ၌ အနက် ထင်မြင်ရန် ခဲယဉ်းချက် ပင် ဖြစ်သတည်း။

ယင်းသို့ အားဖြင့် မိမိတို့ အရာ မဟုတ် ဟူ၍, ပင် နောက်ဆုတ် လက်လျှော့ နေသင့်ကြစေကာ; လက်မလျှော့ပဲ ဖြစ်မြောက်ရန် အားကြိုး ကြသော ဗုဒ္ဓိယ ကျောက်စာဖက် ဆိုင်ရာ ပညာရှိတို့နှင့် ၎င်းအတွက် ငွေကုန် ကြေးကြ မြောက်မြားစွာ ခံလျက် အဘောက အကြောင်းကို ကမ္ဘာက သိရရန် အားအန် စိုက်ထုတ်ကြသော ပုဂ္ဂိုလ်များမှာ ကျွန်ုပ်တို့ ကျေးဇူး တင်၍ မဆုံးနိုင်အောင် ဖြစ်ကြလေသည်၊ သို့ရာတွင်, ထိုသို့သော ကျောက်စာများကို နှစ်ပေါင်း များစွာ ခဲခဲ ယဉ်းယဉ်း ကြံစည်–ဖတ်ရှု အနက် အဓိပ္ပါယ် တွေးဆဆွဲး ရှိနေကြစဉ် အခါက, အကယ်၍ ထိုပုဂ္ဂိုလ်တို့သည် မြန်မာပြည်ရှိ ရဟန်းတော်များကား ပါဠိဘာသာ၌ ကောင်းကောင်းတတ်မြောက် ကျွမ်းကျင်ကြပေသည် ဟု သိကြ၍, ၎င်းတို့နှင့် ဆွေးနွေး ကြံစည်ခဲ့ ကြကုန်ပါမူကား ထိုမျှလောက် ငွေကြေး မြောက်မြားစွာ ကုန်ကျရခြင်း, အားလုံ့လ စိုက်ထုတ်ရသည့်အတွက် ထိုမျှလောက် အပန်းကြီးရခြင်း မဖြစ်ခဲ့ရာ။

# စတုတ္ထ ခုဒ္ဒက သိလာနု သာသနီ၊

## ၄၊ မူလပါဠိ၊

†...........သေ ဟေဝံ ဒေဝါနံ ပိယေ အာဟ; မာတာ—ပိတိသု သုသုသိတာ ဝိယေ၊ ဟေမေဝ ဂရုတ....ပြာဏေသု ဒြဠှိတဗျံ၊ သစံ ဝတဝိယံ; သေ ဣမေ ဓမ-ဂုဏာ ဟေဝံ ပဝတိပဝိယာ၊ ဟေမေဝ အာစရိယေ အံတေဝါသိနာ အပစာ ယိတ-ဝိယေ နာတိကေသု စ က....ယ....ရဟံ ပဝတိတဝိယေ၊ သေ ပေါရာဏာ ပကိတိ ဒ.... အာဝုသေ စ ဧသ ဟေဝံ သေ ကတိဝိယေ....ေ....ဒေဝါနံ ပိေ........ကတဝိယေ....စ ပဒေန လိ အိကံ လိဝိကရေန။ [သိဒ္ဓါပုရ—မူ]

## ၅၊ မြန်မာဘာသာပြန် ၄၊

### ဆရာမိဘ ကြီးသူ စသည်ကို တရား ကျင့်အပ်ကြောင်း၊

........ထို့ကြောင့်, မင်းတကာတို့ လေးစား—ချစ်ကြည်အပ်သော အသောက မင်းကြီးကြီး ဤသို့ မြွက်ကြားတော်မူလေပြီ—အမိ အဘတို့ စကားကို နားထောင် လိုက်နာရာ၏၊ ဤအတူ ပင် ဆရာသမား, (အသက် အရွယ် ကြီးသူတို့ စကားကို လိုက်နာရာ၏၊ အဆွေခင်ပွန်း, ချစ်ကျွမ်းဝင်သူ, ဆွေမျိုး ဉာတိတို့၌ ရင်း, ကျေးကျွန် အစေခံ အမှုလုပ် အထိ ရင်း ကောင်းစွာ ကျင့်ရာ၏၊ သတ္တဝါ တို့ကို ညှဉ်းဆဲ သတ်—ဖြတ်ခြင်းကို မပြုအပ်၊) စကားကို ဖြောင့်မှန်စွာ ပြောဆို အပ်၏၊ ထိုသို့ အားဖြင့် ဤ—တရား၏ ဂုဏ်—ကျေးဇူးကို ဤသို့ လိုက်နာ ကျင့်ဆောင်ရာ၏၊ ဤသို့လျှင် ဆရာသမား အပေါ်၌ တပည့်ကောင်းသည် ကျိုးနွံစွာ ကျင့်ဆောင်အပ်၏၊ ဆွေညာသက်ဟတို့ အပေါ်၌ လည်း (ကောင်းစွာ ကျင့်ရာ၏၊) ဤ သည်ကား ရှေးသူဟောင်း စဉ်လာ ကျင့်ကြံ လိုက်နာသော တရားလမ်းတည်း၊—(........................................................................................................................................................)။

---

၅၊ † ဤကျောက်စာ၌........၌ အစက် ပြဲသော မနေရာမှာ စာလုံး မထင်ရှား ပျက်စီး

၆၊ မှတ်ချက်၊ ဤကျောက်စာ ရှေ့ပိုင်း, နောက်ပိုင်းတို့၌ မထင်ရှား၍ အစ မရှိ, အဆုံး မသိတ် အလယ်၌ ပေါ်ပြသော စကားများကား အဋ္ဌကထာမင်း ဆုံးမ ပေးရိုး တရားများ ပင် ဖြစ်၏၊ အကယ်၍ အစ အပိုင်းနှင့် အဆုံးပိုင်း ရှိပါမူကား အထူး လေးနက် ကောင်းမွန်မည့် ကျောက်စာ ဖြစ်ဟန် ရှိ၏၊ သို့သော်, သဒ္ဓါ-တရား မှန်က မပျက်စီး ပဲ မြဲစွဲသော သဘော မရှိသောကြောင့်, မသိနိုင်သော အပိုင်းများ အတွက် အထူး ပူဆွေးရန် မဟုတ်ပြီ၊ ဝမ်းမြောက်၍ ကျေးဇူးတင်ဖွယ်မှာ သဒ္ဓါရတို့၏ အနိစ္စ သဘော ဖြစ်သည့် အတိုင်း မဇ္ဈိမ နိုင်ငံလုံး သုံး ဘာသာ ကဲ့သို့ ဖြစ်ခဲ့သော ပါဠိမာဂဓ-ဘာသာကြီး တခုလုံး ပင် ပျောက်ကွယ် ရပါလျက်, ထိုသို့ မပျောက်ပျက် ရန် စီမံနိုင်သော အဋ္ဌကထာ မင်း၏ အစွမ်းကြောင့် ဤ အဋ္ဌကထာ တရားစာများ တည်ရှိနေသည်ကို ပင် အဋ္ဌကထာမင်းအား ကျေးဇူး တင်၍ ရင်း၏ တရားများကို သာ ကြည့်ရှု ဝမ်းမြောက်ကြရာ၏။

သို့ ကျွန်ုပ် မှာဆို ညွှန်ပြခဲ့တိုင်း ဆိုလျှင်, ဘုရား ဟော ပါဠိတော် စသည်များ ကို အဋ္ဌကထာ မင်းတရားကြီး အလား ခိုင်ခံ့လှစွာသော ကျောက်ပြား,ကြေးပြားများ ၌ ထွင်းထု ထားခဲ့သော်, တရားတော် အရှည် တည်တန့်နိုင်ကြောင်း ဖြစ်၍ အလွန် ကောင်းမွန်ရာ၏; ဥပမာ မင်းတုန်း မင်းတြားကြီး၏ ဘုရား-ပါဠိတော် အားလုံးကို ကျောက်သလင်းများ၌ ခမ်းနားစွာ ရေးထုခြင်း, မန္တလေးတောင်ကို ပြုပြင်သော ရသေ့ ကြီး ဦးခန္တီ၏ အဋ္ဌကထာ, ဋီကာစုံ ကျောက်စာများ ကဲ့သို့ တည်း ဟု ကျောက်စာ ကြည့်ရှုသူတို့မှာ အစီပွါယ် ထင်မြင်ကုန်ရာမည်၊ ကျောက်ပြား, ကြေးပြားများ၌ ရေးသား ထားခြင်းမှာ ပေ-စက္ကူ၌ ရေးသား ထားခြင်းထက် အရှည်-အမြင့် ခိုင်ခံ့သည်ကား မှန်၏; ၎င်း အတွက် စေတနာ အတိုင်း ကုသိုလ်ရမည် လည်း မှန်၏, သို့သော် လည်း သာသနာတော် အမြင့်-အရှည် တည်နေ ပြန့်ပွားရန် ဖြစ်သည် ဟု ကား မဆိုနိုင်ချေ; စင်စစ်ကား ပေ-စက္ကူပြင်တို့၌ ရေးသား ပုံနှိပ်၍ ကျောက်-ကြေးပြားများ ကဲ့သို့ မခိုင်ခံ့ ဆိုရစေကာ, သာသနာတော် အရှည် တည်တန့် ပြန့်ပွားကြောင်းမှာ ယုံမှားမဲ့ သာတည်း၊ ထိုစကား မှန်၏; ဝိနယေ ဌိတေ သာသနံ ဌိတံ, ဝိနယော နာမ သာသ- နဿ အာယု-ဘုရား အဆုံး-အမတော် တည်တန့်လျှင်, သာသနာ တည်၏; ဘုရား ဩဝါဒ တော်သည် သာသနာတော်၏ အသက် ဖြစ်၏ ဟု သံဂါယနာတင် အရှင်တို့ ဆိုကုန်ပြီ။

ထိုစကားဖြင့် ခိုင်ခံ့ခြင်းနှင့် ပြန့်ပွားခြင်း ၂-မျိုးတို့၏ ခြားနား ကြောင်းကို ပြ၏၊ ကျောက်ပြား, ကြေးပြား စသည်တို့၌ ရေးထု ထားခြင်းမှာ ခိုင်ခံ့ရန်ကား ဖြစ်၏; ပြန့်ပွားရန် ဟု မဆိုသာ၊ စက္ကူပြင်-ပေရွက်ပြင်တို့၌ ရေးသား ပုံနှိပ် ထားခြင်းမှာ

နိုင်ခံ့ရန်ကား မဖြစ်; သို့သော်, ပြန့်ပွားရန်ကား ဖြစ်လေသည်၊ ထိုစကား သင့်ပေစွ; ရှင်း စက္ကူ–ပေရွက် စသည်မှာ လွယ်ကူစွာ ပြုလုပ် ဖြစ်ပေါ်စေနိုင်၍, အဖိုးမတန်လှ–သောကြောင့် အများ ပြန့်နှံ့စေရန် ဖြစ်စေနိုင်လေသည်၊ မူချ လိုအပ်သည်ကား ဘုရားတရားတော် ပြန့်ပွား၍, အများ သိဖြစ်စေခြင်းသည် သာ သာသနာတော် တည်သည်, စည်ပင် ပြန့်ပွားသည် ဟု ဆိုရလေ၏၊ ထို့ကြောင့် အရှင် သာရိပုတ္တမထေရ် မြတ်သည် 'ယာဝယိဒံ ဗြဟ္မစရိယံ အဒ္ဓနိယံ အဿ စိရဋ္ဌိတိကံ'–ဟု မိန့်ဆိုလေပြီ၊ ထို့ကြောင့် သာသနာတော် အမြင့်–အရှည် တည်တန့်ခြင်း ဟူသည် ကပ္ပါသူ ကပ္ပါသား အများ သူငါတို့ နားလည် သိကျွမ်းခြင်း မရှိပဲ, တစုံတခု သူ့ဘာသာ သူ တည်မြဲ ခိုင်ခံ့နေ–သည်ကို သာသနာတော် တည်မြဲနေသည် မဆိုရ, စင်စစ်ကား ကပ္ပါသူ ကပ္ပါသား အများတို့ သိနားလည်၍, တည်တန့်ခြင်းကို သာ သာသနာတော် တည်တွန်းသည် ဟု သိမှတ်ကြရာ၏။

ဤစကားဖြင့် 'မြင့်မြတ်သော မဟာဒါန–ကုသိုလ်ကို ပြုလုပ်မည်' ဟု အလွန်ကြီးထွားသော စိတ်စေတနာဖြင့် ပိဋက ၃–ပုံကို ပူဇော်–လှူဒါန်းတတ်ကြ သူတို့အား မိမိတို့ ပိဋကကို စာတိုက်တွင်းက မထွက်ရမည့် နေရာ, အသုံး မပြုမည့် နေရာတို့၌ထား၍ အကျိုး မများလှမည်ကို ရှင်း, မဟာဒါန–ကုသိုလ်ထူး ဟု ချီးကျူး ဟောပြောကာ စာပေ များစွာ စုဆောင်း ထားရှိလျက် ကိုယ်တိုင် လည်း အသုံး မပြု, သူ့ကိုလည်း မထုတ်မပေးသော ပိဋကစောင့် ပုဉ်းတော်ကြီးတို့၏ အလုပ်မှာ အကျိုး မများလှပုံကို ရှင်း, မဟာဒါန အမှုကြီး ဟု ချီးမွမ်း ခေါ်ဆို၍, ထိုထို ပိဋကတို့ကို တော်စွာ လျော်စွာ ရိုက်နှိပ်ထားရှိလျက် အများများ အယွင်းယွင်း ပြုလုပ်သော–ပုံနှိပ်တိုက် ရှင်တို့၏ အလုပ်မှာ အကျိုး များစွာ မရှိသည် ရှင်း သိစေသတည်း၊ ထို စကားသင့်လှစွာ, 'သိထိုလော ဟိ ပရိမ္မဇော, သီဃော အာကိရတေရဇံ–လျော့လျော့ ကျင့် ပြုခွင့် သူတော်စွာ, အပြစ်မြူ ပြောထူ ပွားရှိ သာ' ဟု ဘုရား ဟောတော်မူလေသည်။

## ပဥ္စမ ခုဒ္ဒက သိလာ နုသာသနီ၊

### ၅၊ မူလပါဠိ၊

†ပိယဒဿိ လ(ၥ)ဇာ မာဂဓံ သံဃံ အဘိဝါဒေါနံ အာဟ; အပါဗာဓတံ စ ဖာသု–ဝိဟာလတံ စ ဝိဒိတေ, ဝေ, ဘံတေ, အာဝတကေ ဟမာဗုဓသိ, ဓံမသိ, သံဃသီ'တိ ဂလဝေ စ ပသာဒေ စ၊ ကေ'စိ, ဘံတေ, ဘဂဝတာ ဗုဓေန ဘာသိတေ, သဝေ သေ သုဘာသိတေ ဝါ, * . . ‡ စုံ ခေါ ဘံတေ, ဟမိယာ ယေဒိသေယာ; ဟေဝံ သဓမေ စိလဋ္ဌိတိကေ ဟောသတီ'တိ၊ အလဟာမိ ဟကံ တံ ဝတဝေ၊ ဣမာနိ, ဘံတေ, ဓံမပလိယာယာနိ; ဝိနယသမုကသေ အလိယဝသာနိ, အနာဂတဘယာနိ, မုနိဂါထာ, မောနေယ–သူတေ, ဥပတိသပသိနေ ဧ . . စ, လာဃုလောဝါဒေ မုသာဝါဒံ အဓိဂိစျ ဘဂဝတာ ဗုဓေန ဘာသိတေ ဧတာနိ ဘံတေ ဓံမပလိယာယာနိ ဣစ္ဆာမိ, ကိံ'တိ ဗဟုကေ ဘိခုပါယေ စ ဘိခုနိယေ စ အဘိခိနံ သုနေယု စ, ဥပဓာလေယယု စ၊ ဟေဝံ ဟေဝ ဥပါသကာ စ ဥပါသိကာ စ၊ ဧတေနိ, ဘံတေ, ဣမံ လိခါပယာမိ, အဘိဟေတံ မေ ဇာနံတု–တိ။

## ဆဋ္ဌ ခုဒ္ဒက သိလာ ပဏ္ဏာ နုသာသနီယော နိဒ္ဒိဋ္ဌာ၊

---

†ရာမာဝတာရသည့်ဆရာ၏ အသောက ကျောက်စာပေါင်း စာအုပ်၌ ဤကျောက်စာကို 'ဘာဗရုဝါသိလာနုသာသ' ဟု အမည်ပေးထား၏။ (၄၆ - ၄၇ မှာကြည့်၊)

* ဤနေရာ၌ 'ဧ စုခေါ ဘံတေ ဟမိယာဒိဒေ' ဟု ထိုစာအုပ် မှု၌ ပါရှိ၏။ U.K.D.

‡ .... ဤအစက် ပြသော နေရာများကား ကျောက်၌ စာလုံးပျက်နေသော နေရာများတည်း၊ ( ) ဤအတွင်း စာလုံးများမှာ မှန်းဆ၍ ဖတ်ယူ ရေးထားချက်၊

## ၆၊ မြန်မာဘာသာပြန် ၅၊

### အသောကမင်း သံဃာများထံ လျှောက်ထားချက်၊

ပိယဒဿီ မည်သော အသောက မင်းမြတ်ကြီးသည် မဂဓတိုင်း အတွင်းရှိ သံဃာတော်များသို့ ကပ်ရောက် ဖူးမျှော် ရှိခိုးလျက်, အနာရောဂါ ကင်းရှင်းစွာ နေထိုင် သီတင်း သုံးတော်မူရကြပါ၏လော, ဘေး-အန္တရာယ် အရက်မရ ချမ်းမြေ့စွာ နေကြရပါ၏လော ဟု မေးလျှောက်လေပြီ၊ သံဃာများက ရောဂါ ကင်းကြောင်း, ချမ်းသာစွာ နေရကြကြောင်းကို မြန်ကြား သိရပြီးနောက်, † (....) အရှင်ဘုရားတို့, အကျွန်ုပ်သည် ဘုရား, တရား, သံဃာတော် ဤ ၃ မျိုး၌ အလွန် ကြည်ညို လေးစားခြင်း ဖြစ်ပါသည်၊ အရှင် ဘုရားများ, ဘုရားရှင် ဟောကြားတော် မူခဲ့သမျှ တရားတော်သည် အားလုံး ပင် ကောင်းစွာ ဟောထားချက် သာ †.....ဖြစ်ပါပေ၏၊ အို အရှင်ကောင်းများ, ဤ တရား ဒေသနာတော်များ အနက်, သူတော်ကောင်းတရား ရှည်လျားစွာ တည်တန့်နိုင်ကြောင်း ဖြစ်၍, အကျွန်ုပ် တကာတော် ကိုယ်တိုင်လည်း ကျေးဇူးဖြစ် ကျင့်စွမ်းနိုင်ရလောက်သော တရားတော်စုကို ဟောကြားတော်ကြပါကုန်။

အို သံဃာတော် အရှင်မြတ်တို့, ဘုရားရှင် နှုတ်တော်ထွက် † ဝိနည်း ပိဋက တော်၌ အရိယဝံသ တရားတော်, အနာဂတဘယ ဒေသနာတော်, ထို့မှ တပါး မောနေယျ အကျင့်ကို ပြဆို မောနေယျပဋိပဒါသုတ်၊ [ † တနည်း-ရဟန်း၊ အဖြစ် မှန် မည်ကြောင်း ဟောရာ ဂါထာများနှင့် မောနေယျ ပဋိပဒါသုတ်] ဥပတိဿ မည်သော အရှင် သာရိပုတ္တမထေရ်မြတ်အား သုစိမုခ ° ပရိဗိုဇ်မ ကြည်ညိုသော သုစိမုခ ° သုတ်, သို့ မဟုတ် ဥပတိဿက ဘုရားအား ကြည်ညိုသော သမ္ပသာဒနီယသုတ် [ သို့ မဟုတ်

---

†....ဤနေရာများ မှာ အမှန် မဆုံးဖြတ်ရ, တင်နက်မျှ ဖြင်၏၊ နောက်....ဤနေရာ ဝါကျ အဆင်းမှာ ပုဒ္ဒ ဝါကျ ဖြစ်နေ၏

အရှင် သာရိ ပုတ္တရာထေရ်၏, အမေး ဖြစ်သော သာရိပုတ္တသုတ်,] နှင့် မုသာဝါဒကို အကြောင်းပြု၍, ဟောတော်မူသော ရာဟုလောဝါဒသုတ်; အရှင်ဘုရားတို့, ဤတရားတော်များကို မည်သို့အားဖြင့် ရဟန်း ယောကျ်ား ရဟန်း မိန်းမတို့ မပြတ်နာယူ ဆောင်ရွက်ကျင့်သုံးနည်း, ဥပါသကာ, ဥပါသိကာမ အပေါင်းတို့ လည်း ထို့အတူ အဘယ်သို့ မပြတ်နာယူ ဆောင်ရွက် ကျင့်မည်နည်း-ဟု တကာတော် အလို-အာသာရှိပါ၏၊ ထို့ အရှင် ကောင်းတို့, ဤတရားတော်တို့ကို အစွဲပြု၍, ဤယခု ပြောကြား လျှောက်ထားချက်ကို ရေးသားစေပါ၏၊ ဤသို့ အားဖြင့် တကာတော်၏, အလိုဆန္ဒကို အများသိမြင်ကြပါလိမ့်မည် ဟု-လျှောက်ထားလေပြီ။

ဤကား ကျောက်တိုင်ငယ် ကျောက်စာ အဆုံး-အမ ဩဝါဒ ကထာ တည်း။

၇၊ ဥပဒေသ၊ ၊ဤကျောက်စာဖြင့် အသောက မင်းကြီးကြီးသည် ရဟန်းတော် မထေရ်များနှင့် တွေ့ဆုံလျက် တရားတော်ကို နာယူပြီးလျှင် မိမိ သဘော တွေ့ရာ သုတ္တန်များကို မှတ်သား ရေးကူးစေခြင်းဖြင့် အများ အကျိုးငှာ ကျောက်တိုင် ကျောက်စာ ပြုလုပ် ထားရှိ သကဲ့သို့, ကျွန်ုပ်တို့အား လည်း တစုံ တခုသော တရားကို ကြားနာရ၍, မှတ်လောက်သည် ဟု ထင်မြင် သဘောရလျှင် ရေးကူး မှတ်သားရန်, သို့ မဟုတ် စာပေ ကြည့်ရှုရာတွင် မှတ်သားလောက်သော အချက်ကို တွေ့ရှိရသော်, ရေးကူး မှတ်သားရန်, အယုတ်သဖြင့် ရှေးစကားဝေါ ဝတ္ထုကိုပင် ဖြစ်စေ အမှတ်ပြုလောက်သည်ကို ပြောဆို ကြားသိရလျှင် ရေးကူး မှတ်သားရန်ကို ညွှန်ပြနည်းပေးလေသည်။

၈၊ မှတ်ချက် ၁၊ ၊ဤကျောက်စာ၌ ဝိနည်းလာ အရိယဝံသ တရားတော်ဟူသည် ဝိနည်းပါဠိတော်၌ တိုက်ရိုက် ဟောသည် မဟုတ်; ဝိနည်း အရာ ဖြစ်သော အကျင့်တရား သာ ဖြစ်၏။ † အသောက မင်းကား ဝိနည်း တရား ဟု ထင်မှတ်၍, ဆိုခြင်းမျှ ဖြစ်၏၊ စင်စစ်ကား စတုက္က အင်္ဂုတ္တိုရ် ဥရုဝေလဝဂ် အဋ္ဌမ အရိယဝံသ သုတ်တည်း၊ ထို့အတူ ဝိနည်း၌ ဟောတော်မူသော အနာဂတဘယတို့ဟူသည် လည်း ဝိနည်း ကျမ်းထွက် မဟုတ်, ဝိနည်း အကျင့် ဆိုင်ရာနှင့် စပ်၍, ဟောအပ်သော ပဉ္စက်ဂုတ္တိုရ် ယောဓာဇီဝဝဂ်, သတ္တမ အရညဝိဟာရီသုတ်, ဋ္ဌင်းအဋ္ဌမ ဒဟာရာဒိသုတ်, ဋ္ဌင်း နဝမ အာဘာဝီတသုတ်, ဋ္ဌင်း ဒသမ ကလျာဏကာမီ သုတ်များ တည်း၊ ထိုမှ တပါး မုနိ

ဂါထာ ခေါ် ဓမ္မပဒ ဓမ္မဋ္ဌဝဂ် မုနိဂါထာ, သို့မဟုတ်, သုတ္တနိပါတ် ဥရဂဝဂ် ၁၂ မုနိသုတ် ဂါထာများ, မောနေယျသုတ်, ဥပတိဿပသိန-ဟူသော သံယုတ် နိဒါနဝဂ် သုစိမုခီသုတ်,သို့ မဟုတ် ဒီဃနိကာယ် သမ္ပသာဒနီယသုတ်, အင်္ဂလိပ်, ဗင်္ဂါလီ, ဟိန္ဒီ- ပညာရှိတို့ အလိုအားဖြင့် ဥပတိဿ၏ အမေး ဖြစ်သော သုတ္တနိပါတ်-အဋ္ဌကဝဂ်၊ သာရိပုတ္တ သုတ်, ထို့ပြင်, မုသာဝါဒနှင့် စပ်ရာ မဇ္ဈိမပဏ္ဏာသ ရာဟုလောဝါဒ သုတ်တို့တည်း။

၎င်းတို့မှာ သဒ္ဓမ္မစိရဋ္ဌိတိက–သုတ္တန်များဖြစ်သည့် အတိုင်းသိမှတ်ထိုက်ကုန်၏; ထို ကို ရည်၍ ပင်–A collection of the seven passages cited including both text and translation would be of much interest as constituting authoritative compendium of the law of duty or piety as conceived by Asoka.- အသောက မင်းကြီး ရည်ညွှန်းချက် အတိုင်း သုတ္တန် တရားတော်များကို ပါဠိတော်နှင့် ဘာသာပြန် ၂–မျိုးစုံ ရုပေါင်း ထားရှိ၍ ဘာသာရေး ဆိုင်ရာ လိုက်နာဖွယ် စည်းမျဉ်း တခု အဖြစ် ပြုလုပ် တည်နေ စေခဲ့လျှင်, များစွာနှစ်မြို့ကိစရာ ကောင်းပေရာသည်၊–ဟု ၎င်းကျောက်စာ အင်္ဂလိပ် ပြန်ဆိုသူ ပင်းဆင်းတ် အေအာစမစ်သ်—Vincent A. smith က ဆိုလေသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် ဤကျောက်စာ ကျမ်း၏ ဆဋ္ဌမပိုင်း၌ ၎င်း သဒ္ဓမ္မ စိရဋ္ဌိတိက–သုတ္တန် မြန်မာပြန်များကို ထည့်သွင်း ထားရှိကုန်၏။

မှတ်ချက် ၂။ ပညာရှိ ဦးကျော်ထွန်းက 'ဝိနယသမုကသေ' ပုဒ်ကို 'အဆုံး– အမ ဖြစ်သော' ဟု မြန်မာပြန်လို၏. ထို့ပြင် 'ဝိနည်းလာ အရိယဝံသ တရားတော်ဟူသည်' ဟူသော ကျွန်ုပ်၏ မှတ်ချက်ပါ စကားကို လည်း 'ဝိနယသမုကသေ' ပုဒ်ရှိ ဝိနယ– သဒ္ဒါသည် ဟောအပ်သော အဆုံးအမ တရားတော် ဟူသည်' ဟု ပြင်ဆင်စေလို၏၊ ကျွန်ုပ် သဘော မတူနိုင်သည်မှာ ပညာရှင် အပေါင်းတို့၏ ဆုံးဖြတ် ခွင့်ကို လွှဲအပ်– ခြင်း ဖြစ်၏၊ ထို့ပြင်, 'အသောက မင်းကား ဝိနည်း တရားဟု ထင်မှတ်၍ ဆိုခြင်းမျှ ဖြစ်၏' ဟု ကျွန်ုပ် ပြဆိုသော မှတ်ချက်ကို လည်း, 'အရှင် မဟာ မောဂ္ဂလိ–ပုတ္တ– တိဿ အစ ရှိကုန်သော ရဟန္တာ အရှင် မြတ်ကြီးတို့ထံ မပြတ် ဆည်းကပ်၍ တရားတော်ကို နာခံမှတ်သား သင်ကြား ဆွေးနွေး ပြီးမှ ကျောက်စာများကို ရေး ထိုးစေသော အသောက မင်းကြီးသည် ပင် အရိယဝံသ အစ ရှိသော တရားတော်တို့ကို ဝိနည်း–ပိဋက တရားတွေ ဟု ထင်မှား မိလေဟန် အဖြစ် ဆို၍ မှတ်ချက် ရေးသားစေပြန်၏၊– ဟု ၎င်းက ဆို၏။

ကျွန်ုပ်၏ အာဘော်မှာ 'ဝိနယ သမုကသေ အလိယ ဝသာနိ အနာဂတ ဘယာနိ' ဟူသော ကျောက်စာပါ စကားတွင် ဝိနယသမုကသေ – ဟူသော ပါဠိဖြင့် ဝိနည်း ပိဋကတ်၌ ဟောသော တရားများ ဖြစ်ကြကြောင်း – အသောက မင်း၏ အလို ဖြစ်သည် ဟု ယူဆ၏၊ ထိုစကား ထင်ရှား၏; အသောက မင်းကြီးသည် ဘုရား ပိဋကတော်၌ ကိုယ်တိုင် ကြည့်ရှု သိစွမ်းခဲ့သူ မဟုတ်; မေ့သာဝန ကျေးဇူးကြောင့် ပရတော ဃောသ မျှဖြင့် တရား နားလည်သူ ဖြစ်ခဲ့ပြီ၊ ထိုသို့ ဖြစ်ကြောင်းကို – ဒေသ မေ ဟုတာ ဓမ္မသာဝနာနိ သာဝါပယာမိ–ဟု သတ္တ – သီလာနုသာသနီ – ကျောက်စာ, – သတ္တမ–သီလာနုသာသနီ, – ဒေဝ္ဒ ဓေတာ ပရထမ္ဘ– ကျောက်စာ၌ ဆိုထားလေပြီ၊ ထို့ကြောင့် အသောက မင်းကြီးကား တရား နာမှုကြောင့် တရား နားလည်သူ ကေန် မှန်၏; သို့ရာတွင်, ဝိနည်း, သုတ္တန်, အဘိဓမ္မာ ဟူသော တရားများ၏ သရုပ် သဘောကိုကား ထိုမျှ ကွဲပြား နားလည်သူ မဖြစ်ပေရာ ဟု ကျွန်ုပ် ယူဆ၏။

မည်သို့ ဖြစ်စေကာ, ကျွန်ုပ် ထင်တိုင်း အာဘော်ကို မပြဆိုပဲး ရှောင်လွှဲ ရေးသား သွားမည် ဆိုက လည်း ဖြစ်နိုင်ပါ၏၊ သို့သော်, ဒေါ်သည္ဘူ – ဂုဏည္ဘူ ဝိဒူတို့ သဘော အတိုင်း ကျွန်ုပ် အာဘော်ကို ပြဆိုရန် အရေးကြီးသည် ဟု ကျွန်ုပ် ထင်၏၊ ထိုသို့ အားဖြင့် ကျွန်ုပ် အပေါ်၌ ပညာရှိတို့ မထေမဲ့ ပြယ် ဆိုခြင်းမှ ကင်းလွတ်ရာ သတည်း။ ထို စကား မှန်လှ၏; အသောက မင်းကြီးကို ကျွန်ုပ် ချီးကျူးချက် လွန်မင်းစွာ ပြုသည်မှာ တရားတော်၏ သဘောကို နားလည် – လိုက်နာ – ကျင့်ဆောင်သော အရေး အတွက် သာ ဖြစ်၏၊ ပိဋက တတ်မြောက်၍ သရုပ် – သကန်ကွဲပြားရေး အတွက် ကျွန်ုပ် မချီးကျူးလို; အကြောင်းကား ထိုသို့ ချီးကျူးရန် ဂုဏ်ထူး ရှိသည် ဟု ကျွန်ုပ် မသိရသောကြောင့်တည်း၊ အသောက မင်းကြီးသည် အရှင် မဟာ မောဂ္ဂလိ – ပုတ္တတိဿ အစရှိသော ရဟန္တာကြီးတို့ အထံ၌ အဖန်ဖန် တရားနာယူရ ကြောင်း – ပညာရှိ ဦးကျော်ထွန်း ထောက်ထား ပြုချက်မှာ ကောင်းလှ၏; သို့ရာတွင်, ထိုမျှဖြင့် ပိဋကတ္တယဓာရီ မည်လောက်အောင် ကျမ်းဂန် တတ် မဖြစ်နိုင်၊ ထို့ကြောင့်, ဝိနည်း သဘောကို ပြသော အရိယဝံသသုတ် စသည်ကို ဝိနည်း ဒေသနာ ဟု အသောက မင်း မှတ်ယူနိုင်ခွင့် ရှိလေသည်။

မှတ်ချက် – ၃၊ ၁၀ ဒါကွဲ – ဝိနယသမုကသေ အရ **V.A.Smith**–ဗင်းဆင်းတ် အေ ဆမစ်သ် က ဓမ္မစက္ကပ္ပဝတ္တနသုတ်ကို ကောက်ယူလို၏ ; ဥဒါန်ပါဠိတော်ကို လည်း ယူလို၏၊ ရာဇကုမုဒ မုကာရဂျီး ခေါ် ဗင်္ဂါလီ – ပညာရှိကမ ၎င်းများနှင့် တကွ သိဂါလောဝါဒ

ဝါဒသုတ်ကို လည်း ဆိုလို၏၊ ထိုမှ တပါး များစွာ လည်း ကြံ-စည်ကြကုန်၏၊ စင်စစ်ကား ၎င်းတို့သည် သဒ္ဒတ္ထ-ပဒတ္ထမျှကို ကြည့်၍ ကြံစည်ကြခြင်းတို့ သာ ဖြစ်ကုန်၏၊ မုချမှုကား ဝိနယ သမုကသေ-ဝိနယသာမုက္ကံသေ-ဝိနည်းပိဋကတော်၌ ဝါ-ဝိနယသာမုက္ကံသာနီ-အဆုံး အမကို ပြဆို ဟောကြားရာ ဖြစ်ကုန်သော ဟုပြန်ဆိုရာ၏၊ ပဌမ-အစိပ္ပါယ် အရ အရိယဝံသ စသော သုတ်များကို ဝိနည်းဒေသနာ ဟု ဆိုလို၏၊ ဒုတိယ-အစိပ္ပါယ် အရ ဘုရားဆုံးမ ဟောကြားသော တရားစု ဟု ဆိုလို၏၊ ကျန်နိပ်ကား ရှေးအနက်ကို လို၏၊ ဤကျောက်စာကို ပြင်ဆင်သော ပညာရှိ ဦးကျော်ထွန်းကား နောက်အနက်ကို လို၏။

ဤ မျှဖြင့် အရှင် အာဒိစ္စဝံသ မထေရ် ပြန်ဆို ရေးသား အပ်သော အသောက ကျောက်စာတော်များ အနက် ၅-မျိုးသော ကျောက်တိုင်ငယ် ကျောက်စာ အဆုံး-အမများ ပြီးဆုံးသတည်း။

၄၊ အခဏ်း ၅၊

ဒုတိယ ကျောက်တိုင်ငယ် ကျောက်စာတော်ပြဝါဒ ၆x၈

## အထ ပုန ခုဒ္ဒကထမ္ဘလေခါယော၊
## လုမ္ဗိနီ သိလာထမ္ဘလေခါ၊

### ၁၊ မူလပါဠိ၊

ဒေဝါနံ ပိယေန ပိယဒသိန လာဇိန ဝီသတိဝသာ' ဘိသိတေန အတနာ အာဂါစ မဟီယိတေ, 'ဟိဒ ဗုဓေ ဇာတေ သကျမုနီ'၊ သိလာဝိဂဍဘီ စာ ကာ-လာပိတာ; သိလာထဘေ စ ဥသပါပိတေ ဟိဒ ဘဂဝံ ဇာတေ'—တိ လုံမိနိဂါမေ၊ ဥဗလိကေ ကတေ အဌဘာဂိယေ စ။

၂၊ မှတ်ချက်၊ ၊ဒေဝါနံ-ကို ဒေဝါနံ, ပိယဒသိန-ကို ပိယဒသိနာ, လာဇိန—ကို လာဇိနာ, အာဂါစ-ကို အာဂစ္ဆ-အာဂန္တွာ ဟု မှတ်၊ သိလာ ဝိဂဍဘီ ဟူရာ၌ သိလာဂဗ္ဘ-ကျောက်သားဖွားခန်း ဟု ဆိုလို၏; 'သိလာထဘေ စ ဥသပါပိယတေ' ကို ထောက်၊ အထ ဘာဂိယေ စ၌ အဋ္ဌ စဘာဇယေ' ဟု အပြောင့် ပါဠိ ရှိလို၏;မိမိ ကုသိုလ် အဖို့ကို ဝေခြမ်း၏ ဟူလို၊ အခြား တပါးသော အနက် အဓိပ္ပါယ်အထူး ကြံစည်ရန် အရာ မဟုတ်။

ယခု—အခါ တဖန် ကျောက်တိုင်ငယ် ကျောက်စာတို့ကို ဆိုအပ်ကုန်၏။

### ၁၊ မြန်မာဘာသာပြန် ၁၊

#### ဘုရားဖွားတော်မူရာ၌ ကျောက်တိုင်စိုက်ကြောင်း။

မင်းတကာတို့ ချစ်ကြည် လေးစားအပ် ၍, ပိယဒဿီ ဟု ခွဲချီ ခပ်နိုင် အရှင် မဟာကဿပ မထေရ်မြတ်၏, ဗျာဒိတ်တော်ကို ခံယူ-ရရှိသော အသောက မင်း-တရား ကြီးသည် ကိုယ်တော်မြတ် အဘိသိက် ခံယူ၍, အနှစ် နှစ်ဆယ်မြောက် အခါသာကီ

ဝင်မျိုး၏ အထွတ် ရဟန်းတို့ တမွတ် ဥသျှောင် ဖြစ်တော်မူသော ဘုရားသခင် ဖွား မြင်တော်မူရာ ဤအရပ်၌ ဖူးမြော်-လာရောက်တော် မူလျက်, ပူဇော်တော်မူအပ်၏၊ ထို့ ပြင် (ဤ နေရာ၌ ကျောက်အုတ် ပြီးသော) (ဖွားမြင်တော်မူရာ) တိုက်ခန်းကို လည်း တည်ထား ပြုလုပ်စေ၍, ကျောက် ကမ္ဗည်းတိုင်ကို လည်း စိုက်ထူခဲ့၏။ ဤလုမ္ဗိနီ ဟု [ ယခု လက်ရှိ အမည် တွင်သော ] ရွာနေရာ၌ ပဋ္ဌိတော် သခင်ဘုရားရှင်သည် ဖွားမြင် တော်မူခဲ့ပြီ ဟု မှတ်သား ထားရှိတော်မူခဲ့၏၊—ဤ ကုသိုလ်၏ အဖို့ကို လည်း နတ်လူတို့ အား အမျှ ပေးဝေတော်မူ၏။

၄၊ ဥပဒေသ၊ ၊မှတ်သားလောက်၍ အများ အကျိုး ထင်ထင် ရှိရာကို အမှတ် တခု ဖြစ်စေရမည်၊ မိမိ လာရောက်သော အထိန်း-အမှတ် ကို လည်း အိုးမည်း-မြေဖြူခဲ နှင့် ရေးသားခြင်းမျိုးမှ တပါး, ရှမ်းနိုင်သမျှ ဖြစ်စေရမည်၊စေတီ ထိုက်သူ လေးဦးဆိုင်ရာ ၌ ပြဆိုထားသည့် အကျိုးများ၏ အနက်အဓိပ္ပါယ်ကို အကျယ် သိတတ်ကြစေ ဟု ကျွန်ုပ် တို့အား လမ်းညွှန်၏။

၅၊ ဝါဒကွဲ၊ ၊ယိဒ ဘာဂ ဝ ဝေ' တိ လုမ္ဗိနီ-ဂါမေ ဥဗလိခေ ကတေ အဋ္ဌ- ဘာဂိယေ စ၊—ဟူသော ပါဠိကို ဗင်းဆင်းတ် အေ သမစ်သ်Vincent A. Smith, က အင်္ဂလိပ်ဘာသာ၌ 'Inasmuch as 'here the holy One Was born,' the Village of Lummini was released from religious Cesses and required to pay (only) one-eighth as land revenue-ဤနေရာ အရပ် ဓဒေသ၌ သန့်စင်သော ဘုရားရှင်၏ အလောင်းတော်ဖွား မြင်တော် မူရာ ဖြစ် ခြင်းကြောင့် ဤလုမ္ဗိနီရွာသည် ဘာသာရေးဆိုင်ရာ အခွန်တော် ခိုင်ကြေးမှ လွတ်စေခွင့် ဖြစ်စေ၍, မြေခွန်တော်အတွက် ထိုက်သက်သမျှ ရှစ်ဖို့ တဖို့ သာ ထမ်းဆောင်စေရပြီ၊— ဟု ပြန်ဆိုထားလေသည်၊ ရင်းပြန်ဆိုချက် အဓိပ္ပါယ် အတိုင်း ဖြစ်ခဲ့လျှင်, ကျွန်ုပ်တို့ ပြန်ဆို ခဲ့ချက်ထက် ပင် အဓိပ္ပါယ် လေးနက်၍,အသောက မင်းတရား၏ ဂုဏ် တိုးတက်ပေ၏။

သို့ရာတွင်, 'သိလာ ဝိဂဍဘိစာ ကာလာပိတာ—'ဟူသော စကားကို 'a stone bearing A horse was Caused to be made—မြင်းရုပ်တခု ထားရှိသော ကျောက်-တုံး မှတ်သား၍ ကျောက်တိုင် ပြုလုပ်စေလျက်—' ဟုပြန်ဆိုလေသည်၊ ထို့နောက်, 'ဤ ရှုပ်ရှက်၍ အသိခက်သော 'သိလာဝိဂဍဘိ' ပုဒ်ကို မြင်းရုပ် ထားရှိသော ဟု သာ လောက အများသုံးသို လိုက်၍ ပြန်ဆိုကြောင်း, သို့ မဟုတ် ဤနှင့် အလားတူ အရုပ်

တခုခု ဖြစ်ရန် ရှိကြောင်း, ဤ ကျောက်တိုင်မှာ လည်း ရှေးက မြင်းရုပ် တင်ထား ရှိပြီ ဖြစ်ရာပြီ၊ ထို အရုပ်ကို လည်း ကုန္တိယ မြောက်ပိုင်း၌ အနောက် အရပ်ဆောင့်ဟု ဖွဲ့မှတ် ကြကြောင်း—စသည်များစွာ ကြံစည် ရှာလေသည်၊ သို့ဖြစ်စေကာ, ထိုသို့ ကြံစည်ချက် အရ အများသိ ဗဟုသုတ ဖြစ်ရုံထက် ပိုလွန်သော အနက် မထွက်ချေ။

၆၊ မှတ်ချက်၊ ၊ဘုရားဖွားမြင်တော်မူရာ, ဘုရားရှင် လောက—သုံးပါး အထွတ်- အထိပ်သို့ ရောက်တော်မူ၍. ဘုရား ဖြစ်တော်မူသော ဗုဒ္ဓဂယာ–မဟာဗောဓိ နေရာ, မေ့မကြာ တရားဦးကို ဟောတော်မူသော မိဂဒါဝုန် နေရာ, ဘုရားရှင် ပရိနိဗ္ဗာန် စံလွန်တော်မူသော ကုသိနာခြုံ--မလ္လာမင်းတို့ ဥယျာဉ်ရာ ဤ လေး—ဌာနမှာ ဘုရားရှင် ပရိနိဗ္ဗာန် စံလွန်ခါနီးတွင် ဗုဒ္ဓသာသနာဝင် ရဟန်း - ရဟန်းမ — ဥပါသကာ — ဥပါသိကာမ တို့၏ လှည့်လည် ဖူးမြော်ကြရာ ဆိပ်ကမ်း—ဌာနများ အဖြစ်ဖြင့် ဘုရား ဟောညွှန် တော်မူခဲ့ချက် ဖြစ်၏၊ ၎င်း ၄—ဌာနတွင် ယခုကျောက်စာပါ လုမ္ဗိနီ—ဌာနကား ဘုရား ဖွားတော်မူရာ ဖြစ်၏၊ ယင်းသည့် လေး—ဌာနတို့မှာ လည်း ယခု အခါ ဗုဒ္ဓဘာသာ မြန်မာ—ဘုန်းတော်ကြီးများ အသီးသီး တည်နေတော်မူကြလျက် ထင်ရှားသော နေရာ များ ဖြစ်သောကြောင့် နိုင်ငံခြား— ဗုဒ္ဓဘာသာဝင်တို့ သွားရောက် ဖူးမြော်ကြရန် များစွာ သင့်တော်ကုန်၏၊ ယင်းသည့် အလို့ငှာ လည်း အသောက မင်းတရားကြီးက ထင်ရှား သော ကျောက်တိုင်-အမှတ်များ ထားရှိခဲ့လေသည်။

# နိဂလိဝသိလာထမ္ဘလေခ။

## ၂။ မူလပါဠိ။

ဒေဝါနံ ပိယေန ပိယဒသိန လာဇိန စောဒသ—ဝသာ .... တ .... န .... ဗုဓသ ကောနာကမနသ ထုပေ ဒုတိယံ ဝဍိတေ..........သာဘိသိတေန စ အတနာ အာ—ဂါစ မဟီယိတေ .........ပါပိတေ............

## ၂။ မြန်မာဘာသာပြန် ၂။

### ကောဏာဂုံဘုရားစေတီတော်ထပ်မံပြုကြောင်း။

မင်းတကာတို့ ချစ်ကြည် လေးမြတ်အပ်၍ ပိယဒဿိ ဟု ဓွဲ့ရှိ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ—ရရှိတော်မူသော အသောက မင်းကြွားကြီးသည် ကိုယ်တော်မြတ် အဘိသိက် ခံယူ၍ တဆဲ့ လေးနှစ် မြောက်လတ်သော်၊ ကောဏဂုံ ဘုရားရှင် စေတီတော်ကို နှစ်ကြိမ်မြောက် တိုးဆင့်—ပြင်ဆင် တည်ထားတော်မူ၏၊ (မင်းတကာတို့ ချစ်ကြည်—လေးစားအပ်၍ ပိယဒဿိ ဟု ဓွဲ့ရှိ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်မြတ်၏ ဗျာဒိတ်တော်ကို ခံယူ-ရရှိတော်မူသော အသောက မင်းကြွားကြီးသည် ကိုယ်တော်မြတ် အဘိသိက် ခံယူ၍ ၁၄—နှစ်မြောက်၌ ဤနေရာသို့) လာရောက် ဖူးမြော်တော်မူ၍ ပူဇော်တော်မူခဲ့ပြီးလျှင်၊ (ဤကျောက်စာတိုင်ကို လည်း ဤဘဒ္ဒကပ္ပ၌ အစ လက်မှန်ဆုံး ကောဏာဂမန—ဘုရားရှင်၏ စေတီတော် ဟု အမှတ်တရ ပူဇော်ကြရန်) စိုက်ထူတော်မူခဲ့၏။

၄။ ဥပဒေသ။ ။ဤ၌ အများအကျိုးအတွက် ၎င်း၊ မိမိထုံး အတိုင်း အများ လိုက်နာ ပြုမူစေရန် ၎င်း မှတ်တိုင် ကမ္ဗည်း ထားရှိကြလေ ဟု ကျွန်ုပ်တို့အား ညွှန်ပြ တိုက်တွန်း၏။

၅။ မှတ်ချက်။ ။ပိဋကတော်မှ အားလုံး၌ ကောဏာဂမန ဟု ၎င်း၊ ကောနာဂမန ဟု ၎င်း ရှိကြ၏၊ ဤကျောက်စာ၌ ကား ကောနာကမန ဟု တတိယ ဂ၏ အစား ပထမ အက္ခရာ ကနှင့် ရှိ၏၊ ဟိန္ဒူဘာသာ၌ ကနကမုနိ မြန်ဆို၍ ဤ အတိုင်း လည်း ပြောဆို ခေါ်ဝေါ်လေ့ ရှိ၏၊ ဟိန္ဒူတို့ ပြန်ချက်၊ ပြောချက်မှာ အနက် အဓိပ္ပါယ် ကောင်း၍ သင့်လှ၏။

# မိဂဒါယသ္တမ္ဘပရိသိလာလေခါ၊

## ၃၊ မူလပါဠိ၊

ဒေဝါ (နံ၊ ပိယေ ပိယဒသိ (လာဇာ)........................................
..........ေ.......... (လ) ........................................
..........ပါဠ္ (လိပုတော)........................................ယေ တေန ပိ သံဃေ
ဓောတဝေ ေ..........တုံ ဒေါ........................................
(ဘိခု ဝါ ဘိခုနိဝါ) သံဃံ ဘခတိ သေ ဩဒါတာနိ ဒုသ(ာ)နိ သံနံဓာပယိယာ အာနာဝါသသိ အာဝါသယိယေ၊ ဟေဝံ ဣယံ သာသနေ ဘိခု သံဃသိ စ ဘိခုနိ သံဃသိ စ ဝိ"နပယိ တဝိယေ၊ ဟေဝံ ဒေဝါနံ ပိယေ အာဟ၊ ဟေဒိသာ စ ဣကာ လိပိ တုဖာကံ တိကံ ဟုဝါတိ သံသလနသိ နိခိတာ၊ ဣကံ စ လိပိ" ဟေဒိသ' မေဝ ဥပါသကာနံ တိကံ နိခိပယာ၊ တေ ပိ စ ဥပါသကာ အနုပေါသထံ ယာဝု တေ' မေဝ သာသနံ ဝိသွ' သယိတဝေ၊ အနုပေါသထံ စ ဓုဝါယေ ဣကိကေ မဟာမာတေ ပေါသထာ ယေယာ'တိ၊ ဧတ'မေဝ သာသနံ ဝိသွ'သယိတဝေ အာဇာနိတဝေ စ၊ အာဝတိကေ စ တုဖာကံ အာဟာလေ သဝတ–ဝိဝါသယာထ တုပေ ဧတေန ဝိယံ–ဇနေန၊ ဟေမေဝ စ သဝေသု ကောဋဝိသဝေသု ဧတေန ဝိယံဇနေန ဝိဝါသာပ ယာထ။

၄...........................ဤအစက် နေရာများကား ကျောက်စာ၌ ပျက်စီး နေသော နေရာများ၊ ( ) ဤ အကွင်းတွင်းရှိ စာမှာ မှန်းဆ၍ အထင်နှင့် ဖတ်ထား သော စာ; ဤနေရာ၌ ကျောက်စာတွင် မထင် မရှားနေသည် ဟူလို။

## ၃၊ မြန်မာဘာသာပြန် ၃၊

### သံဃာ့ အလုပ်အကျွေးများ ထားကြောင်း၊

မင်းတကာတို့ ချစ်ကြည် လေစားအပ်၍ ပိယဒဿိ ဟု ဝွံရှိ ခပ်နိုပ် အရှင် မဟာကဿပ မထေရ်၏ ဗျာဒိတ်တော်မြွက်ကို ခံယူ–ရရှိတော်မူသော အသောက မင်းမြတ်ကြီးသည်........................(ဤနေရာ၌ စာ ၂ ကြောင်းခွဲခန့် ပျက်စီး ရှိ၏၊)—

ရဟန်း ယောကျ်ား, ရဟန်းမ–သံဃာတော်၏ အလုပ် အကျွေး အဖြစ်ဖြင့် အနာဂါရိက အဝတ်ဖြူ ဝတ်ထိုကို နေထိုင်စေတော်မူ၏၊ ဤ အတိုင်း ဤသတင်း စကားကို ရဟန်း သံဃာတော်များ အထံတော်သို့ ၎င်း, ရဟန်းမ–သံဃာတော်များ အထံတော်သို့ ၎င်း, လျှောက်ထားခွင့် ပန်တော်မူ၏၊ ဤသို့ မင်းတကာတို့ ချစ်ကြည်အပ်သော အသောက မင်းကြီး မိန့်မြွက်တော် မူပြီ၊ ဤနှင့် အလားတူ စာသဝဏ် တခုကို လည်း သင်တို့ အထံ၌ ရှိပြီ ဟု ခရီး ယာယီဆောင် စာ တော် တခုထားရှိစေတော်မူ၏၊ ဤနှင့် အလားတူ အမိန့်သဝဏ်စာ တစောင်ကို လည်း ဥပါသကာ, တို့ အထံ၌ အပ်နှံ ထားကြစေ၊ ထို ဥပါသကာ တို့လည်း ဥပုသ်နေ့တိုင်း ဤသဝဏ်စာတော်ကို ပင် ကောင်းစွာ ဖတ်ရှု၍, သံသယ ကင်းအောင် ပြုလုပ်ကြစေ၊ ဥပုသ်နေ့တိုင်း လည်း ၂–ကြိမ်တိုင် တယောက် တယောက်သော အမတ်ကြီးတို့ကို ဥပုသ် စောင့်သုံး ပြုစုကြစေကုန်၊ ဤ သဝဏ်စာ တခုကို ပင် သံသယ ကင်းအောင် သိနားလည်ကြစေ၊ ဤ အမိန့် မှတ်ချက် စာတော်ဖြင့် ပင် သင်တို့ အခွင့် အလှည့် ကုန်သည်တိုင်အောင် ထိုထို နေရပ်တို့၌ ပြောင်းလဲ နေထိုင်ကြစေ၊ အလုံးစုံသော ကျောင်း–အာရာမ်တို့၌ ဤစာဖြင့် သာ ပြောင်းရွှေ့ နေထိုင်ကြစေ။

၆၊ မှတ်ချက်၊ ဤ ကျောက်စာမှာ မိဂဒါဝုန် ယခု ပျက်စီးရှိ အဋ္ဌ ကျောင်း တော်ကြီး ကျောက်တိုင်က စာဖြစ်၍, ရဟန်း ရဟန်းမ အလုပ်–အကျွေး ဥပါသကာများ ထားရှိစေပုံ ဖြစ်ဟန် ရှိ၏။ ဤ နေရာ၌ မိဂဒါယ ဟူသော မူလ အမည်မှ ယခု အခါ 'သာရ–နာထ' ဟိန္ဒူခေါ် 'ဆာရ်နာထ်' ဟူသော အမည်ဖြင့် ပြောင်းလဲ ခေါ်ဝေါ် လျက် ရှိ၏၊ 'သာရနာထ' ပုဒ်သည် 'သာရင်္ဂ–နာထ' ဟူသော သက္ကတ ဘာသာ ပုဒ်ရင်း ဖြစ်၍, 'မိဂဒါယ' နှင့် အနက်တူ အဓိပ္ပါယ်ရှိ ပရိယာယ်ပုဒ် ပင် ဖြစ်၏၊ ဤ နေရာ၌ ဒယာရာမ သာဟနိ M. A. ရာယ် ဗဟာဒုရ် မည်သော 'သာရနာထ–အညွှန်း' ရေး သားသော ပုဂ္ဂိုလ်က အထက်ပါ အသောက ကျောက်စာကို အောက်ပါ အတိုင်း အင်္ဂလိပ်–ဘာသာဖြင့် ပြန်ဆို ထားလေသည်၊–

× × × × × ×

နတ်တို့ ချစ်အပ်သော အသောက မင်းကြီး ဤသို့ မြွက်ကြား၏၊ သံဃာ တော်များသည် ဂိုဏ်း–အသင်း အပင်း မကွဲပြားရ၊ မည်သူ မဆို, ရဟန်း ဖြစ်စေ, ရဟန်းမ ဖြစ်စေ ဂိုဏ်း–အသင်း အပင်း ခွဲခွဲလျှင်, အဝတ်ဖြူ ဝတ်စေ၍, ရဟန်းတို့ နေရာ မဟုတ်ရာတွင် နေထိုင်စေလိမ့်မည်၊ ဤ စာတော်ကို ရဟန်းနှင့်ရဟန်းမ တို့အား ပြန်ကြား သိကြစေရမည်။

"အသောက မင်းကြီး ဤသို့ မြွက်ကြားတော်မူ၏။—ဤနှင့် အလားတူအမိန့်စာကို တည်ထား ရှိစေရမည် ဟု စည်းဝေးရာ၌ သင်တို့အားမြွက်ကြားပြီးပြီ၊ ထိုမှ တပါး ရေးသားသည့် စာချွန်ကို လည်း ဥပါသကာမတို့ အတွက် ဖော်ပြ ရေးသားရမည်။ ဥပါသကာတို့က လည်း ဤစာတော်ကို ယုံကြည် လေးစားစွာ အားထုတ်ရန် လ၏ ပထမ နေ့တိုင်း ဂရု စိုက်ကြရမည်။ ထို့ အတူ လ၏ ပထမ နေ့တိုင်း ဤ စာတော်၌ ပါဝင်စေ၍ မိမိတို့ ကိုယ်တိုင် ယုံကြည်စွာ အားထုတ်ရန် ကြောင့်ကြစိုက်ကြရမည်။

'ထို့ပြင်, သင်တို့ ဒိုင်နယ် အကျယ်—အဝန်း ရှိသမျှ အတွင်း၌ အစေ-အင စာတော်၏ အာဘော်ကို သိနားလည်စေရမည်၊ ထို့အတူလျှင် မြို့တော်များ ဒိုင်နယ် များ အတွင်း၌ လည်း ဤစာတော်နှင့် အညီ ပြုကျင့်လိုက်နာ စေရန် မြွက်ကြားသိ စေရမည်။"

ဂ၊ မှတ်ချက်၊ ဗင်းဆင်းတ် အေ ဆမစ်သ်, ရာဓာကုမုဒ မုကရဂျီ, ရာမာဝတာ သမ္မတို့၏—ပြန်ဆိုချက်၌ လည်း ၎င်းနှင့် ပင် သဘောတူ၏; စကား သုံးမှု ခြားနား သည်၊ ၎င်းတို့ သဘောမှာ 'ဘေတဝေ' ဟု ကျောက်စာ မူတွင် ပါရှိသော စကားကို အခြေပြု၍, သံဃာဂိုဏ်းခွဲခြင်း ပြုလျှင် ဟု အဓိပ္ပါယ် ဖွင့်ယူကြဟန် ရှိ၏၊ ကျွန်ုပ်တို့ကား ဤ နေရာ 'ယေ ကေန ပိ သံဃေ ဘေတဝေ ဧ' ဤမျှ ပေါ်လွင်၍, ရှေ့နောက် အဆက် ပြတ်လျက် ဖြစ်နေသောကြောင့် ထိုသူတို့ ပြန်ချက် မှန်-မမှန်ကို မဆုံးဖြတ်နိုင်, သို့ရာတွင် သံဃာ့ဂိုဏ်း အသင်း ခွဲကာမျှနှင့် ဤသို့ အဝတ်ဖြူ လဲစေခွင့် မရှိ; အကယ်၍, သံဃဘေဒကကံ ထိုက်အောင် သံဃာ ခွဲခြင်းကို ပြုခဲ့ပြန်မူ လည်း ထိုသို့ အဝတ်ဖြူ ဝတ်စေခွင့် မရှိ၊ ထို့ပြင် ဤ အရာမျိုး၌ ရှေးဦး မဆွက တင်ကူး၍, မင်း အာဏာ ထားခွင့် လည်း မရှိချေ၊ ကျွန်ုပ် အာဘော်ကား 'သံဃ ဘေတိ, ဧ ဩဒါ တာနိ ဒုဿာနိ သံနံဓာပယိယာ အနာဝါ သတိ အာဝါသယိယေ'—ဟူသော စကား-ကို ထောက်၍, 'သံဃာ့ အလုပ် အကျွေး ဝတ်ဖြူ စင်ကြယ်ဝတ် အနာဂါရိကများ ထားသည်' ဟု ထင်မြင်ချက် ထား၏၊ ထို စကား မှန်၏; 'ဘေတိ-ဘောဇတိ' ဟု မူများ၌ ရှိသော ပုဒ်မှာ ဘဏ္ဍိ ဟူသော သက္ကတပုဒ် ဖြစ်၍, 'ဘဏ္ဍိ—ဆည်းကပ်ခြင်း အနက်ဟော ပါဠိဘာသာ ပုဒ် ဖြစ်လေသည်၊ ထို့ကြောင့် အနာဝါသသိ ပုဒ်ကို လည်း အနာဂါရိက အိမ်ယာ မထောင်သူ ဟု ထောက်ဆရလေသည်၊ ထို့ပြင်, 'စေတေန ဝိယဉ္ဇနေန ဝိဝါ သာပယထ' ဟူသော နောက် စကား ဖြင့် လည်း ထို အဓိပ္ပါယ်ကို ပင် ထင်ရှားစေလေသည်။

# သာဉ္စိ သိလာ ထမ္ဘလေခ၊

## ၄၊ မူလပါဠိ၊

..................ယ (ဒံ) တ (ေ)............မဂေ ကတေ............ဃ (နံ ဝါ) ဘိ..........
ခုနံ (ဝါ)................တိ............တ.... ................ဗ (ဏှိတံ)....မ.... ....ရိ........
(ခေ) ယေ သံဃံ ဘေခတိ ဘိခု ဝါ ဘိခုနိ ဝါ ဩဒါတာနိ ဒုသာနိ (သ) ဘိ သနံ........
ယိတု အနာ....သသိ ဝ (အိ) သ........ပေတဝိယ........ဣဆာ ဟိ မေ ကိံ တိ သံ
ဃသ မဂေ စိလထိတိကေ သိယာ တိ။

## ၄၊ မြန်မာဘာသာပြန် ၄၊

..............................ကျင့်စဉ် ပဋိပတ် ပြုအပ်၏ ......................................................ရဟန်း ယောကျ်ား, ရဟန်းမ သံဃာတော် အခွဲအစား ဖြစ်သူတို့ဝတ်ဖြူ ဝင်ကြယ်.......................................................................................ငါ မင်းမြတ်သည် သံဃာတော် အရှင်ကောင်းများ မိမိတို့ ကျင့်စဉ် ပဋိပတ်၌ မည်သို့လျှင် ကြာမြင့် အရှည် တည်မည်နည်း ဟု တည်တန့်ရန် အရေးကို လိုလားတော်မူ၏။

မှတ်ချက်၊ ၊ရင်းမှာ လည်း မိဂဒါဝုန် ကျောက်စာနှင့် အလား တူဟန် ရှိ၏

# ကောသမ္ဗီသိလာထမ္ဘလေခါ၊

## ၅၊ မူလပါဠိ

..........ယေ (အာ) နပယတိ၊ ကော သံဃိယ — မဟာမ (၁) တာ..........မ.......
..........သံဃ သ(ဝ) နု (အာ) စိယေ...........(သံဃံဘော) ခတိ ဘိခု ဝ ဘိ
(ခု) နီ ဝါ..............(ပိ) စ (ဩ)..............ဒါကာနိ (ဒ) သာနိ..........နံ
ခာပယိတု အာဂာ (ပေ) သ....ဝ....ယ....ယ....

## ၆၊ မြန်မာဘာသာပြန် ၅၊

..........စေစားတော်မူ၏၊ ကောသမ္ဗီ အမတ်ကြီးသည်..........................သံဃာတော်
၏..........................ရဟန်း ယောကျ်ား, ရဟန်းမ သံဃာတော်၏ အလုပ် အကျေး.......
..........အဝတ်ဖြူ ဝတ်..............စေခိုင်း...............................................

၆၊ မှတ်ချက်၊ ၊ ဤ ကျောက်စာ လည်း မိဂဒါဝုန် ကျောက်စာနှင့် ပင် အလား တူဟန်ရှိ၏ ; ပျက်စီးနေသည်။ ဤသို့ ပျက်စီး—ချွတ်ယွင်းသော ကျောက်စာများက ကျွန်ုပ်တို့အား ဤသို့သော ဩဝါဒများကို မှာကြားလေ၏၊—မြဲမြံ—ခိုင်ခံ့လျှပြီ ဟူသော အမှတ်ဖြင့် ဤနေရာတွင် ကျောက်တိုင်—ကျောက်ပြား ထားရှိကာမျှနှင့် မကြေနပ်ကြကုန်လင့်ဦး၊ ဤ ကျောက်စာများ မူအတိုင်း ရေးသား၍ ပေ—စက္ကူ စသည်တို့ဖြင့် လည်း အများသိ ဖြစ်အောင်, ထိုသို့ အားဖြင့် အဆက်ဆက် ဆောင်ကြဉ်း—စောင့်ရှောက်အောင် ပြုလုပ်ကြလေကုန်၊ ကျွန်ုပ်တို့ လည်း ဘိဇ္ဇန—နဿနဓမ္မ—ပျက်မျိုး ပျောက်မျိုးတို့သာတည်း——ဟု ဩဝါဒ ညွှန်ကြားလေသည်။

# မဟောသိယာ သိလာ ထမ္ဘလေခါ၊

## ၆၊ မူလပါဠိ၊

ဒေဝါနံ ပိယသ † [ရှ] ဝစနေန သဝတ မဟာ မာတာ ဝတဝိယာ ဧ ဟေတာ ဒုတိယာယေ ဒေဝိယေ ဒါနေ အံဗာဝဍိကာ ဝါ အာလမေ ဝ ဒါနဂ (ဟေ ဝါ ဧ. ဝါ ပိ) အံနေ ကီဆိ ဂနီယတိ တာယေ ဒေဝိယေ သေ [ရှ] နာနိ..............(ဝ)..............ဒုတိယာယေ ဒေဝိယေ တိ၊ တီဝလ မာတု ကာလု ဝါကိယေ။

## ၇၊ မြန်မာဘာသာပြန် ၆၊

### မိဖုရား၏ ကျောင်းတော်ကျောက်စာ။

မင်းတကာတို့ ချစ်ကြည် လေးစားအပ်သော အသောက မင်းကြီး၏ အမိန့်တော် စကားဖြင့် အရပ် အားလုံး၌ အမတ်ကြီးသည် ပြကျင့် လုပ်ဆောင်စေ၏.....................ဤ.....................၂-ယောက်မြောက် မိဖုရား † ကြီး၏ ကုသိုလ်တော်ဖြစ်သော အမွှာ ဝစုကာ အာရာမ်တော် ရင်း, ထိုပြင် တစုံတခု ထို မိဖုရား၏ ရေတွက်အပ်သော.........................................................၂-ယောက်မြောက် မိဖုရားကြီး၏ ——ဟု တီဝလမာတု ကာလုဝါကိယေ။

ဂ၊ မှတ်ချက်၊ နှစ်ယောက်မြောက် မိဖုရားကြီး၏ ကောင်းမှုတော် မှတ်တမ်းကျောက်စာ ဟု သာ သိနားလည်ရ၏။ အကြား အကြား၌ အက္ခရာ အပျက် အစီးများကြောင့် အမှန်သိရန် ခဲယဉ်း၏။

ဂ၊ မှတ်ချက် (က၊) မိဘုရား ဟု ကျွန်ုပ်ကို ရေးသားခဲ့သည်မှာ ဘုရင်၏ ကြင်ယာ ဖြစ်သည်ကို စွဲ၍, ဘုရင်၏ မယားမှာ 'ဘုရား' သာ ဖြစ်ရာသည်၊ ထိုပြင် 'ဘုရား' ဟူသော မြန်မာ စကားမှာ အမြတ် - သုံး ဖြစ်၍, မိရာရား အတွက် သုံးထိုက် သည် ဟု လည်း ယူဆနိုင်သောကြောင့်, ထိုသို့ ရေးသားရိုးပြု၏၊ ထိုမှ တပါး †'မိဒ္ဒရား' ဟူသော ရေးသားလေ့ ပြုကြခြင်း မှာ မည်သည့် အနက်မျှ မရှိ; စင်စစ်ကား 'ဘုရားကြီး' ဆိုသော အရပ်အမည်ကို နာမည်တုမှာ ပြောင်းလဲခြင်းငှါ 'ဗိုလ်ယားကြီး' ဟု အနက်မဲ့ ရေးသား၍, ရယ်စရာ ဖြစ်သကဲ့သို့ ရှိနေလေသည်၊ ထိုစကား မှန်၏; မိဘုရား – ဟု ခေါ်ဝေါ် ပြောဆိုရာ၌ ပဒိုးတုပ်သံ ဘယ်နေရာ၌မျှ မရှိပါချေ၊ မိဘုရား, ရှင် မိဘုရား, မိဘုရားခေါင်းကြီး, စသည် ရှုတ်၍, စမ်းသတ်ကြည့်ကြလေ။

မိဘုရား က 'ဘုရား' ပုဒ်သည် ၎င်း, 'အတုမဲ့ ဘုရား' ဟူရာက 'ဘုရား' ပုဒ်သည် ၎င်း, 'အရှင်ဘုရား, မင်းဘုရား' စသည်က 'ဘုရားပုဒ်သည် ၎င်း,– ‡ဤဘုရားပုဒ်သည် 'ပုရဟား' ဟူ သော ရှေး မြန်မာ စကားဟောင်းမှ လာ၏၊ ဤ အကြောင်းမှာ ရှေး ကျောက်စာများ၌ ထင်ရှား၏၊ ၎င်းပုရဟား–ပုဒ်သည်ကား 'ပူဇာရဟ' ဟူသော မာဂဓဘာသာမှ လာ၏၊ ပူဇော်ထိုက်သူ–အထွတ်–အမြတ်ဟူလို၊ ထို ပုရဟားပုဒ်သည် ပင် ရှမ်းစကား ရှမ်းခေါ် အားဖြင့် 'ဖုရား–ဖရား' ဟု ဖြစ်၏၊ မြန်မာတို့ အခေါ် နှုတ်သံ အားဖြင့် 'ဘုရား — ဘရား'–ဟု ဖြစ်၏၊ နောက်အခါ ရှမ်းသံ အခေါ် တွင်ကျယ်၍, 'ဖရား' အသံ ရှိသကဲ့သို့, ဘရားမှာ မတည်တန့်နိုင်ပဲ, 'ဘြား,' ၎င်းမှ 'ဗျား' သို့ ပြောင်းရွေ့ ရှိ လေသည်၊ ထိုကြောင့် 'ပူဇာရဟ'–ပုဒ်မှ ပုရဟား, ၎င်းမှ 'ဘုရား' ဖြစ်လာကြောင်း ထင်ရှားရကား အတုမဲ့ ဘုရား ဟော ပုဒ်နှင့် အလားတူ ပင် 'မိဘုရား' ဟု ရေးသင့်၏။

---

† မြန်မာစာ၌ ဗ ဃ ဘ ဤ အက္ခရာ ၃ – လုံးတို့၏, အသံနှင့် အသံ ရှုပ်ထွေးနေခြင်းသည် ရှမ်းနှင့် တလိုင်းလူမျိုးတို့၏, ဖတ်ရွတ် ရေးသားမှုး အသံလိုက်သွားခြင်းကြောင့်ဖြစ်၏၊ ထို လူမျိုး တို့ စာများကို တတ်သိလျှင် မြန်မာဘာသာ၌ ထိုသို့ ရှုပ်ထွေးခြင်း အကြောင်းကို မှန်စွာ သိနိုင်၏၊ U, K D.

(၁) ကျွန်ုပ်တို့ ကျောက်စာကို ပညာရှိ အင်္ဂလိပ် ကုန်အောင်စုံ တည်၍ ပြင်ဆင်သော ပညာရှိ ဦးကျော်ထွန်းက ဤ ဆိုလတ္တံ့ အတိုင်း ဆုံးဖြတ် ရေးသား၏။— ကျွန်ုပ် အလိုမှာ ဘုရား ဟူသော စကားသည် ဗုဒ္ဓ—ပုဒ်၌ ပါဝင်သော ဗုဓ — ဓာတ် မှ ဆင်းသက်လာသော စကား ဖြစ်၏၊ အကြောင်းကား ဗုဓကို မြန်မာတို့က အာကာ ရန္တနှင့် ဗုဓာ ဟု ခေါ်၏၊ သဒ္ဒကို သဒ္ဒါ, ရတနကို ရတနာ စသည် ခေါ်သကဲ့သို့ တည်း၊ ရှင်းဗုဓာကို ဝိသဿဇ္ဇနီ ၂-လုံးနှင့်ဗုဓားဟုခေါ်ကြပြန်၏; ၎င်းမှ ရွေ့လျော၍ ဗုရား; ဖုရား, ဘုရား တိုင်အောင် ဖြစ်လာ၏၊ ရှေးအလွန် ကျသော အနော်ရထာ မင်းစော၏ ကျောက်စာ၌ ဗုဒ္ဓ † ဟု ရေးသည်၊ မြန်မာစာ ညွန့်ပေါင်းကျမ်း ပထမအုပ် မျက်နှာ—နှာမ်ပါတ် ၃၆ မှာ ကြည့်ပါ၊ ထိုနောက်မှ ဖုရှာ, ဖုရဟာ စသည်ဖြင့် ကျောက်စာ ကူးသူများ စိတ်ထင်တိုင်း ထုသွားကြဟန်တူသည်၊ ရှမ်းစာ၌ ဗနှင့် ဘ—အက္ခရာများ မရှိကြ, ထို့ကြောင့် ဗုရား, ဘုရားဟု မရေးနိုင်ကြသဖြင့် ပုရား, ဖုရား ဟု ရေးကြရသည်၊ ၎င်းတို့ ရေးဖတ်သံသို့ လိုက်၍ မြန်မာတို့က ဖရား ဟု ပြောဆိုကြရာ, ရ-အက္ခရာ အသံကို ပီပီသသ မဆိုလို၍, ယ—အက္ခရာသံဖြင့် ဖယားဟု ယခုတိုင် ပြောဆိုကြသည်၊ ထို့ကြောင့် မိဘုရား, မိဖယား, မိဖျားဟူ၍ လည်း အမျိုးမျိုး ခေါ်ဆို ရေးသားကြကုန်၏၊ မွန်လူမျိုးတို့ စာ၌ ဗနှင့် ဘ—အက္ခရာ အသံတူ၏; ထို့ကြောင့် ဗုရားမှ ဘုရား ဖြစ်ရသည်၊ ဤကား ဦးကျော်ထွန်း ဆိုချက်တည်း၊ ရှမ်းနှင့် တလိုင်းတို့၏ ဗကို ပ—သံ, ဘ ကို ဖ သံ ရွတ်ဖတ်တတ်ပုံကို ထောက်လျှင် ဗုဓားမှ ဘုရား ဖြစ်ပုံမှာ ယုတ္တိ မရှိ ဟု ထင်၏။

(၈) ဤဆိုလတ္တံ့ကား ကျောက်စာပေါ် ဆိုင်ရာ စကားစု တည်း၊— ဖုရာကြီးလေည်တေည်တစ်မှ၏၊— တောင်ပြုန်း; လှည်းထောက် ဘုရားကျောက်စာ၊ ၂၊ အကဟာ ၂ ဖုရာ တကာ * ဓလွတ်ကျစ်ရှာလေည်၊— ၎င်း ကျောက်စာ၊ ၃၊ အရိမတ်သာ ပေ့သင် တိုင် ချွတ်ဘုရှာ * သိခင်ကိုဝ် သင်ပုတ်လဲ လှူတ်မူဝီယ် * ခလင်၊—ပုဂံမြို့ တိုင်းချွတ် ဘုရား ကျောက်စာ၊ ၄၊ အကမ္ဗာတာ ဖုရာတိုဝ် လာရယ် ချွတ်လည်—ပုဂံ, ရွှေဂူမကြီးဘုရား နားတောင်း တပ် ဘုရားကျောက်စာ၊ ၅၊ သဗ္ဗညု မည်သော * ပုရဟာ * အပလာဝ်၊—ပုဂံ ဂူနီဘုရားကျောက်စာ၊ ၆၊ သံပျင်ရင်ကောင် ဖုရှာ သခင်နှင့် အကွသော—ပုဂံ သံပျင် ရင်ကောင် ဘုရားကျောက်စာ၊ ၇၊ သဗ္ဗညု ဘုရှာဆုကိုဝ်လိုဝ်ချင်ရှယ်—ပုဂံ, ခေမာဝရ

---

† ဗုဒ္ဓ ပုဒ်မှ ပင် ချွတ်ယွင်း၍, ဗုရားဖြစ်နေသည် ဟု ခြေးသော်လျှင် သင့်ရာ၏။
* ဤရှေးမြန်မာ့ပရာမှ ၌ ကျောက်စာတွင် ခလ ၃-လုံးဆင့်လျက် ရှိ၏၊ ထို့အတူသိနှင့်ခင်, ခနှင့်လင်, ရနှင့်ဟ, ဖနှင့်လတို့ လည်း ဆင့်ကြ၏။

ဘုရားကျောက်စာ၊ ၈၊ အမိဖုရှာမြကန်သည်လှူသော၊ — ပုဂံ, မဟာထီးဘုရားကျောက်
စာ၊ ၉၊ ဤ ယ် ဖုရှာ ကျွန်ကို ရောင်စသော် သုကား-ဘုရားရုပ်စောက်မင်စာ၊ ၁၀
သဗ္ဗညုတ ညာန်ပုရှာ ဆုကိုဝ်လို၊—လေးတောင့်ကန်, လေးမျက်နှာ ဘုရား ကျောက်စာ
၁၁၊ ဖုရာ ဩျာ သယ်ာ၊—ပုဂံ, စောမင်းလတ် ဘုရားကျောက်စာနှင့် ပုဂံ, မင်းဝိုင်
ကျောင်း ကျောက်စာ၊ ၁၂၊ သုံးလူလ မိဖုရှာ—မတ္တောည် မည်သော ဖုရှာ သခင်၊—
ပုဂံ, မင်း-သမီး အစောကြွမ်း ကျောက်စာ၊ ၁၃၊ ပုရှာ ဟာဝ်သော နိကယ်ငါပါ ယူ
သောင်လိယ်တောင် တြျာပိဋကတ်၊—ပုဂံ, မင်းဝိုင်းကျောင်း ကျောက်စာ၊ ၁၄
ဖုရှာပစ်စော ဗုဒ္ဓါ တပေအ် သာတိုင် ဓအ် ဝင်ရာ၊—ပုဂံ, မင်းဝိုင်းကျောက်စာ၊ ၁၅
ရှယ်-ပုရှာ ငုယ်-ပုရှာ, ရှယ်ဥတ်, ငုယ်ဥတ်၊—ပုဂံ, ကုသသမုတိ ဘုရားကျောက်စာ
၁၆၊—အထောင် မကာသော အယောင် အဆင်လှသော မိမ္မတိုဝ်ထက် အစိုဝ်ရသော
အမိ ဖုရှာစ်သည်၊—ပုဂံ, ဆုတောင်းပြည့် ဘုရားကျောက်စာ၊— ဤသို့ စသည်ဖြ
ကျောက်စာများကို ကြည့်ရှု၍ ဘုရားနှင့် မိဘုရားပုဒ်များကို စိစစ်သိနိုင်ကြ ကုန်
သတည်း။

မှတ်ချက်၊ ပညာရှိ ဦးကျော်ထွန်း ကြံစည်ချက် အတိုင်း အကယ်၍ ဗုဒ္ဓ
ဗုဓ, ၎င်းမှ ဗုဓား, ဗုရား, ဖုရား, ဘုရား အထိ ပြောင်းရွှေ့လာသည် ဆိုချက် မှန်
လျှင် လည်း ဘုရားနှင့် မိဘုရားမှာ အရေး—အကျွရာ တူသင့်သည် ပင် ဖြစ်၏၊ ဤကဲ့
ဘုရားကို တခြား, မိဘုရားကို တခြား မရေးသားသင့်ချေ၊ ကျွန်ုပ် ကြံချက် အတိုင်း
ဖြစ်မူကား ဆိုဖွယ် မရှိ; တူပြီး ပင် ဖြစ်သင့်၏၊ တနည်းကား-ရှင်ဘုရင်-ပုဒ်မှာ ဘု
မြေဟော ပါဠိ-ပုဒ်; ရင်-အသျှင် ဟော မြန်မာ-ပုဒ်၊ ၎င်း၏ မယား ဖြစ်သော
ကြောင့် မိဘုရား—ဟု ခေါ်ဝေါ် ရေးသား၏-ဟု သော် ကြံစည်သင့်၏။

# ဂုဟာလေခါယော။

## ၇။ မူလပါဠိ။

### ဗရာဗာရ ပဗ္ဗတ ဂုဟာလေခါယော။

က။

လာဇိနာ ပိယဒသိနာ ဒုဝါဒသ (ဝသာဘိ...............ဣဒ...............ံ (ယ) အံ (နိဂေါ) ဟကုဘာ (နာ အာ...............(ဝိ) ကေဟိ။

ခ။

လာဇိနာ ပိယဒသိနာ ဒုဝါဒသ ဝသာ' ဘိသိတေန ဣယံ ကုဘာ ခလတိက-ပဝတသိ ဒိနာ............(ဇိဝိ)ကေဟိ။

ဂ။

လာဇာ ပိယဒသိ ဧ(ကု)န (ဝိ)သတိဝသာ(ဘ)ိသိ(တ)ေ...............................ဥထာတာ........သုပိ....ေ ....ခါ ဝိ....................။

ဣတိ ပုန ခုဒ္ဒက သိလာ ထမ္ဘာ နုသာသနိယော
နိဋ္ဌိတာ။

ဧတ္တာဝတာ ၈
အာယသ္မတာ အာဒိစ္စဝံသေန ထေရေန အနေကာသု
သိလာလေခါသု ဝိစိနိတွာ ယုတ္တတရာယေဝ
လိခိတွာ ဌပိတာ—
အသောကဿ ရညော
သတ္တတ္တိံသာဓိကာ သိလာ နုသာသနိယော
နိဋ္ဌိတာ။

# ၈၊ မြန်မာဘာသာပြန် ၇၊

## လိုဏ်ဂူကျောက်စာများ။

[ဗရာဗာရတောင် လိုဏ်ကျောက်စာများ]

က၊–ပိယဒဿိ မင်းကြီးမြတ်သည် အဘိသိက် သွန်း၍ တဆဲ့နှစ်နှစ်............ ......................ဤ.................(နိဂြောဓ)ဂူလိုဏ်ကို............ ........................................

ခ၊–ပိယဒဿိ မည်သော အသောက မင်းကြီး အဘိသိက် ခံ၍ ၁၂–နှစ် မြောက် အခါ ခလတိက တောင်ရှိ ဤ ဂူလိုဏ်ကို ........................................ ................................ပေးလှူအပ်၏။

ဂ၊–ပိယဒဿိ မည်သော အသောက မင်းကြီး အဘိသိက် ၁၉–နှစ် မြောက်ခါ.............................. .......

မှတ်ချက်၊ ။ပထမကျောက်ချပ်မှာ နိဂြောဓဂူလိုဏ်ပြုလုပ်၍ တစုံတဦးသော အာဇီဝက တက္ကတွန်းကို လှူသော အမှတ်ဖြစ်ဟန်၊ ဒုတိယ ကျောက်ချပ် လည်း နည်းတူဖြစ်ဟန်၊ တတိယ ကျောက်ချပ်ကား အခြေ-အမြစ် ပျောက်၏။

## အာသောကမင်းကြီး၏ ကျင့်စဉ်၊

ဤနေရာ၌ ကျောက်စာပါအတိုင်း အသောကမင်းကြီး၏ ကျင့်စဉ်ကို အချုပ် အားဖြင့် ညွှန်ကြားအပ်၏၊ —— အသောက မင်းကြီးသည် ဘိုးတော်စန္ဒဂုတ်-မင်းကြီး နှင့် ခမည်းတော် ဗိန္ဒုသာရ-မင်းကြီးတို့နှင့် တူတန်သော ဩဇာ-အာဏာ-ဂုဏ်-အရည် ရှိတော်မူလျက် ကလိင်္ဂတိုင်းကို အောင်မြင်ခြင်း, တရားကျ အောင်ရှက်ခြင်းတို့ဖြင့် ရှေးမင်း အပေါင်းကို လွန်ကဲသော ပုဉ်းတာန်း အထူး ကြီးမြတ်သည့် ကောရာဇ်-မင်းကြီးတဦးဖြစ်ခဲ့ပြီ၊ ၎င်းသည် အယူ-ဝါဒရေး၌ မိရိုး-ဖလာသို့ မလိုက်ပဲ့ ဟုတ်-မဟုတ် စဉ်ငုပ် ခွဲ့စား၍ အမှန်ကို သိမြင်တတ်သော ဝိစက္ခဏာဉာဏ်ရှိဖြစ်ခဲ့ပြီ၊ လောကီ လောကုတ် နှယ်စုံ ဂုဏ်အားဖြင့် ဗုဒ္ဓဘာ သာဝင် မင်း-အပေါင်းတို့တွင် အကောင်းဆုံး အစား၌ ပါဝင်ခဲ့ပြီ၊ တိုင်းနေ ပြည်သူတို့ အစီး အပွါး အလို့ငှာ ထိုထို နေရာတိုင်း၌ ခရီးလမ်း ဖောက် လုပ် ခြင်း, တည်းခို—နေနားရာဇရပ်

တိရစ္ဆာန်တို့ အလို့ငှာ ဆေးဝါး-အပြည့်အစုံနှင့် ဆေးရုံ ဆေးဆရာ အစားစား တည်ထား တော်မူခြင်းကို လည်း ပြုလုပ်တော်မူခဲ့ပြီ၊ တိုင်းနေပြည်သူတို့အား ရင် ဖြစ်သားပမာ ကြင်နာ သနားတော်မူခြင်း ရှိ၍ ဤအတင်တော် အလျောက်တော် အရာရှိ အထူး ခန့်ထားတော်မူခဲ့ပြီ။

ဗုဒ္ဓဘာသာ တရားတော်၏ ပွါးစီးရာ ပွါးစီးကြောင်းကို အထူး တလည် လုံးပမ်း တော်မူ၍ နိုင်ငံတော်အတွင်းရှိ ဘာသာဝါဒ-ခြားတို့အား လည်း သင်္ဂဟ- တရားတော်နှင့် အညီ မိမိ ဘာသာဝင်ချင်းကို ကဲ့သို့ပြုမူ ဆက်ဆံခြင်း, ခြိုးမြောက်ခြင်းကို လည်း ပြုစုတော်မူခဲ့ ပြီ၊ မိမိ ကိုယ်တော်တိုင် အားဖြင့် တရားတော်ကို မပြတ်-မလပ် နာယူတော်မူ၍ တိုင်းနေ ပြည်သူတို့ အားလည်း မပြတ်-မလပ် ဟောကြား လိုက်နာ စေခဲ့ပြီ၊ တရားမှန် ကျင့်ကြံရေး အတွက်လည်း ကိုယ်တော်တိုင်အလား တိုင်းသား ပြည်သူတို့အား လိုက်နာ ကျင့်ကြံစေခဲ့ လေပြီ၊ မိမိ စိတ်တွင်ကောင်း၏ ဟု စွဲယူသော ကျင့်ဝတ်တရားကို ဟောကြားသည့် အတိုင်း လည်း အရှည်-အမြင့် အပြန့်-အနံ့ တည်တန့်စေရန် ကျောက်တိုင် ကျောက်ပြား အစားစား တို့ဖြင့် ရေးထု-တည်ထားတော်မူခဲ့ပြီ၊ ဗုဒ္ဓဘာသာ တရားတော်-အရ လောကသူတိုင်း ဘာသာ ဝါဒတိုင်းနှင့် မဆန့်ကျင်ပဲ လိုက်နာသဖြင့်လည်း စီးပွါးများရန် အမှန်ဖြစ်သော အမိ-အဘ ဆရာ-သမား- အသက်-အရွယ် ကြီးရင့်သူ ရဟန်း-ပုဏ္ဏားတို့ စကားကို လိုက်နာစေလျက်, တိုင်းနေပြည်သူတို့ အချင်းချင်းလည်း ဘာသာ ဝါဒ-ခြားအထိ မိမိတို့ မချွတ် ပြုကျင့် သင့် သော ဝတ်-နိဗဒ္ဓ တည်တန့်၍, အချင်းချင်း ညီညွတ်ရန်ကို လည်း အထူး စီမံတော်မူခဲ့ပြီ၊ သား-ငါး တိရစ္ဆာန်တို့အကျိုးငှာ သတ္တဝါ-နေ့ရက် ဌာန ပိုင်းခြား ထားတော်မူ၍, ဘေးမဲ့ ပြုတော်မူသည့်အပြင်, အကျဉ်းထောင်၌ ကျခံရသူတို့အား လည်း ၂၅-ကြိမ်တိုင် လွှတ်တော် မူခဲ့ပြီ၊ ယင်းသို့ စသည်ဖြင့် လူသာမာန်တို့ ပြုနိုင်ခဲ့စွာ, မင်းတကာတို့လည်း ဖြစ်မြောက်နိုင်ခဲ သော ဂုဏ်တို့ကို ကပ္ပါဆုံး၍ ဥဒါန်းမဆုံးပြုလုပ် ဆည်းပူးတော်မူသော ဗုဒ္ဓဘာသာစောင့် ကမ္ဘာ့ကြြဝါဒ-ဆရာကြီးတဦး ဖြစ်ခဲ့လေပြီ။

ဤမျှဖြင့် အရှင်အာဒိစ္စဝံသ မထေရ် ပြန်ဆိုရေးသား အပ်သော အသောကမင်းတြား ၏ ကျောက်စာတော်များ အနက် ဒုတိယကျောက်တိုင်ငယ် စာတော်အခဏ်း ပြီးဆုံးသတည်း။

## ခ၊ အခေါ်း ၆၊

### အသောက မင်းကြားကြီး ညွှန်ကြားသော သဒ္ဓမ္မစိရဋ္ဌိတိကသုတ္တန်များ၊

၁၊ အရိယဝံသ သုတ္တန်, ၂၊ အနာဂတဘယ-က၊ အရညဝိဟာရိသုတ္တန်, ခ၊ ဒဟရာဒိသုတ္တန်, ဂ၊ အဘာဝိတသုတ္တန်, ဃ၊ ကလျာဏကာမိ-သုတ္တန်, ၃၊ မုနိဂါထာ-က၊ မုနိဂါထာ, ခ၊ မုနိသုတ်, ၄၊ မောနေယျသုတ်-က၊ မောနေယျအဋ္ဌုပ္ပတ် ခ၊ နာဠက သုတ်, ၅၊ ဥပတိဿပသိန သုတ်-က၊ သုစိမုခိသုတ္တန်, ခ၊ သမ္ပသာဒနီယသုတ္တန်, ဂ၊ သာရိပုတ္တသုတ်, ၆၊ ရာဟုလောဝါဒသုတ္တန်-များ၏ မြန်မာ ဘာသာပြန်ဆိုချက်။

# ဘာသာပြန်ဆိုနည်း။

ဘာသာတပါးမှ ဘာသာတပါးသို့ ပြန်ဆိုနည်းမှာ မြန်မာ-နိဿယနည်းကဲ့သို့ တပုဒ်ချင်း ယှဉ်ပြိုင် ပြန်ဆိုခြင်း, ယခုဆင်ရှားပြန်ဆိုရိုက်နှိပ် ရှိပြီး မြန်မာပိဋကများကဲ့သို့ မူလဝါကျ သွားရိုး-အတိုင်း ပြန်ဆိုခြင်း, မူလ-ဘာသာ၏ သဒ္ဒဝါကျတွ အဓိပ္ပါယ်မျက်ကို ယူ၍ မိမိဘာသာ ဝါကျသွားနည်း ရှိတိုင်း ပြန်ဆိုခြင်း ဟု ၃-မျိုးရှိ၏၊ ပထမဆုံး နိဿယ ပြန်ဆိုနည်းမှာ ထိုဘာသာရင်း၌ တပုဒ်စီ တပုဒ်စီ အနက်ကို သိမြင်လိုသည့် ဘာသာခြား သင်သူများအတွက် ကျေးဇူးများ၏; အဓိပ္ပါယ် သက်သက် သိ နားလည်လိုသူတို့ အတွက်ကား ခဲ့ခက်သောကြောင့် ကျေးဇူး မများချေ၊ ဒုတိယ မူလ-ဘာသာရင်း ဝါကျသွား အတိုင်း ပြန်ဆိုနည်းမှာ မူလ-ဘာသာရင်းနှင့် မိမိဘာသာကို အချင်းချင်း ဝါကျ အနေ အထိုင် တိုက်ဆိုင်သိမှတ် လိုသောဘာသာ လေ့ကျင့် သင်ကြားသူများ အတွက် ကျေးဇူး များ၏; အဓိပ္ပါယ် သက်သက် သိမှတ်လိုသူတို့ အတွက်ကား မိမိဘာသာ ဝါကျ သုံးစွဲနိုး မမှန်သောကြောင့် အသိဉာဏ်ကို နှောင့်နှေးစေလေသည်; ထို့ပြင်, ထိုမူလရင်း ဘာသာကို လည်း မျက်ပြယ်စေလေသည်၊ နောက်ဆုံး တတိယ အစား ပြန်နည်းမှာ မိမိဟူသော စာဖတ်သူတို့ ဘာသာ သွားရိုး ဝါကျ ဖြစ်၍, ထိုမူလ-ဘာသာ၏ ပုဒ်-အနက်, ဝါကျ အနက်များကို သိ-နားလည်လိုသူတို့အား ကျေးဇူး မများစေကာ, အဓိပ္ပါယ် သက်သက် သိမှတ်လိုသူတို့အား ကျေးဇူး အထူး များလေသည်၊ ထို့ပြင် မူလရင်း ဘာသာတွင် အသိဉာဏ် အသင့်-အတင့် ရှိသူတို့အား လည်း နားလည်ရန် ကူပံ့နိုင်၏၊ ယင်း ၃ မျိုးတွင် ဤ အသောက မင်းတရားကြီး ညွှန်ချက် သဒ္ဓမ္မစိရဋ္ဌိတိက-သုတ္တန် မြန်မာပြန်၌ အဓိပ္ပါယ်ကြည့်ရှု-သိမှတ် နားလည်ရေး သာ လိုအပ်သောကြောင့် တတိယနည်း အတိုင်း မူလ-ဘာသာမှ သဒ္ဒတ္ထ-ဝါကျတ္ထ တို့၏ သံပိဏ္ဍတ္ထဖြစ်သော အဓိပ္ပါယ်များကို သာ မပိုမလို ဆိုလိုရင်း အဓိပ္ပါယ် အတိအကျ ပြန်ဆိုထားအပ်သတည်း။

# ၁၊ အရိယဝံသသုတ်၊

[ စတု ကင်္ဂုတ္တိုရ်—ဥရုဝေလဝဂ်—အဋ္ဌမ ]

အို့ရဟန်းတို့, ဤ လေးမျိုးသော အရိယာတို့ ကျင့်စဉ်တရားတို့သည် အမြတ်-အထွတ်ဟု သိမှတ်အပ်ကုန်၍, ညဉ့်နေ့ ရှည်ကြာစွာက ထင်ရှားလျက် အစဉ်မပျက် ကျင့်ထုံးဟု သိအပ်သည့် ရှေးဟောင်း လက်ရိုး တရားကြီးတို့ ဖြစ်ကုန်ရကား လက်သစ် နောက်ပေါ် တရားတို့နှင့် မရောနှောကုန်; မစပ်ယှက်ဖူးကုန်; မဆက်ဆံအပ်ကုန်; မပူးပေါင်းကုန်လတ္တံ့၊ ရှင် စသည် ငြိမ်းအေးကြောင်း ကျင့်သူ ငြိမ်းအေးသူ, မကောင်းမှုကို ပယ်ထားသူ, ပညာရှိတို့ မစွန့်ပယ် မပစ်လွှင့်အပ်ကုန်၊ အဘယ်-တရားလေးမျိုးတို့နည်း?။

၁၊ ရဟန်းတို့, ဤသာသနာတော်၌ ရဟန်းသည် ရရ-သမျှသော သင်္ကန်းဖြင့် တင်းတိမ်-ရောင့်ရဲ၏; တင်းတိမ်-ရောင့်ရဲခြင်း၏ ဂုဏ်-ကျေးဇူး ကို; ချီးကျူး၏၊ သင်္ကန်းနှင့် စပ်၍ မအပ်စပ် မသင့်တော်သော ရှာမှီးခြင်းကို မပြုလုပ်; သင်္ကန်းမရ၍ လည်း စိတ် မပျက်; ရသော သင်္ကန်းကို လည်း မတွယ်တွန်း မငွဲ့လမ်း, မမက်မောမူ၍, အပြစ်ကို ဆင်ခြင်ကာ† ထွက်မြောက်ရာကို ဉာဏ်မြင် ထားလျက် သုံးဆောင်၏၊ ထိုသို့ ရရ-သမျှသော သင်္ကန်း၌ တင်းတိမ်-ရောင့်ရဲသော အကျင့်ဖြင့် မိမိ လည်း မြှောက်မကြွ, သူတပါးကို လည်း မရှုတ်ချချေ၊ ရဟန်းတို့, ထိုသို့သော အရိယာတို့ ကျင့်စဉ် တရား၌ လုံ့လ ထား၍ မပျင်းရိပဲ ဉာဏ်-သတိ ထင်ရှားသော ရဟန်းကို ရှေးဟောင်း အမြတ်-အထွတ်ဟု သိရှိမှတ်အပ်၍, အရိယာတို့ ကျင့်စဉ်တရား၌ တည်သော ရဟန်းဟု ဆိုအပ်၏။

၂၊ ရဟန်းတို့, ထိုမှ တပါးတုံ့ တစုံတဦးသော ရဟန်းသည် ရရ-သမျှသော ဆွမ်းဖြင့် တင်းတိမ်-ရောင့်ရဲ၏; ရရ သမျှသော ဆွမ်းဖြင့် တင်းတိမ်-ရောင့်ရဲခြင်း၏

---

†မက်မက်မောမော သုံးဆောင်ခြင်းမှ ထွက်မြောက်ကြောင်း ဆင်ခြင်မှုကို သိသည်ဖြစ်၍, ဟု မြန်လို၏၊ U.K.D.

ဂုဏ်ကျေးဇူးကို လည်း ဆိုအံ့; ဆွမ်းနှင့် စပ်၍ မအပ်စပ် မသင့်တော်သော ရှာမှီးခြင်းကို လည်း မပြုလုပ်; ဆွမ်း မရ၍ စိတ် မညှိုးငယ်; ရသောဆွမ်းကို လည်း မတပ်စွန်း, မစွဲ လမ်း, မမက်မောမူ၍ အပြစ်ကို ရှုမြင်ကာ ထွက်မြောက်ရာ ဉာဏ်ပညာ ထားလျက် သုံးဆောင်၏၊ ထိုသို့သော ရရ-သမျှ ဆွမ်း၌ တင်းတိမ်-ရောင့်ရဲခြင်းဖြင့် မိမိ လည်း သွေး မကြွ, သူတပါးကို လည်း မနှိပ်ချချေ၊ ရဟန်းတို့ ထိုသို့သော ဆွမ်းဖြင့် တင်းတိမ်-ရောင့်ရဲခြင်း အကျင့်၌ သတိဉာဏ် ထင်မြင်သော ရဟန်းကို ရှေးဟောင်း ဖြစ်၍ အမြတ် အထွတ် ဟု သိမှတ်အပ်သော အရိယာတို့ကျင့်စဉ် တရား၌ တည်သော ရဟန်း ဟု ဆိုအပ်၏။

၃၊ ရဟန်းတို့ ထိုမှ တပါးအံ့ တစုံ တဦးသော ရဟန်းသည် ရရ-သမျှသော ကျောင်း အိပ်ရာ-နေရာဖြင့် တင်းတိမ်-ရောင့်ရဲ၏; ရရ-သမျှသော ကျောင်း-အိပ်ရာ နေရာ ဖြင့် တင်းတိမ်-ရောင့်ရဲခြင်း၏ ဂုဏ်ကျေးဇူးကို ချီးကျူး၏; ကျောင်း-အိပ်ရာ နေရာနှင့် စပ်၍ မအပ်စပ် မသင့်တော်သော ရှာမှီးခြင်းကို လည်း မပြုလုပ်; ကျောင်းအိပ်ရာ-နေရာ မရ၍ လည်း မသင်းရဲ-မကြောင့်ကြ; ကျောင်း-အိပ်ရာ-နေရာ-ရ၍ လည်း မတပ်စွန်း, မစွဲ လမ်း, မမက်မောမူ၍ အပြစ်ကို ရှုမြင်၍ ထွက်မြောက်ရေး ဉာဏ်ဆင်ခြင်လျက် သုံးဆောင် ၏၊ ထိုသို့သော ရရ-သမျှကျောင်း-အိပ်ရာ-နေရာ၌ တင်းတိမ်-ရောင့်ရဲခြင်းဖြင့် လည်း မိမိ လည်း သွေး မတက်ကြွ, သူတပါးကို လည်း မရှုတ်ချချေ၊ ရဟန်းတို့ ထိုသို့သော ကျောင်း အိပ်ရာ-နေရာဖြင့် တင်းတိမ် ရောင့်ရဲခြင်း အကျင့်၌ လုံ့လထုတ်ခြင်း, မပျင်း-မရိ ဉာဏ် သတိ ရှိသော ရဟန်းကို ရှေးဟောင်းဖြစ်၍ အမြတ်-အထွတ် ဟု သိမှတ်အပ်သော အရိယာ တို့ ကျင့်စဉ်တရား၌ တည်သော ရဟန်း ဟု ဆိုအပ်၏။

၄၊ ရဟန်းတို့ ထိုမှ တပါးတုံ ဤသာသနာတော်၌ တစုံ တဦးသော ရဟန်းသည် ကုသိုလ်စိတ်ကို ပွားစေခြင်း၌ မွေ့လျော်-ပျော်ပိုက်၏; ကိလေသာ တို့ကို စွန့်ပယ်ခြင်း၌ မွေ့လျော်-ပျော်ပိုက်၏; ထိုသို့သော ကုသိုလ် စိတ်ကို ပွားစေရေး၌ မွေ့လျော်-ပျော်ပိုက်ခြင်း, ကိလေသာတို့ကို စွန့်ပယ်ရေး၌ မွေ့လျော်-ပျော်ပိုက်ခြင်း, ဖြင့် မိမိ လည်း စိတ် မတက်ကြွ, သူတပါးကို လည်း မကဲ့ရဲ့ မရှုတ်ချချေ၊ ရဟန်းတို့ ထိုသို့သော ကုသိုလ်စိတ် ပွားစေရေး, ကိလေသာ ပယ်စွန့်ရေး အကျင့်၌ လုံ့လထုတ်၍ မပျင်း-မရိ ဉာဏ်သတိ ရှိသော ရဟန်းကို ရှေးဟောင်းဖြစ်၍ အမြတ်-အထွတ် ဟု သိမှတ်အပ်သော အရိယာတို့ ကျင့်စဉ် တရား၌ တည်သော ရဟန်း ဟု ဆိုအပ်၏။

ရဟန်းတို့၊ ဤလေးပါးသော အရိယာတို့ကျင့်စဉ်တရားတို့သည် အမြတ်—အထွတ် ဟု သိအပ်၍ ညဉ့်အပိုင်း—အခြားများစွာ ရှည်မြင့်ပြီ ဟု မှတ်အပ်လျက် ကျင့်စဉ်ကျင့်ရိုး ဖြစ်ကုန်သည့် တရားဟောင်းတို့တည်း; လက်သစ် တရားတို့နှင့် မရောနှောကုန်; မစပ် ဆက်ပူးကုန်၊ မရောယှက်ထိုက်ကုန် မဆက်ဆံကုန် လတ္တံ့၊ ကိလေသာ ငြိမ်းအေးကြောင်း ကျင့်သူ၊ ငြိမ်းအေးပြီးသူ၊ မကောင်းမှုမှ ပယ်စွန့်ပြီးသူ၊ ပညာရှိ ဟူသမျှ မစွန့်လွှတ်ကြ၊ မပစ်ပယ်ကြကုန်။

ရဟန်းတို့၊ ဤအရိယာတို့ ကျင့်စဉ် တရား လေးပါးတို့နှင့် ပြည့်စုံသော ရဟန်း သည် အရှေ့ အရပ်၌ နေသည်ဖြစ်စေ၊ အနောက် အရပ်၊ တောင် အရပ်၊ မြောက် အရပ်၌ နေသည် ဖြစ်စေ ထိုရဟန်းသည် သာ မမွေ့လျော်ခြင်းကို † ခံနိုင်၏; မမွေ့ လျော်ခြင်းက ထိုရဟန်းကို * မခံနိုင်၊ ရဟန်းတို့၊ အကြောင်းမူကား ထိုရဟန်း သည် သာ ‡ တည်တန့် မြဲခိုင်၍ မမွေ့လျော်ခြင်း၊ မွေ့လျော်ခြင်းကို ပင် ခံနိုင် ရေ ရှိလေသတည်း၊ ဤကား ဝိနည်းဆိုင်ရာ အရိယာတို့ ကျင့်စဉ် ရှေးဟောင်း တရားမြတ်တည်း။

---

† ၁၊ လွှမ်းမိုးနှိပ်စက်နိုင်၏၊ ၂ * မလွှမ်းမိုး မနှိပ်စက်နိုင်၊ ‡ ၃၊ မြဲမြံသော ဝီရိယနှင့် ပြည့်စုံသည်ဖြစ်၍၊—ဟု မြန်လိုက်၊ ၊—U.K.D.

## ၂၊ အနာဂတ ဘယသုတ္တန်များ၊

### က၊ အရညဝိဟာရီသုတ်။

[ ပဉ္စင်္ဂုတ္တိုရ်၊ ယောဓာဇီဝ ဝဂ်—သတ္တမ၊ ]

ရဟန်းတို့၊ တောကျောင်း၌ နေထိုင်သော ရဟန်းသည် မရောက်သေးသော † တရားထူးသို့ ရောက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် ဤအနာဂတ်ဘေး ၅-မျိုးကို ဆင်ခြင်လျက် မမေ့မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်ခြင်းငှာ သင့်လျော်လှ၏။ အဘယ် ဘေး ငါးမျိုးတို့နည်း?။

၁၊ ရဟန်းတို့, ဤသာသနာတော်၌ တောနေရဟန်းသည် ဤသို့ ဆင်ခြင်၏-ငါသည် ကား ယခု အခါ တပါးတည်း သာ တော၌နေ၏၊ တပါးတည်း နေသော ငါ့ကို မြွေသော် ကိုက်ခဲ့ရာ၏; ကင်းလက်မဲသော် ကိုက်ရာ၏; ကင်းခြေများသော် ကိုက်ရာ၏၊ ထိုသို့ မြွေ စသည် ကိုက်၍, သေလွန်ရပါမူ, ငါ့မှာ နတ်ရွာ-မဂ်-ဖိုလ် ၏, အန္တရာယ် ဖြစ်ရာ၏၊ ထို့ကြောင့် ငါသည် မရောက်သေးသော တရားထူးသို့ ရောက်ရန်, မရသေး သော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက်ပြုရန် အားထုတ်အံ့၊—ဤသို့ နှစ်လုံးသွင်း၏၊ ရဟန်းတို့ ဤ ပဌမ ဘေးကို ကြံတွေး ရှုမြင်လျက် မရောက် သေးသော တရားထူးသို့ ရောက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် မမေ့မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်ခြင်းငှာ သင့်မြတ်လှပေ၏။

၂၊ ရဟန်းတို့, ထိုမှ တပါးတုံ့ တောနေ ရဟန်းသည် ဤသို့ စဉ်းစား ဆင် ခြင်၏၊—ငါသည် ကား ယခု-အခါ တပါးတည်း သာ တော၌ နေထိုင်၏; တော၌ တပါးတည်း နေသော ငါသည် ချော်ချော်-တိမ်းယိမ်း၍, သော် လဲကျရာ၏; စားသော ဆွမ်းသော် မကြေ-မကျက် ဖြစ်ရာ၏; သည်းခြေသော် ပျက်ရာ၏; သလိပ်သော်

---

† [illegible] U.K.D.

ပျက်ရာ၏; အသက် ဆုံးရှုံးစေသော လောသင်ခုန်းသော် ဖြစ်ပေါ်ရာ၏၊ ၎င်းများဖြင့် သေလွန်ခဲ့မူ နတ်ရွာ-မင်-ဖိုလ် အန္တရာယ်ဖြစ်ရာ၏၊ ထို့ကြောင့် ငါသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် လုံ့လ စိုက်ထုတ်အံ့၊—— ဤသို့ နှစ်လုံး ထား၏၊ ရဟန်းတို့, ဤ ဒုတိယ အနာဂတ်ဘေးကို ရှုမြင်လျက် တောနေ ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြု ရသေးသော တရားထူးကို မျက်မှောက် ပြုရန် မမေ့-မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်သင့်လှ၏။

၃၊ ရဟန်းတို့, ထိုမှ တပါးတုံ† တောနေ ရဟန်းသည် ဤသို့ စဉ်းစား ဆင်ခြင်၏၊—ငါသည် ကား ယခု-အခါ တော၌ တပါးတည်း နေထိုင်၏; တော၌ တပါး တည်း နေထိုင်သော ငါသည် ခြင်္သေ့နှင့် သော် ၎င်း, ကျားနှင့် သော် ၎င်း, သစ်နှင့် သော် ၎င်း, ဝံနှင့် သော် ၎င်း, တောင်းနှင့် သော် ၎င်း,— ဤ သားရဲကိုနှင့် တွေ့ဆုံမိရာ၏၊ ၎င်းတို့သည် ငါ့ကို ကိုက်သတ်ကုန်ရာ၏၊ ၎င်းများဖြင့် သေလွန်ခဲ့မူ နတ်ရွာ—မင်—ဖိုလ် အန္တရာယ် ဖြစ်ရာ၏၊ ထို့ကြောင့်ငါသည် မရောက်သေးသော တရားထူးသို့ ရောက် ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူး ကို မျက်မှောက် ပြုရန် အားထုတ်အံ့၊—ဤသို့ နှစ်လုံး ထား၏၊ ရဟန်းတို့, ဤ တတိယ အနာဂတ် ဘေးကို ဆင်ခြင်လျက် တောနေ ရဟန်းသည် မရောက် သေးသော တရား ထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် မမေ့-မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင် သင့်လှ၏။

၄၊ ရဟန်းတို့, ထိုမှ တပါးတုံ တောနေ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊— ငါသည်ကား ယခု—အခါ တော၌ တပါးတည်း နေထိုင်၏; တော၌ တပါးတည်း နေထိုင်သော ငါသည် ခိုးမှု ပြုလုပ်ပြီး, မပြုလုပ်သေးသော ခိုးသူတို့နှင့် တွေ့ဆုံမိရာ၏၊ ၎င်းတို့သည် ငါ့ကို သတ်ဖြတ် ကုန်ရာ၏။ ၎င်းဖြင့် ငါ သေလွန်ခဲ့မူ နတ်ရွာ—မင်—ဖိုလ် အန္တရာယ် ဖြစ်ရာ၏၊ ထို့ကြောင့် ငါသည် မရောက်သေးသော တရားထူးသို့ ရောက်-

---

† ဤ—တုံ ဟူသော မြန်မာ နိပါတ် ပုဒ်မှာ 'တုန်' ဟူသော မွန်ဘာသာ ပုဒ်ရင်းဖြစ် သောကြောင့် မူလ ရင်းအတိုင်း 'န်' သတ် နှင့် ရှိသင့်၏။ U. K. D.

ဆိုက်ရန်, မရသေးသောတရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် လုံ့လစိုက်အံ့—ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့ ဤစတုတ္ထ အနာဂတ် ဘေးကို ရှုမြင်လျက် တောနေ ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်—ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရရန် မမေ့—မလျော့ အားပါး စိုက်ထုတ် စွန့်စား နေထိုင်သင့်လှ၏။

၅၊ ရဟန်းတို့, ထိုမှ တပါးတုံ့ တောနေ ရဟန်းသည် ဤသို့ ဆင်ခြင်၏—ငါသည် ကား ယခု—အခါ တော၌ တပါးတည်း နေထိုင်၏, ထိုတော၌ ဆိုးသွမ်း ကြမ်းကြုတ်သော တိရစ္ဆာန်, သူခိုးသူဖက်တို့ ရှိကုန်၏၊ ၎င်းတို့သည် ငါ့ကို သတ်ဖြတ် ကုန်ရာ၏။ ၎င်းဖြင့် ငါ သေလွန်ခဲ့မူ နတ်ရွာ မဂ်-ဖိုလ်-အန္တရာယ် ဖြစ်ရာ၏၊ ထို့ကြောင့် ငါသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရရန် အားပါး စိုက်ထုတ်အံ့၊— ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့, ဤ ပဉ္စမ အနာဂတ် ဘေးကို ရှုမြင်လျက် တောနေ ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန် မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် မမေ့-မလျော့ လုံ့လစိုက်ထုတ် စွန့်စား နေထိုင် သင့်လှ၏။

ရဟန်းတို့, ဤ ငါးမျိုးသော အနာဂတ် ဘေးတို့ကို ရှုမြင်လျက် တောနေ ရဟန်းသည် မရောက် သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရှိရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရရန် မမေ့-မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင် သင့်လှ၏။

## ခ၊ ဒဟရာဒိသုတ်၊

[ပဉ္စင်္ဂုတ္တိုရ်-ယောဓာဇီဝဝဂ်—အဋ္ဌမ]

ရဟန်းတို့, ဤ အနာဂတ် ဘေး ငါးမျိုးတို့ကို ရှုဆင်ခြင်လျက် တစုံ—တဦးသော ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားကို မျက်မှောက် ပြုရရန်, မမေ့-မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်သင့်၏၊ အဘယ် ၅-မျိုးတို့နည်း ?။

၁၊ ရဟန်းတို့, ဤ သာသနာတော်၌ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊—ငါသည် ကား ယခု အခါ ပျိုမြစ် နုနယ်၍, ဆံပင် မည်းနက်၏; ကောင်းသော အရွယ် ပထမ အခါနှင့် ပြည့်စုံ၏၊ အိုမင်း ရင့်ယော်သော အခါမည်သည် ရှိ၏; အိုမင်း ရင့်ယော် ခြင်း နှိပ်စက်သော်, ဘုရားရှင် အဆုံး—အမတော်ကို နှစ်သုံး မသွင်းနိုင်; တော—တောင် အရပ်, လူနှင့် မနီးသောအရပ် ကျောင်းကန်တို့၌ မနေထိုင်နိုင်၊ ထိုသို့ မလိုလားအပ်, မနှစ်ခြိုက်အပ်သော တရား ငါ့အား မဆိုက်ရောက်သေးမီ, စောစီးစွာက ပင် မရောက် သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် လုံ့လ စိုက်ထုတ်အံ့၊ ထိုသို့သော တရားထူးနှင့် ပြည့်စုံ၍, အိုမင်း ရင့်ယော်သော ငါသည် ချမ်းသာစွာ နေထိုင်ရပေအံ့၊—ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့, ဤ ပထမ အနာဂတ် ဘေးကို ကောင်း စွာ ရှုမြင်လျက်, ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရ သေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက် မှောက် ပြုရရန် မမေ့--မလျော့ အားပါး စိုက်ထုတ် စွန့်စားနေထိုင်သင့်၏။

၂၊ ရဟန်းတို့, ထိုမှ တပါးတုံ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊—ငါသည်ကား ယခု အခါ အနာ နည်းပါး၏; ရောဂါ နည်းပါး၏, မအေးလွန်း, မပူလွန်းမူ၍,

ကမ္မဋ္ဌာန်း တရား အားထုတ်ခြင်းငှာ ခံ့ရှိ., အညီ-အမျှ ကြေကျက်စေနိုင်သော ဝမ်းမီး နှင့်ပြည့်စုံ၏၊ ရောဂါအနာ တွေ့ကြုံရမည့် အခါ မည်သည်ရှိ၏၊ အနာ ရောဂါ တွေ့ကြုံ-ဖိစီးသော်, ဘုရားရှင်၏ အဆုံး—အမကို နှစ်လုံး မသွင်းနိုင်; တော—တောင် အရပ်, လူနှင့် မနီးသော အရပ် ကျောင်းကန်တို့၌ မနေထိုင်နိုင်၊ ထိုသို့သော မလိုအပ်, မနှစ်သက်အပ်, မနှစ်ခြိုက်အပ်သော ရောဂါဆိုး မဖိစီးမီ, စောစီးစွာကပင် မရောက် သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရရန် လုံ့လစိုက်အံ့၊ ထိုသို့ သော တရားနှင့် ပြည့်စုံသော ငါသည် ရောဂါ ဖိစီးသော်လည်း ချမ်းသာစွာ သာ နေ ထိုင်ရအံ့၊—ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့, ဤ ဒုတိယ အနာဂတ် ဘေးကို ကောင်းစွာ ရှုဆင်ခြင်လျက်, ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရ သေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက် မှောက် ပြုရန် မမေ့—မလျော့ အားထုတ် စွန့်စား နေထိုင်သင့်၏။

၃၊ ရဟန်းတို့, ထိုမှ တပါးတုံ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊—ယခု အခါ ကား ဝပြော၏, စပါး ကောင်းမွန်၏, ဆွမ်း ရလွယ်၏, ဆွမ်းခံ မျှတရန် လွယ်ကူ၏၊ ငတ်မွတ်၍ စပါး—ဆန် ခေါင်းပါးသဖြင့် ဆွမ်းရခဲ၍ ဆွမ်းခံ မျှတရန် မလွယ်ကူ သော အခါ မည်သည် ရှိ၏၊ ငတ်မွတ် ခေါင်းပါးသော အခါ လူတို့သည် ဝပြောရာ အရပ်သို့ သွားရောက်ကြကုန်၏၊ ထိုသို့သော နေရာ၌ အပေါင်း အဖော်နှင့် ဆုံစည်း- စပ်ဖက် နေထိုင်ရ၏, ရောပြွမ်း၍ နေထိုင်ရ၏၊ လူတို့နှင့် လုံးထွေး ပူးကပ်၍ နေရ သော်, ဘုရားရှင့် အဆုံး—အမကို နှစ်လုံး မသွင်းနိုင်; တော—တောင်; အရပ်, လူ မနီးသော အရပ် ကျောင်းကန်၌ မနေထိုင်နိုင်၊ ထိုသို့ အလို မရှိအပ်, မနှစ်သက်အပ်, မနှစ်မြို့အပ်သော အခွင့်မျိုး ငါ့အား မရောက်ဆိုက်မီ, တင်ကြို၍ သာ မရောက်သေး သော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက် မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် အားထုတ်အံ့၊ ထိုသို့ သော တရားနှင့် ပြည့်စုံသော ငါသည် ငတ်မွတ် ခေါင်းပါးသော်လည်း ချမ်းမြေ့ စွာ သာ နေထိုင်ရအံ့၊—ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့, ဤတတိယ အနာဂတ် ဘေးကို ကောင်းစွာ ရှုမြင် လျက်, ရဟန်းသည် မရောက်ဆိုက် သေးသော တရား ထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေး သော တရားထူးကို မျက်မှောက် ပြုရန် မမေ့—မလျော့ အားပါး စိုက်ထုတ် စွန့်စား နေထိုင် သင့်လှ၏။

၄၊ ရဟန်းတို့, ထိုမှ တပါးတို့ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊— ယခု အခါ
ကား လူတို့သည် ညီညွတ်ကုန်၏, ဝမ်းမြောက်–ရွှင်ပျကြ၏, ငြင်းခုံ ခိုက်ရန် မဖြစ်
ကြ, နို့ရည်နှင့် ရေ ရောစပ်သကဲ့သို့ ဖြစ်ကုန်၏; အချင်းချင်း ချစ်ခင်သော မျက်စိဖြင့်
ကြည့်ရှု–နေထိုင်ကုန်၏၊ တောပုန်း ဒါးမြ ထကြွသော အခါ, † ဇနပိုဒ် အလုံးကို လက်
နက် သင်ဓုန်း တက်ရောက်သော အခါ မည်သည် ဖြစ်တတ်၏၊ ဘေးဥပဒ် ဆိုက်
ရောက်သော်, လူတို့သည် ဘေး ကင်းရာသို့ သွားရောက် နေထိုင်ကြ ကုန်၏၊ ထိုအရပ်၌
ရောယှက်–ပေါင်းသင်း၍ သာ နေရ၏, နှိုးနှော–ပြွမ်းတီး၍ သာ နေ ရ၏၊ ဆက်ဆံ–
ရောပြွမ်း နေရသော်, ဘုရားရှင်၏ အဆုံး–အမတော်ကို နှစ်လုံး မသွင်းနိုင်; တော–
တောင် အရပ်, လူတို့မှ ဆိတ်ငြိမ်ရာ အရပ် ကျောင်းကန်ဘို့၌ နေထိုင်ရန် မလွယ်ကူချေ၊
ထိုသို့မလိုလားအပ်, မနှစ်သက်အပ်, မနှစ်ခြိုက်အပ်သော သဘောမျိုး မဖြစ်ပေါ်မီ, လက်ဦး
ကပင် တင်ကြို၍ မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရား
ထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက်ပြုရန် အားပါး
စိုက်ထုတ်ပေးအံ့၊ ထိုသို့သော တရားနှင့်ပြည့်စုံသော ငါသည် ဘေး–ဥပဒ် ရောက်သောအခါ
၌ ချမ်းသာစွာနေထိုင်ရပေအံ့၊–ဤသို့ ဆင်ခြင်၏၊ ရဟန်းတို့, ဤစတုတ္ထ အနာဂတ်ဘေးကို
ကောင်းစွာရှုမြင်လျက်, ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်,
မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက်မပြုရသေးသော တရားထူးကို မျက်
မှောက်ပြုရန် မမေ့–မလျော့ လုံ့လစိုက်ထုတ် စွန့်စား နေထိုင် သင့်လှ၏။

၅၊ ရဟန်းတို့, ထိုမှ တပါးတုံ ရဟန်းသည် ဤသို့ ဆင်ခြင်၏၊–ယခု အခါကား
သံဃာတော်သည် ညီညွတ်သင့်မျှ၏, ဝမ်းမြောက်–ရွှင်ပျ၏, ငြင်းခုံ ခိုက်ရန်မရှိ, ရည်ညွှန်း
ချက် တူမျှ၏, ချမ်းချမ်းသာသာ နေထိုင်၏၊ သံဃာအချင်းချင်း ကွဲပြား ခြားနားသော
အခါ မည်သည် ရှိသေး၏၊ သံဃာ ကွဲပြား–ခြားနားခဲ့သော်, ဘုရားရှင်၏ အဆုံး–အမကို
နှစ်လုံးမသွင်းနိုင်; တောတောင် အရပ်, လူတို့မှ ဆိတ်ငြိမ်ဝေးကွာသော ကျောင်းကန်တို့၌
နေထိုင်ရန်မလွယ်ကူ၊ ထိုသို့ မလိုလားအပ်, မနှစ်သက်အပ်, မနှစ်ခြိုက်အပ်သော အခါဆိုး
ငါအား မကပ်ရောက်မီ, လက်မှန်ကတင်ကြို၍ မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်
ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို
မျက်မှောက်ပြုရန် အားစိုက်ကြိုးပမ်းအံ့၊ ထိုသို့သောတရားနှင့် ပြည့်စုံသောငါသည် သံဃာ
ကွဲပြား–ခြားနားခဲ့ သော်လည်း ချမ်းသာစွာနေထိုင်ရအံ့၊– ဤသို့ဆင်ခြင်၏၊ ရဟန်းတို့,ဤ

† ဇနပိုဒ်သူ အလုံးတို့ လှည်းယာဉ် တည်းဟူသော စက်သို့ တက်၍ လှည့်လည် ပြေးသွားကြ
ရသောအခါ–ဟု မြန်လို၏၊ U.K.D.

ပဌမ အနာဂတ်ဘေးကို ကောင်းစွာ ဆင်ခြင် ရှုကြည့်လျက်, ရဟန်းသည် မရောက်သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရောက်ရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရရန် မမေ့-မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်သင့်လှ၏။

ရဟန်းတို့, ဤ အနာဂတ် ဘေးဆိုး ငါးမျိုးတို့ကို ကောင်းစွာ ရှုမြင်သော ရဟန်းသည် မရောက်သေးသော တရားထူးသို့ ဆိုက်ရောက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက်ပြုရန် မမေ့ — မလျော့ လုံ့လ စိုက်ထုတ် စွန့်စား နေထိုင်သင့်လှ၏။

# ဂ။ အဘာဝိတသုတ်။

[ပဉ္စင်္ဂုတ္တိုရ်-ယောဓာဇီဝ-ဝဂ်-နဝမ]

ရဟန်းတို့, ဤ အနာဂတ် ဘေး ၅-မျိုးတို့သည်ကား ယခု မဖြစ်ပေါ်သေးကုန်, နောင် ဖြစ်ပေါ်ကုန်လတ္တံ့။ သင်တို့သည် ထိုဘေးတို့ကို †သိမြင် နိုးကြားကုန်၍, ပယ်လှန်ခြင်းငှာ အားထုတ်အပ်၏။ အဘယ် ဘေး ၅-မျိုးတို့နည်း။?

၁။ ရဟန်းတို့, အနာဂတ် အခါ၌ ကိုယ်ကို မပွားစေ, သီလကို မပွားစေသော ရဟန်းတို့ ဖြစ်ပေါ်ကုန်လတ္တံ့။ ထိုရဟန်းတို့သည် ကိုယ်-သီလ-စိတ်-ပညာကို မပွားစေကုန်ပဲ, တပါးသူတို့ကို ရဟန်းပြု ပေးကုန်လတ္တံ့။ ထိုဥပဇ္ဈာယ်ရဟန်းတို့ လည်း လွန်မြောက်သော သီလ-သမာဓိ-ပညာ၌ မဆုံးမနိုင်ကုန်လတ္တံ့။ ထို့ကြောင့် ထိုတပည့် ရဟန်းတို့ လည်း ကိုယ်-သီလ-စိတ်-ပညာကို မပွားစေသူတို့သာ ဖြစ်ကုန်လတ္တံ့။ ထို ကိုယ်-သီလ-စိတ်-ပညာကို မပွားစေသော ရဟန်းတို့က လည်း အခြား တပါးသူတို့ကို ရဟန်း ပြုလုပ် ပေးကြ ပြန်ကုန်လတ္တံ့။ ထို ဒုတိယ ဥပဇ္ဈာယ် ရဟန်းတို့ လည်း လွန်မြတ်သော သီလ-သမာဓိ-ပညာတို့၌ မဆုံးမနိုင်ကုန်ပဲ, ကိုယ်-သီလ စိတ်-ပညာကို မပွားစေနိုင် ဖြစ်ရကုန်လတ္တံ့။ ရဟန်းတို့, ဤသို့လျှင်* သမထ-ဝိပဿနာ တရား ပျက်စီးသောကြောင့် ကိလေသာကို ရှုန့်ပယ်ခြင်း-ပဟာန-ဝိနည်း ပျက်စီး၏၊ စောင့်ရှောက် ထိန်းသိမ်းခြင်း သံဝရ-ဝိနည်း ပျက်စီးသောကြောင့် သမထ-ဝိပဿနာ တရား ပျက်စီး၏၊ ရဟန်းတို့, ဤ ပထမ အနာဂတ် ဘေးသည်ကား ယခု မဖြစ်ပေါ်သေး, နောင် ဖြစ်ပေါ်လတ္တံ့။ သင်တို့သည် ထိုဘေးကို သိရှိ နိုးကြားကုန်၍, ပယ်လှန်ခြင်းငှာ လုံ့လ စိုက်အပ်၏။

၂။ ရဟန်းတို့, ထိုမှ တပါးတုံ့ နောင် အခါ ကိုယ်-သီလ-စိတ်-ပညာကို မပွားစေကုန်သော ရဟန်းတို့ ဖြစ်ပေါ်ကုန်လတ္တံ့။ ထိုရဟန်းတို့သည် ကိုယ်-သီလ

---

† သိအပ်ကုန်၏, သိပြီး၍လည်း-ဟု U. K. D. မြန်လိုက်၏။

* သမထ ဟူသည် တခုတခုသောအာရုံ၌ စိတ်တည်ငြိမ်စေ၍, ရာဂမှ လွတ်ငြိမ်းရန် စိတ်ကို ပွားစေခြင်းတည်း၊ ဝိပဿနာ ဟူသည် ရာဂ စသော ကိလေသာ လုံးလုံး ကင်းလွတ်ရန် ရှုဆင်ခြင်ခြင်းတည်း။

စိတ်—ပညာကို မပွားစေကုန်ပဲ၊ တပါးသော ရဟန်းတို့ကို နိသျည်း—တည်မှီရာ ပေးကုန်လတ္တံ့။ ထို နိသျည်း ဆရာတို့ လည်း လွန်ကဲသော သီလ—သမာဓိ—ပညာ၌မဆုံးမနိုင်ကုန်လတ္တံ့။ ထို့ကြောင့်ရင်း တပည့်တို့ လည်း ကိုယ်-သီလ-စိတ်-ပညာကို မပွား စေကုန်လတ္တံ့။ ၎င်းတို့သည် ကိုယ်-သီလ-စိတ်-ပညာကို မပွားစေကုန်ပဲ၊ အခြားတပါးသော သူတို့အား နိသျည်း—တည်မှီရာကို ပေးကုန်လတ္တံ့။ ထို ဒုတိယ နိသျည်း ဆရာ ရဟန်းတို့ လည်း လွန်ကဲသော သီလ-သမာဓိ—ပညာ၌ မဆုံးမ နိုင်ကုန်၍၊ ၎င်း၏ တပည့်တို့ လည်း ကိုယ်—သီလ—စိတ်—ပညာကို မပွားစေသူတို့ သာ ဖြစ်ကုန်လတ္တံ့။ ရဟန်းတို့၊ ဤသို့လျှင် သမထ—ဝိပဿနာ တရား ပျက်စီး သောကြောင့် ကိလေသာ ပယ်ရှင်းခြင်း—ပဟာန—ဝိနည်း ပျက်စီး၏၊ စောင့်စည်း ထိန်းသိမ်းခြင်း ဝိနည်းပျက်စီးသော ကြောင့် သမထ—ဝိပဿနာ တရား ပျက်စီး၏၊ ရဟန်းတို့၊ ဤ ဒုတိယ အနာဂတ် ဘေးသည် ယခု မဖြစ်ပေသေး၊ နောင် ဖြစ်ပေလတ္တံ့။ သင်တို့သည် ထိုဘေးကို သိ၍ နိုးကြားကုန်၍၊ ပယ်လှန်ခြင်းငှာ လုံ့လ စိုက်ထုတ်အပ်၏။

၃။ ရဟန်းတို့၊ ထိုမှ တပါးတုံ အနာဂတ် အခါ၌ ကိုယ်—သီလ-စိတ်—ပညာကို မပွားစေကုန်သော ရဟန်းတို့ ဖြစ်ပေကုန်လတ္တံ့။ ထို ရဟန်းတို့သည် ကိုယ်—သီလ—စိတ်—ပညာကို မပွား စေကုန်ပဲ၊ လွန်ကဲ မြင့်မြတ်သော သီလ-သမာဓိ-ပညာ ဆိုင်ရာ တရားစကား၊ ရှင်ကြည် နှစ်သက် နိုင်လောက်သော တရားစကားကို ပြောဆိုကုန်သော်၊ အပြစ် ရှာဖွေခြင်း၊ ချုပ်ချယ်ခွင့် ရှာဆင်ခြင်ခြင်း စသော မည်းဖြစ်သော အကုသိုလ် တရားသို့ သက်ရောက်ကုန်၍၊ မသိမြင်နိုင်ကုန်လတ္တံ့။ ရဟန်းတို့၊ ဤသို့လျှင် သမထ-ဝိပဿနာ တရား ပျက်စီးသောကြောင့် ကိလေသာကို ရှင်းပယ်ခြင်း ပဟာန—ဝိနည်း တရား ပျက်စီးသည်၊ စောင့်ထိန်းခြင်း သံဝရ-ဝိနည်းပျက်စီးသောကြောင့် သမထ-ဝိပဿနာ တရား ပျက်စီးသည်၊ ရဟန်းတို့၊ ဤ တတိယ အနာဂတ် ဘေးသည် ယခု မဖြစ်ပေသေး၊ နောင် ဖြစ်ပေလတ္တံ့။ သင်တို့သည် ၎င်းဘေးကို သိ၍ နိုးကြားကုန်၍၊ ပယ်လှန်ခြင်းငှာ လုံ့လ စိုက်ထုတ်အပ်၏။

၄။ ရဟန်းတို့၊ ထိုမှ တပါးတုံ အနာဂတ် အခါ၌ ကိုယ်-သီလ-စိတ်-ပညာကို မပွားစေကုန်သော ရဟန်းတို့ ဖြစ်ပေကုန်လတ္တံ့။ ကိုယ်—သီလ—စိတ်—ပညာကို

မပွားစေကုန်သော ထိုရဟန်းတို့သည် ဘုရား ဟောမြွက်တော်မူအပ်သည့် သိမ်မွေ့ နက်နဲသော အနက်—အဓိပ္ပါယ် ရှိကုန်သည့် † လောကုတ္တရာရေး ဖြစ်သဖြင့် လောကမှ သုညဖြစ်ခြင်းနှင့် စပ်ဆိုင်သော သုတ္တန်တို့ကို ဟောပြောကုန်လျှင်, မနာယူကုန် လတ္တံ့, နား မထောင်ကုန်လတ္တံ့, သိမြင်လိုစိတ် မဖြစ်စေကုန် လတ္တံ့။ ထို တရားတို့ကိုလည်း သင်ယူအပ်ကုန်သည်, လေ့ကျင့်အပ်ကုန်သည် ဟု မအောက်မေ့ကုန်လတ္တံ့။ စင်စစ်ကား, ထိုရဟန်းတို့သည် ကဗျာသည်တို့ ပြုလုပ်အပ်သည့် ကဗျာဖွဲ့ရာ ဆန်းကြယ်စွာသော အက္ခရာ—ပုဒ်·ဗျည်း ရှိသဖြင့် တရားလွတ် ထိုထိုတို့ တပည့်များ ဖွဲ့ကုံးအပ်သော အဖွဲ့ ကဗျာတို့ကို သီဆိုသော် သာ နာယူကုန်လတ္တံ့, နားထောင်ကုန်လတ္တံ့, သိလိုစိတ် ဖြစ်ကုန်လတ္တံ့။ ထိုတရားတို့ကို သာ သင်ယူအပ်ကုန်သည်, လေ့ကျက်အပ်ကုန်သည် ဟု ထင်မှတ်ကုန်လတ္တံ့။ ရဟန်းတို့, ဤသို့လျှင် သဒ္ဓမ္မ—ဝိပဿနာ တရား ပျက်စီးသောကြောင့် ကိလေသာ ပယ်ရှင်းခြင်း—ပဟာန - ဝိနည်း ပျက်စီး၏; စောင့်စည်းခြင်း သံဝရ - ပျက်စီးသောကြောင့် သဒ္ဓမ္မ—ဝိပဿနာ တရား ပျက်စီး၏၊ ရဟန်းတို့, ဤ စတုတ္ထ အနာဂတ် ဘေးသည် ယခု မဖြစ်ပေါ်သေး, နောင် ဖြစ်ပေါ်လတ္တံ့။ သင်တို့သည် ထိုဘေးဘျမ်းကို သိရှိကုန်၍, ပယ်လှန်ခြင်းငှာ လုံ့လ စိုက်ထုတ်အပ်၏။

၅။ ရဟန်းတို့, ထိုမှ တပါးတုံ့ အနာဂတ် အခါ၌ ကိုယ်—သီလ—စိတ်—ပညာကို မပွားစေသော ရဟန်းတို့ ဖြစ်ပေါ်ကုန်လတ္တံ့။ ထိုရဟန်းတို့သည် ကိုယ်—သီလ—စိတ်—ပညာကို မပွားစေကုန်မူ၍, မထေရ်ကျော် ဆရာတော်ကြီးတို့က လာဘ်များခြင်းငှာ ကျင့်ကြကုန်သည်, သိက္ခာ လျော့လျော့ ကျင့်ကြကုန်သည်, အောက် အဖို့သို့ သက်ဝင်ကြောင်း, ဖြစ်သော နီဝရဏတရား, ငါးပါးလျှင် ရှေ့သွားရှိကြကုန်သည်, ဆိတ်ငြိမ်ခြင်း ဝိဝေက သုံးပါး တရားကျင့်ရေးကို စွန့်လွှတ်ကြ ကုန်သည် ဖြစ်ကုန်လတ္တံ့။ မရောက် သေးသော တရားထူးသို့ ရောက်ဆိုက်ရန်, မရသေးသော တရားထူးကို ရရန်, မျက်မှောက် မပြုရသေးသော တရားထူးကို မျက်မှောက် ပြုရန် အားအင် မစိုက်ထုတ်ကုန်လတ္တံ့။— ရဟန်းတို့, ဤသို့လျှင် သဒ္ဓမ္မ—ဝိပဿနာ တရား ပျက်စီးသောကြောင့် ကိလေသာ စွန့်ပယ်ခြင်း—ပဟာန ဝိနည်း ပျက်စီး၏ စောင့်စည်းခြင်း သံဝရ ဝိနည်း ပျက်စီးသောကြောင့် သဒ္ဓမ္မ—ဝိပဿနာ တရား ပျက်စီး၏၊ ရဟန်းတို့, ဤပဉ္စမ

---

† လောကုတ္တရာရေး ဟူသည် မဂ်—ဖိုလ်—နိဗ္ဗာန် ကိစ္စတည်း။ လောကမှ သုညသော ဟူသည် တကျွာအာရုံဖြစ်သော ပုဂ္ဂိုလ် ဇီဝ-မိန်းမ—ယောကျ်ား ဟူသော အမှတ်မှ ကင်းစေရန် ခန္ဓာ—အာယတန, ဓါတ်စသည် တရားသဘောများကို ပြဆိုခြင်းတည်း။

အနာဂတ်ဘေးသည် ယခု မဖြစ်ပေါ်သေး၊ နောင်ဖြစ်ပေါ်လတ္တံ့၊ သင်တို့သည် ထိုဘေးဘျမ်းကို သိရှိနိုးကြားကုန်၍ ပယ်လှန်ခြင်းငှာ လုံ့လစိုက်ထုတ်အပ်၏။

ရဟန်းတို့၊ ဤ အနာဂတ် ဘေး ၅-မျိုးတို့သည် ယခု မဖြစ်ပေါ်ကုန်သေး၊ နောင် ဖြစ်ပေါ်ကုန်လတ္တံ့၊ သင်တို့သည် ထိုဘေးတို့ကို သိရှိ၍ ပယ်လှန်ခြင်းငှာ—လုံ့လ စိုက် ထုတ် အပ်၏။

မှတ်ချက်၊ ဤ အနာဂတ်ဘေး ၅-မျိုးတွင် စတုတ္ထ ဘေးမှာ၊ 'နက်နဲသော အဓိပ္ပါယ်ရှိ ဘုရားဟော တရားများကို မနာလိုကြပဲ၊ တိတ္ထိ တပည့်တို့ရေးဖွဲ့စီကုံးသည့် ကဗျာထုံး စည်းကျ အဓိပ္ပါယ် တိမ်လှသော အဖွဲ့ကဗျာများကို သာ နာလိုကုန်လတ္တံ့၊ ၎င်းဘေးမှာ ယခု မဖြစ်ပေါ်သေး၊ နောင်ဖြစ်ပေါ်လတ္တံ့၊ ၎င်းတို့ကို တင်ကူး သိမြင်၍ ပယ်လှန်ခြင်းငှာ အားစိုက်ရမည်' ဟု ဘုရား အမိန့်တော် ပါ၏၊ မည်သို့အားစိုက်မည်နည်း? ထိုသို့ အသား မရှိသော တိတ္ထိတို့ အဖွဲ့မျိုးကို စိတ် မသွားပဲ၊ မြတ်စွာဘုရား၏ တရားတော်သို့သာ စိတ်သွားအောင် အားစိုက်ရန်ဖြစ်၏၊ ၎င်းမှာ မြတ်စွာဘုရား၏ တရားတော်ကိုသာ ကြည့်ရှုကြ ဟု တိုက်တွန်းကာမျှနှင့် မဖြစ်၊ ထို တရားတော်များကို လူတို့ ဖတ်ရှုချင်အောင် ပြုပြင်ပေးမှ လည်း ဖြစ်မည်၊ ထိုကြောင့် နက်နဲသော အဓိပ္ပါယ် ရှိသော မြတ်စွာဘုရား တရားတော်တို့ကို နက်နဲသော အဓိပ္ပါယ်နှင့် တကွ ဆန်းကျ ဂိုဏ်းညီ ကဗျာသည်တို့ ပင် လိုက်နာရ လောက်သည့် ကဗျာ အဖွဲ့များနှင့် ပြုပြင်ပေးရ ပေမည်၊ ထိုအလို့ အတိုင်း 'ရတနာကြုတ်' ခေါ် ကဗျာသစ် အဖွဲ့ကျမ်း တခု ကျွန်ုပ်တို့ ရေးသားပြီး ရှိ၏၊ ၎င်းမှာ ပိဋကတော်မှ မှတ်ဖွယ်ကောင်းသည့် ဂါထာများ အလိုက် ဖွဲ့ကုံးထားချက်ဖြစ်၏၊ ထိုအား လျော်စွာ ပင် ထိုထို သုတ္တန် တို့၌ သံဃာယနာတင် အရှင်တို့ ဖွဲ့ဆို ထားရှိသော ထိုထို အဖွဲ့ကဗျာတို့လည်း ရှိကုန်၏၊ သို့ရာတွင်၊ ယခုခေတ် ကျွန်ုပ်တို့ မြန်မာပြည် မြန်မာလူမျိုးအတွင်း၌ကား† မြန်မာဘာသာ သက်သက်နှင့် အများ သိ ဖြစ်စေရန် ပင် ပထမဆုံး အရေး ကြီး၏၊ အကယ်၍ လွယ်ကူ သိသာသော မိမိတို့ ဘာသာနှင့် ဖြစ်ခဲ့မူကား အများသိရှိရန် ကြည့်ရှုလိုကြရာ၏၊ ထို့ကြောင့် ထို ဘုရား တရားတော်များကို ကပ္ပါသူ အများ သိရှိနိုင်သည် ထိုထို ဘာသာတို့သို့ ပြန်လည် ထားရှိရန်ကို လည်း ဤသုတ္တန်တော်က ကျွန်ုပ်တို့အား ညွှန်ကြားသည်ဟု သိမှတ်ကြရ ပေမည်။

† မြန်မာဘာသာသက်သက်နှင့် ပြန်ဆိုရေးသားထားသော မြန်မာပိဋကများမှာ သုတ္တန် [illegible]

# ဃ။ ကလျာဏကာမီသုတ်။

[ပဉ္စင်္ဂုတ္တိုရ်-ယောဓာဇီဝ-ဝဂ်-ဒသမ။]

ရဟန်းတို့, ဤအနာဂတ် ဘေး ၅-မျိုးတို့သည် ယခုမဖြစ်ပေါ်ကုန်သေး နောင်ဖြစ်ပေါ်ကုန်လတ္တံ့။ သင်တို့သည် ထိုဘေးတို့ကို တင်ကြို သိအပ်ကုန်၏၊ ပယ်ဖျက်ရန် လုံ့လ စိုက်ထုတ်အပ်၏။ အဘယ် ဘေးတို့နည်း?။

၁။ ရဟန်းတို့, နောင် အခါ သင်္ကန်းကောင်း ကြိုက်ကုန်သော ရဟန်းတို့ ဖြစ်ပေါ်ကုန်လတ္တံ့။ ထိုရဟန်းတို့သည် သင်္ကန်းကောင်း ကြိုက်ကုန်၍, ပံသုကူလ် ဆောင်ခြင်းကို ပစ်ပယ်ကုန်လတ္တံ့; တော-တောင် အရပ်, လူတို့မှ ဆိတ်ငြိမ်ရာ အရပ် ကျောင်းကန်တို့ကို ပယ်စွန့် ကုန်လတ္တံ့; ရွာ-နိဂုံး-မင်းနေပြည်တို့သို့ သက်ရောက် နေထိုင်ကုန်လတ္တံ့; သင်္ကန်းနှင့် စပ်၍, အထူးထူး အပြားပြား များစွာသော မရှာမှီး-အပ်သည်ကို ပြုလုပ် ရှာမှီးကုန်လတ္တံ့။ ရဟန်းတို့, ဤအနာဂတ်ဘေးသည် ယခု မဖြစ်ပေါ်သေး, နောင် ဖြစ်ပေါ်လတ္တံ့။ သင်တို့သည် ထိုဘေးကို တင်ကြို သိရှိ နိုးကြားကုန်၍, ပယ်ဖျက်ရန် လုံ့လ စိုက်ထုတ်အပ်၏။

၂။ ရဟန်းတို့, ထိုမှ တပါးတို့, နောင်သော အခါ ဆွမ်းကောင်း ကြိုက်ကုန်-သော ရဟန်းတို့သည် ဖြစ်ပေါ်ကုန်လတ္တံ့။ ၎င်းတို့သည် ဆွမ်းကောင်း ကြိုက်သည် ဖြစ်ကုန်၍, ဆွမ်းခံ-အကျင့်ကို ပစ်ပယ်ကုန်လတ္တံ့, တော-တောင် အရပ်, လူတို့မှ ဆိတ်ငြိမ်ရာ အရပ် ကျောင်းကန်တို့ကို ပစ်ပယ်ကုန်လတ္တံ့, လျှာဖျား၌ ကောင်းမြတ်သော အရသာတို့ကို ရှာကုန်၍, ရွာ-နိဂုံး-မင်းနေပြည် ကြီးတို့၌ သက်ဝင် နေထိုင်ကုန်လတ္တံ့, ဆွမ်းနှင့်စပ်၍, မအပ်စပ် မတော်လျော်သည့် အထူးထူး အထွေထွေသော ရှာမှီးခြင်း မျိုးတို့ကို ပြုလုပ်ကုန်လတ္တံ့။ ရဟန်းတို့, ဤဒုတိယ အနာဂတ် ဘေးသည် ယခု မဖြစ်ပေါ်သေး, နောင်ဖြစ်ပေါ်လတ္တံ့။ သင်တို့သည် ထိုဘေးကို သိရှိ နိုးကြားကုန်၍, ပယ်ဖျက်ရန် အားစိုက်အပ်၏။

၃။ ရဟန်းတို့, အနာဂတ် အခါ ကျောင်းကန် ကောင်း ကြိုက်ကုန်သော ရဟန်းတို့ ဖြစ်ပေါ်ကုန်လတ္တံ့။ ထိုရဟန်းတို့သည် ကျောင်းကောင်းကို ကြိုက်ကုန်၍, သစ်ပင်

ရှင်း၍ နေထိုင်ခြင်းကို စွန့်လွှတ်ကုန်အံ့; တော–တောင် အရပ်, လူတို့မှ ဆိတ်ငြိမ်ရာ အရပ် ကျောင်းကန်တို့ကို စွန့်ပယ်ကုန်လတ္တံ့; ရွာ–နိဂုံး–မင်းနေပြည်ကြီးတို့၌ သက်–ဝင် နေထိုင်ကုန်လတ္တံ့; ကျောင်းကန်နှင့် စပ်၍ အတွေတွေ အထူးထူး မအပ်သော ရှာမှီးခြင်းမျိုးကို ပြုကျင့်ကုန်လတ္တံ့၊ ရဟန်းတို့, ဤတတိယ အနာဂတ်ဘေးသည် ယခု မဖြစ်ပေါသေး, နောင်ဖြစ်ပေါလတ္တံ့၊ သင်တို့သည် ထိုဘေးကို သိရှိ နိုးကြားကုန်၍, ပယ်ဖျက်ရန် လုံ့လစိုက်ထုတ်အပ်၏။

၄၊ ရဟန်းတို့, ထိုမှ တပါးတု အနာဂတ် အခါ ရဟန်းမ, သိက္ခမာန်, သာမဏေရီတို့နှင့် ရောနှော၍ ကုန်သော ရဟန်းတို့ ဖြစ်ပေါကုန်လတ္တံ့၊ ရဟန်းတို့, ရဟန်းမ သိက္ခမာန် သာမဏေရီတို့နှင့် ရောနှော ဆက်ဆံ နေထိုင်ခဲ့သော်, မမွေ့လျော် မပျော်ပိုက်ပဲ သော်လည်း သာသနာတော်ကို ကျင့်ကြရကုန်လတ္တံ့, ဆိုးဝါးညစ်ညမ်းသော အာပတ် တစုံတခုသို့ သော် လည်း ရောက်ကုန်လတ္တံ့, သိက္ခာ စွန့်ချ၍ လူ သော် လည်း ထွက်ကြကုန်လတ္တံ့၊ ရဟန်းတို့, ဤစတုတ္ထ အနာဂတ် ဘေးသည် ယခု မဖြစ်ပေါသေး, နောင် ဖြစ်ပေါလတ္တံ့၊ သင်တို့သည် ထိုဘေးမျိုးကို သိရှိ နိုးကြားကုန်၍, ပယ်ဖျက်ရန် လုံ့လ စိုက်အပ်၏၊ [ဤအနာဂတ် ဘေး၌ ဘိက္ခုနီ-သိက္ခမာန်တို့အစား သီလရှင်နှင့် ရသေ့မ များကို ထည့်သွင်း သိမှတ်ရမည်။]

၅၊ ရဟန်းတို့, ထိုမှ တပါးတု နောင်အနာဂတ် အခါ၌ အာရာမ်စောင့်–သာမဏေရ်တို့နှင့် ရောနှော နေထိုင်ကုန်သော ရဟန်းတို့ ဖြစ်ပေါကုန်လတ္တံ့၊ အာရာမ်စောင့် သာမဏေရ်တို့နှင့် ရောနှော နေထိုင်ခဲ့သော်, အထူးထူး အတွေတွေ သိုမှီး သိမ်းဆည်း၍, သုံးဆောင်ခြင်းကို ပြုလုပ်–နေထိုင်ကုန်လတ္တံ့, မြေ့နှင့် စပ်၍ ရင်း, စိုစိမ်းသော ဟင်းရွက်-ဟင်းသီးပင်နှင့် စပ်၍ ရင်း, ပေါလွင် ထင်ရှားစွာ ရှုံကြမ်းသော အရိပ်–နိမိတ်ကို ပြုကုန်လတ္တံ့၊ ရဟန်းတို့, ဤပဉ္စမ ဘေးသည် ယခု မဖြစ်ပေါသေး, နောင် အနာဂတ် အခါ၌ ဖြစ်ပေါလတ္တံ့၊ သင်တို့သည် ထိုဘေးကို သိရှိ နိုးကြား ကုန်၍, ပယ်ဖျက်ရန် လုံ့လစိုက်ထုတ်အပ်၏၊ [ဤ အနာဂတ်ဘေး၌ ကပ္ပိယနှင့် ကပ္ပိယ အလား တူ သာမဏေရ်များကို ဆို၏၊ ကျောင်းတွင်း ဇရပ် စသည်၌ ဥပုသ်ရက်ရှည်စောင့် ကျောင်း ဇရပ် နေသူတို့ကို လည်း ဤ၌ သွင်းယူအပ်ကုန်၏။]

ရဟန်းတို့, ဤ အနာဂတ် ဘေး ၅ မျိုးတို့သည် ယခု မဖြစ်ကုန်သေး; နောင် ဖြစ်ပေါကုန်လတ္တံ့၊ သင်တို့သည် ထိုဘေးတို့ကို သိရှိ နိုးကြားကုန်၍, ပယ်ဖျက်ရန် လုံ့လစိုက်ထုတ်အပ်၏။

မှတ်ချက်၊ ဤကား အနာဂတ် ဘေးနှင့် စပ်သော သုတ်များတည်း၊ ဤ အနာဂတ် အရေး ဘေးပြ တရားတို့၌ 'ယခု မဖြစ်ပေါ်သေး; နောင်–အခါ ဖြစ်ပေါ်လတ္တံ့' ဟုရာတွင် 'ယခု' ဟူသည် 'ဘုရား လက်ထက်တော် အခါကို ယူ၊ စာဖတ်သူတို့ ခေတ်ကို မယူလင့်; 'နောင်အခါ' ဟူသည် ဘုရား ပရိနိဗ္ဗာန်စံ၍ အနှစ် တရာတွင် ရှေ့ရှေ့ ကိုင်းခံ ကောင်းဆံ-ဝေသည် ဖြစ်ပေါ်လာခြင်းကို ထောက်၍ ထို အနှစ် တရာမှ စ၍ ဤဖက်ကို မှတ်ရာ၏၊ စာဖတ်သူတို့ ပစ္စုပ္ပန် ခေတ် လည်း နောင် အခါ အတွင်း၌ ပါပြီး ပင် ဟု သိရာ၏။

ပုဏ္ဏားတို့ ကျင့်မြဲ တရားကို ပယ်စွန့်၍ မင်းတို့ အလေ့၊ ကုန်သည်တို့ အလေ့၊ သူဆင်းရဲတို့ အလေ့ကို လိုက်ထပ် ကျင့်ကြသောကြောင့် ပုဏ္ဏား ကျင့်ဝတ်များ လုံးလုံး ကွယ်ပျောက်သဖြင့် ယခု အခါ ဣန္ဒိယ ခေါ် မဇ္ဈိမဒေသ ဆိုင်ရာ နိုင်ငံကြီး၌ ပုဏ္ဏားတို့၏ ဂုဏ် အသရေ ဝေသည် တစုံတရာ မရှိကြပဲ၊ အကဲ့ရဲ့-အရှုတ်ချ သာ ခံကြရကုန်၏၊ စင်စစ်ကား ထိုပုဏ္ဏားတို့ လည်း အမျိုးဇာတ် အမည် ပညတ်မျှနှင့် အချည်းနှီးသော အမည်ကောင်းကို ခံယူ ဟိတ်ထုတ်နိုင်ခြင်းမှ တပါး အခြားသော အကျင့်-ဂုဏ်တို့ကို မထုတ်ပေါ် မပြသ နိုင်ကြကုန်၊ ထို့ကြောင့် ထိုပုဏ္ဏားတို့မှာ လူအများထက် ထူးခြားသော ရိုသေ-လေးစားချက်ကို ခံရခြင်း စသော ဂုဏ်များ မရရှိ၊ ပျက်စီးကြကုန်၏။

ဘုရား သားတော် ရဟန်းများ လည်း ဤ ပြဆိုချက် ပုဏ္ဏားတို့ကဲ့သို့ တရား အကျင့်ကြောင့် ထင်ရှား ရရှိသော ဂုဏ်သိရ်များ မပပျောက်ပဲ၊ မိမိတို့ ကိုယ်ကျင့်တရား၌ တည်တန့်ကြရန် တိုက်တွန်းတော်မူလျက် ဘုရားရှင်သည် ဤ အနာဂတ်ဘေးများကို ပြညွှန်တော် မူပေ၏၊ ယခု ကျွန်ုပ်တို့ ခေတ်၌ ဤ ဆိုခဲ့သည့် အနာဂတ် ဘေးမျိုး အများ-အပြား သက်ဝင် ကျရောက် ရှိကြသေးစေကာ၊ ဆယ်ယူမည် ဆိုလျှင် ရရှိကောင်း၍ အသားတင် ဖြစ်ရန် အခြေ အနေ ရှိသေး၏၊ 'ဣမေ စ သုဘဒ္ဒ ဘိက္ခူ သမ္မာ ဝိဟာရေယျုံ၊ အသုညော လောကော အရဟန္တေဟိ အဿ၊ [ဒီ-မဟာ-ပရိနိဗ္ဗာန-သုတ်] ဟု ပရိနိဗ္ဗာန်စံလုနီးတွင် မိန့်မြွက်တော်မူခဲ့ချက်, 'အို သုဘဒ်, ဤ သာသနာဝင် ရှင်လူရဟန်းတို့ သာ လို့လ ဝိုက်၍ ကောင်းကောင်း ကျင့်ကြ နေထိုင်ကြပါမူကား ဤ လောကမှာ ရဟန္တာ မသုဉ်း-မဆိတ် ဖြစ်ရာ၏' ဟူသော စကား အတိုင်း အကျိုး ထင်ထင် တွေ့မြင်ကြရကုန်လတ္တံ့၊ ကျွန်ုပ်တို့ သတိ အထူးထားရန် အချက်ကြီးများတည်း။

## ၃-က၊ မုနိဂါထာ၊

[မူပဒ, မူဗွဝင်—အဌမ]

၁၊ † အသံ တိတ် ဆိတ်သူ မဆိုလို့,
ဉာဏ်မြင် တုံးပိတ် ဆိတ်ကာမျှ ကို၊
စဉ်းချိန် ခွက် ချိန်စက် ယှဉ်ဟန်လို့,
တရား မြတ် ယူလတ် ဉာဏ်ရှင် ကို။

၂၊ မကောင်းမှု မပြု ညာဉ် အလို့,
သို့ တိတ်ဆိတ် ငြိမ်ဆိတ် သသူကို၊
ကိုယ်—သူ့ ကျိုး ရှိ သိတတ် မြင်လို့,
သို့ ဆိတ်သူ ဆိတ်သူ ထို့ကြောင့် ကို။

၎င်း အဓိပ္ပါယ်မှာ— စကား မပြော တုဏှိဘော နေကာမျှဖြင့် ဉာဏ်မြင် ကင်းမဲ့သူကို ဆိတ်ငြိမ်သူ ဟု မဆိုရ; စင်စစ်ကား တစုံ-တခုသော ပစ္စည်း-ဝတ္ထုကို အမှန်-အကန် သိလိုသဖြင့် စဉ်းချိန်ခွက်ကို မြှောက်ကိုင် ချိန်စက် နေသူ ကဲ့သို့ ပညာ-ဉာဏ်ဖြင့် ချင့်ချိန်လျက် မှန်ကန် မြင့်မြတ်သော တရား အကျင့်ကို စွဲယူ—ကျင့်သုံး၍ မကောင်းမှု မပြု ကြဉ်ရှောင် သူသည် သာ ထိုသို့သော မကောင်းမှုမှ တိတ်ဆိတ်ကင်းလွတ်သောကြောင့် ဆိတ်ငြိမ်သူ မည်လေ၏၊ ထို့ပြင်, ပစ္စက္ခ တမလွန်ကျိုး ၂ ပါးကို လည်း သိတတ်သောကြောင့် ဆိတ်ငြိမ်သူ – ဆိတ်ဆိတ် နေသူ ဟု ဆိုရလေ၏၊ ဤ ဂါထာများကား ပညာရှိ ဦးကျော်ထွန်း ညွှန်ပြချက် ဂါထာများ ဖြစ်၏၊ ဤဆိုလတ္တံ့ ဂါထာများကား ကျွန်ုပ် ကိုယ်တိုင် ထင်မြင်၍, ဗင်းဆင်းတ် အေ ဆမစ်သ် Vicent A. Smith ကလည်း Muni-gatha—Muni-sutta Sutta-Nipata-i, 12, P. 26, ဟု ညွှန်ပြထားသော, ထိုနည်းတူ ပင် ဗင်္ဂါလီပညာရှိ Radhakumud Mukerji M. A; PH. D. ရာဓာကုမုဒ မှုကာရဂျီး က လည်း ၎င်းစာအုပ် အခဏ်း ၄, နာမ်ပါတ် ၁၁ဂ ၌ ညွှန်ပြသော မုနိ—ဆိတ်ဆိတ် နေသူ မည်ကြောင်း ဂါထာတည်း။

---

† ဤကဗျာ—အဖွဲ့များ ခွဲကုံးပုံ ပြေးမျဉ်းကို ကဗျာမှန်၌ ကြည့်ရှု သိနားလည်နိုင်၏။

မှတ်ချက်၊ ၊ကျမ်းရင်း၌ အဖွဲ့—ဂါထာ—ကဗျာများ ဖြစ်ရှိသည့် အတိုင်း မူလကျမ်းလာ ကဗျာ၏ အကျွရာ အရေ—အတွက် အတိုင်း မြန်မာ - အဖွဲ့များနှင့် ပြန်လည် ဖွဲ့ကုံးထား၏၊ ရင်း ကဗျာများ၏ ဖွဲ့ကုံးပုံ စည်းမျဉ်း များကို ကဗျာ့မှန်၌ ကြည့်ရှု သိနားလည်နိုင်၏။

## ၁၊ မုနိသုတ်၊

[ သုတ္တနိပါတ — ၁, ဉရဂဝဂ်, ဇာရသမ ]

၁၊ ကျွမ်း ဝင်ရေး ကြောင့် ဘေး ဖြစ်ရတဲ့,
တည်မက်မှု ညစ်မြူ ပွားသောတို့၊
မစွဲး မက်ငြမ်း ကျွမ်း မဝင်တဲ့,
ရဟန်း မြတ် မြင်လတ် နည်းမှန်တို့။

၂၊ ဖြစ်ပြီး ဖြတ်ပယ် နောက်ဝယ် မျိုးလိုက် မစိုက်ဟူ,
ဖြစ်ဆဲးတွင် လည်း စိတ်ဝင် စွဲးမှု မပြု သူ၊
အိုကို တမူ မြတ်သူ ရဟန်း ကျင့်ခဏ်း ဟူ,
သိမြင် ဥာဏ်ရ ဧးမြ ရာမူ ထွတ်မြတ်သူ။

၃၊ အသိး ဖျက်ခွါ သင်ကာ မျိုးစိ ပြုဘိဟူ,
အဆိ စက်နောက် မရောက် ဆန္ဒ ပယ်ချသူ၊
ဖြစ်မျိုး ကုန်ရာ မြင်ကာ ဉာဏ်လန်း ရဟန်းဟူ,
တည်မျိုး ပယ်ဖျဉ် ပွားစဉ် ရေလောက် မရောက်သူ။

၄၊ တည်ရာ လုံးစုံ ဥသုံ မြင်သိ ဉာဏ်ရှိမူ,
ဆို တည်ရာစု တခုကို မလို ချင် သူ၊
သိတ်ငြိမ် အမြဲး ဖြတ်ခဲး တည်ခြင်း တည်ကင်းမူ,
မဟွဲ အားထိုက် ကမ်းဆိုက် ဖက်ရောက် ပေါက်လေ သူ။

၅၊ နှိပ်နှင်း ဖုံဖုံ လုံးစုံ သိမြင် ဉာဏ်ရှင်လို့၊
မျိုးမျိုး စားစား တရား ခပ်သိမ်း မလိမ်းကျံ့ဆို၊
အားလုံး စွန့်ခွါ တဏှာ ဖြတ်သိမ်း လွှတ်ငြိမ်းလို့၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် မြွက်ဆို။

၆၊ ပညာ အား မြင့် ကျင့်ဆင် သီလ ပြည့်ဝကုန်၊
တည်တံ့စွာ ရျာန်မှာ မွေ့ဘိ သတိ ထင်တုံ၊
စစ်ပြု ကင်း တံသင်း ပယ်ချ အာသဝကုန်၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် ဆိုတုံ။

၇၊ ထီးထီး ကျင့် ဆိတ်ခွင့် နှုတ်လေ့ မမေ့လျော့ဆို၊
ကဲ့ရဲ့ လမ်း ချီးမွမ်း ဂုဏ်ရုဏ် မတုန်လှုပ်ကို၊
သံ မြှောက်မြွား စိတ်ထား တည်လေ့ ခြင်္သေ့ ဟန်ဆို့၊
ကုန်ယက် တွင်း တွယ်ခြင်း မရှိ လေ၏ ထုံးကို၊
လိမ်းကျံ့ မဲ့စွာ ကြာ ပဒုံ့လျှင် ရေတွင် ဆို၊
ဆောင်ပို့နိုင်ငြား တပါး သူ့ရှိ မသိရာကို၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် မြွက်ဆို။

၈၊ ဩဿ ဝဲး ဆိုင် ကျောက်တိုင် ပမာ မြဲးစွာတုံ့၊
ထိုနေရာ ဗိုလ်ပေါ် ထိုထို ခြွင်းဆိုကုန်၊
တည်မက် ကင်း တည်လျှင်း တို့ချေ ဣန္ဒြေတုံ့၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် ဆိုကုန်။

၉၊ ကိုယ်စိတ်မှာ တည့်စွာ ထင်ရှား မြွားသို့ ဖြောင့်တုံ့၊
ယုတ်ညာစ်ရာရ အမှုမူ တွက် စက်ဆုပ်တုံ၊
စုံစမ်းကာ ညီရာ တာလီ မညီရာတုံ့၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် ဆိုတုံ။

၁၀၊ ကိုယ်—စိတ် နှစ်ဖြာ စောင့်စွာ ဆိုးမှု မပြုတုံ့၊
ကြီး—လတ်—ငယ် ဟူ မည်သူ မလည်း စောင့်စည်းတုံ့၊
ငြူစူ ကင်း ဖြတ်ရှင်း ငြူစူ သူ စင်တုံ့၊
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် ဆိုတုံ့။

၁၁၊ အဦးနှဲ့ ဝယ် အလယ်တွင် ကြုံး ဆုံးထိလျှင်,
ဆွမ်းစာ မျှ ရတိုင်း အညီ မှို့ သက်ရှင်၊
ချီးကျူး အရိပ် ချ-နိုပ် ဆိုလိုက် မထိုက် လျှင်,
ထိုသို့ သူ ဆိတ်သူ ပင် ဟု ဆိုပြု ဉာဏ်ရှင်။

၁၂၊ ကျင့်ယုတ် မေထုန် မဝှန် ကိုယ်စိတ် ဆိတ်ကင်းလို့,
ရွယ်ပျို ရွယ်ကြီး သီးသီး တသ်စွဲး မတဲး ဆို၊
ရစ်ခြင်း မေ့ခြင်း ပြတ်ကင်း ရှောင်ရှဲး ပြတ်စဲးလို့,
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် မြွက်ဆို။

၁၃၊ သိရှိ မု လူနှင့် နတ်ဟန် အမှန် ယူတု,
ဩဃတွင်း ကူးလျှင်း သမုဒ် တုန်လှုပ် မဲ့တု၊
နှောင်ကြိုး ဖြတ်ပြည် တည်ရာ မဲ့လျှင်း စွဲးကင်းတု,
ထိုသို့ သူ ဆိတ်သူ ဟု ပင် ဉာဏ်ရှင် ဆိုတု။

၁၄၊ မတူ ခြားထူး နှစ်ဦး နေချက် သက်မွေးမှု,
မယား သင့် လူကျင့် စခန်း ရဟန်း ရှောင်သူ၊
လူမှာ သတ်ဖြတ် ပြုလတ် တိုင်အောင် မရှောင်မှု,
ရဟန်းကား သတ်စား မှုဆိုး စောင့်ရှိး သူ။

၁၅၊ လည်တန် ညိုညက် ငှက် ဥဒေါင်း ဟု ပုံတုမှု,
ဟင်းသာ ငှက် ရေတွက် မယှဉ် ရုံခါမှု၊
လူမှာ ရင်မှု မတုနိုင်တု ဤပုံ မှု,
ဆိတ်ငြိမ်စွာ တောမှာ မွေ့တေး ရဟန်းမှု။

မုနိသုတ်၏ အဓိပ္ပါယ်ချုပ်ကား — ၁၊ အကျွမ်း မဝင်ခြင်း၊ ၂၊ မတည်—စွဲခြင်း—ဟု ရဟန်း၏ အချုပ် အင်္ဂါ ၂ မျိုးတည်း၊ ၎င်းတို့ ဝေါဟာရ အသီးသီးကား—၁၊ ဖြစ်ပြီး—ဖြစ်ဆဲ—ဖြစ်လတ္တံ့၌ တပ်မက် ကင်းလွတ်ခြင်း၊ ၂၊ ပစ္စုပ္ပန် အတ္တဘောဖြင့် မတည်စွဲပဲ အနာဂတ်—အတ္တဘောကို မထူထောင်မူ၍ တပ်မက် ကင်းခြင်း၊ ၃၊ လောက ၃ ပါးရှိ တည်နေရာ ဘုံနှင့် တည်နေသူ ၎င်း အကြောင်း ကုသိုလ်—အကုသိုလ်ကို သိမြင်၍ ၎င်းတို့၌ မတည်စွဲခြင်း၊ ၄၊ ကိလေသာ အားလုံးကို ဉာဏ်ဖြင့် သိ၍ လိမ်းကျံ စွဲကပ် ကင်းခြင်း၊ ၅၊ သီလ—သမာဓိ—ပညာ ၃ မျိုးစုံ၌ သတိ ထင်ရှား အာသဝေါ ကုန်ခန်းခြင်း၊ ၆၊ တဦးတည်း မမေ့—မလျော့ ကျင့်၍ ချီးမွမ်း ကဲ့ရဲ့ ၂ မျိုး၌ မတုန်လှုပ်ခြင်း၊ ၎င်းတို့၌ ခြင်္သေ့ကဲ့သို့ တည်တန့်ခြင်း၊ ကွန်ယက်၌ မငြိ—တွယ်သော လေ ကဲ့သို့ ၎င်း၊ ရေဖြင့် မကပ်ငြိသော ကြာကဲ့သို့ ၎င်း ဖြစ်ခြင်း၊ နိဗ္ဗာန်အလို့ငှာ ကျင့်ခြင်း၊ ၇၊ အများ ဗိုလ်ပါတို့ မတည်—မတန့်နိုင်သော ဝဲသြဃ—သံသရာ၌ ကျောက်တိုင် ကဲ့သို့ မြဲမြံ-တည်တန့်နိုင်ခြင်း၊ ၈၊ ကောင်းမှု ဆိုးမှုနှင့် ၎င်းတို့ အကျိုးကို သိ၍ ကောင်းမှု—ကောင်းကျိုး၌ သာ စိတ်ကိုထားနိုင်ခြင်း၊ ၉၊ ကိုယ် စိတ် ၂ မျိုးစုံ ပင် အသုံး မပြုလုပ်ပဲ၊ ဖြူစွ—စောင်း ရှောင်ခြင်း ကင်းလွတ်ခြင်း၊ ၁၀၊ ထွမ်းကို အဦး၊ အလယ်၊ အကျန်—အကြွင်း ဘယ်သင်းမဆို သူတပါးကို ပို၍ ရသမျှ အစာဖြင့် မျှတလျက် ချီးမွမ်းကဲ့ရဲ့ ကင်းခြင်း၊ ၁၁၊ ယုတ်ညံ့သော မေထုန်—အကျင့်မှ ကြဉ်ရှောင်၍ ကြီးငယ်-ပျိုတို့ ထိုထို ကိလေသာ အာရုံ၌ မတပ်မက် မမူး—ယစ် မမေ့မလျော့ ရှောင်ကြဉ်ခြင်း၊ ၁၂၊ ၃ လောက နေသူ နတ်—လူတို့ကို လူ-နတ် ဟု သာ သိရှိ၍ တပ်မက်စရာ သူ့ငါ မမှတ် ပရမတ် သဘောမှန်ဖြင့် သာ စွဲယူကာ သံသရာ၌ တုန်လှုပ်မှုခြင်း၊—ဤကား ထိတ်ငြိမ်သူ မည်ကြောင်းများတည်း၊ ထိုသို့သော ထိတ်ငြိမ်သူ ရဟန်းနှင့် လူများ၏ ခြားနားပုံကား—လူသည် မယားနှင့် သင့်တင့် နေထိုင်၏; ရဟန်းကား ၎င်းမှ ကြဉ်ရှောင်၏၊ လူမှာ သတ်ဖြတ်မှုစသည် ပြုကျင့်၏; ရဟန်းကား ၎င်းမှ လွတ်ကင်း၏၊ လည်တိုင် ညိုညက် ဝုက် ဥဒေါင်းမှာ ဟင်းသာ ဟု ခေါ်ဝေါ်-ရေကူး ခြင်းသို့ မရောက်သကဲ့သို့၊ လူမှာ ရဟန်း နှင့် တူတန်—ညီမျှခြင်းသို့ မရောက်နိုင်ချေ၊ ရဟန်းကားလူ့ အစိုး—အပွား ဟူသော လွင်ပြင်မှ ထွတ်ထွက်၍ တော၌ မေ့မလျော့ နေသည်၊—ဤကား မုနိဂါထာ ဟူသော ကျောက်စာပါ စကားအရ မုနိဂါထာ မြန်မာ ပြန်ဆိုချက်တည်း။

# ၄၊ မောနေယျသုတ်၊

## က၊ မောနေယျ အတ္ထုပ္ပတ်၊

[သုတ္တနိပါတ်၊ မဟာဝဂ်—၁၁၊ နာဠကသုတ္တကထာ၊]

† တရံရောအခါ ကာလဒေဝိလ ဟု ထင်ရှား၍ အသိတ အမည်ရှိ သမာပတ် အဘိညာဉ်ရ ရသေ့မြတ် တဦးသည် တာဝတိံသာ နတ်ပြည် နန္ဒဝန် ဥယျာဉ်အတွင်း၌ နေ့ခင်း သန့်စင် နေထိုင်စဉ်, တာဝတိံသာ—နတ်အပေါင်းတို့ သောင်းသောင်းဖြဖြ ရွှင်ပျ—ပျော်မြူးကြသည်ကို တွေ့မြင်လေပြီ၊ ထိုအခါ အသိတ ရသေ့မြတ်က, 'အို.... နတ်အပေါင်းတို့, အသုရာတို့နှင့် စစ်တိုက် အောင်မြင်ရာ၌ ပင် ထိုမျှ မဖြစ်ကြဖူးမြဲသည့် ထူးကဲ လွန်မင်းသော ပျော်ရွှင်ခြင်းကို ယခု သင်တို့ ပြုလုပ်ကြသည်မှာ အကြောင်း မည်သို့ ဖြစ်ကြတုံသနည်း? ဟု မေးမြန်းလေပြီ၊ တာဝတိံသာ-နတ် အပေါင်းတို့က, အို.... အရှင် ရသေ့မြတ်, လောက၌ အတုမဲ့ ရတနာမြတ်ဖြစ်သော ဘုရား-အလောင်းလျာသည် သာကီဝင်မင်းတို့ ဒိုင်နယ်တော် အတွင်း လုမ္ဗိနီ—ဥယျာဉ်တော်၌ သုဒ္ဓေါဒန-မင်းကြီး၏ မိဘုရား ခေါင်ကြီး မာယာဒေဝီ-ဝမ်းကြာတိုက်မှ ယနေ့ပင် ဖွားမြင်လေပြီ၊ ထို အလောင်း-မင်းသားကား သတ္တဝါ-နတ်လူ အားလုံးတို့ထက် အတုမဲ့ မြင့်မြတ်သူ ဖြစ်၍, သမ္ဗုဒ္ဓ—ဘုရားစင်စစ် ဖြစ်လိမ့်မည်၊ ထို့ကြောင့် ထို ဘုရားလောင်း—မင်းသား အတွက် ဤလောကသူ ဗိုလ်လူအပေါင်းတို့ ကောင်းစားခွင့် အခါကြီး ရောက်ကြိမ် ရမည်ကို ဝမ်းမြောက်ကြသဖြင့် အကျွန်ုပ်တို့ ထိုမျှ ပျော်မြူး ရွှင်ပျကြကုန်သည်' ဟု ထို ရသေ့အား ပြန်ကြားကြကုန်ပြီ။

ကာလဒေဝိလ ရသေ့မြတ်လည်း ထိုနတ်တို့ စကားကို ကြားလျှင် ဆောလျင်စွာ နတ်ပြည်မှ ပြန်လည်ခဲ့၍, သုဒ္ဓေါဒန-မင်း၏ နန်းတော်သို့ ကြွရောက်ခဲ့ လေပြီ၊ သုဒ္ဓေါဒန—မင်း လည်း မိမိ ကိုးကွယ်—လေးစားသော ရသေ့မြတ် ကြွလာသည်ကို

---

† မောနေယျ အတ္ထုပ္ပတ်မှာ ပါဠိတော်၌ အဖွဲ့-ဗန္ဓများ ပင် ဖြစ်စေကာ အတ္ထုပ္ပတ် ထင်ရှားစေရန် စကားပြေ ပြန်ဆို ထား၏။

အလွန် ဝမ်းသာခြင်းဖြင့် ပင့်ဖိတ်၍ နေရာ—ထိုင်ခင်း ပေးကမ်း၊ နေထိုင်စေလေပြီ၊ ရသေ့မြတ် လည်း တစုံ—တခွန်းမျှ အပို စကားကို မမြွက်ကြားပဲ၊ 'တကာတော် မင်းကြီး၊ ယခု ဖွားမြင်စ ဖြစ်သော သင်၏ သားတော်ကား အဘယ်မှာနည်း? ငါ ကြည့်ရှုလိုသည်' ဟု မိန့်ဆိုလေပြီ၊ သုဒ္ဓေါဒန—မင်းကြီး လည်း တတ်ကျွမ်း လိမ်မာလှစွာသော ရွှေပန်းတိမ် ဆရာ၏ ဉီးသစ်စ ဖြစ်သော ရွှေစိုင်ဘုံး ကဲ့သို့ အာသရေ အပေါင်းဖြင့် တင့်တယ်သော မင်းသားငယ်ကို အသိတ ရသေ့၏ ထံမှောက်သို့ ဆောင်ယူ—ပြသစေလေပြီ၊ ရသေ့မြတ်သည် ရဲရဲ တောက်ပသော မီးကျည်းစုကဲ့သို့ ၎င်း၊ ကောင်းကင်ပြင်၌ တိမ်စင်သော လမင်း ကဲ့သို့ ၎င်း၊ တန်ဆောင်မုန်းနေကဲ့သို့ ၎င်း စင်—ကြယ်လျက် အာသရေ ရှိသော မင်းသားငယ်ကို မြင်ရလေ၍ အလွန် ရွှင်ပျခြင်း ဖြစ်ရလေပြီ။

အလောင်းတော် မင်းသားကို ရသေ့မြတ်ထံ ဆောင်ယူခဲ့စဉ် အခါ ကောင်းကင် ပြည့်မျှသော အရပ် ထက်ဝန်းကျင်၌ အလက်ပေါင်း မြောက်မြားစွာသော ထီးများကို မိုးကာ၍ ရွှေရိုးတပ်သော သားမြီးယပ်များဖြင့် လမ်း တလျှောက်လုံး တလွဲ့လွဲ့ တဖြိုးဖြိုး ရပ်ခပ်ကြသည်ကို ထင်စွာ မြင်ရလျက်၊ ထီးကိုင်—ယပ်ကိုင် သူတို့ကိုကား မမြင်ရပဲ ဖြစ်လေပြီ၊ ထိုသို့ အံ့ဖွယ်—သရဲ ထူးကဲ တင့်တယ်သော အာသရေ ရှိသည့် မင်းသားငယ်ကို မြင်ရလျှင် များစွာ ဝမ်းမြောက်ခြင်း ရှိ၍ ရွှေပန်း—ကလာပ်တော်တွင် တင်ထား—စေပြီးသော်၊ လက္ခဏာ အထွေထွေကို စစ်ဆေးကြည့်ရှုလေပြီ၊ အသိတ ရသေ့မြတ်သည် ဘုရားအလောင်းတော် မင်းသားငယ်၏ ယောကျ်ားမြတ် လက္ခဏာတို့ကို ပြည့်စုံစွာ မြင်ရသော်၊ ထိုမင်းသားငယ်၏ ဘုရားစင်စစ် ဖြစ်မည်ကို ၎င်း၊ ထိုဘုရားအား မိမိ မဖူးမျှော်ရမည့် အရေးကို ၎င်း ရှုမြင်တွေးတောကာ၊ များစွာ ကျည်ကွဲ့ ဝမ်းနဲ့ခြင်း ဖြစ်၍၊ သည်းထန် ပြင်းပြစွာ ငိုကြွေးလေပြီ၊ ထိုသို့သော ရသေ့ကြီး၏ ဖောက်ပြန်ပုံ အမူ-အယာကို မင်းနှင့်တကွသော နန်းတော်သူ နန်းတော်သား အပေါင်းတို့ တွေ့မြင်ကြရသော်၊ ထိတ်လန့် ကြောက်ရွံ့ခြင်း၊ မရွှင်ပျခြင်း ဖြစ်ကြ၍၊ 'အို ရသေ့မြတ်၊ မင်းသားငယ်မှာ အန္တရာယ် တစုံတရာ ကင်းလွတ်ပါ၏လော? ဘေး-ဉပဒ် တစုံတရာ ပင် ဖြစ်ရာ မည်လော? ဟု မေးလျှောက် ကြကုန်ပြီ။

ရသေ့မြတ်က၊ 'ဤ မင်းသားမှာ စိုးပူးမဲ့ ဖြစ်ဖွယ် တစုံ—တရာ မရှိ၊ အန္တရာယ် ရန်မာန် လည်း ဖြစ်လိမ့်မည် မဟုတ်၊ ဤ မင်းသားကား အယုတ်ညံ့စား မဟုတ်၊ မြင့်မြတ်သော စိတ်ကို သာ ထားကြကုန်၊ ဤ မင်းသားသည် ဘုရားစက်ကို

နိုင်သော တရား ဓကြာမင်းကြီး ကောန် ဖြစ်လတ္တံ့၊ ဝင်စင်ကား ငါ၏ အသက်ကြွင်
မှာ များစွာ မရှိတော့; မကြာမီ ပင် ငါရသေ့အား သေလွန်ရခြင်း ဘေးကြီ
ရောက်ဆိုက်ချေမည်၊ ထိုသို့ အားဖြင့် ထိုမျှ မြင့်မြတ်၍ ဖြစ်နိုင်ခဲ ဖြစ်ပေ၊ သော်မည်
†ဘုရားကို ငါ မဖူးမျှော်ရမည့် အတွက် စိတ် ပူဆွေး၍, ငါ့ အတွက်သာ ငါ ငိုကြွေ
သည်' ဟု ပြန်ကြားလေပြီ၊ ကာလဒေဝိလ ရသေ့မြတ်သည် နန်းတော်သူ နန်းတော်
သား အပေါင်းနှင့်တကွ သုဒ္ဓေါဒန မင်းကြီးကို ရှင်ပျ ကြည်လင်စေပြီးနောက်, နန်း
တော်မှ ထွက်ခဲ့၍,, မိမိ တူတော် နာဠကထံ ကြွရောက်တော်မူပြီးလျှင်, 'ငါ့တူ, သင်
ကား ဤယနေ့ မွေးဖွားစ ဖြစ်သော သုဒ္ဓေါဒနမင်း၏ သားတော်သည် ဝင်စစ် ဘုရာ
ဖြစ်လိမ့်မည်၊ ထို ဘုရား၏ သတင်းကိုနားထောင်လျက် တရား ဟော သည်ကို ကြားရ
သော အခါ ထိုဘုရားထံ၌ ကျင့်ဝတ်များကို လျှောက်ထားပြီးလျှင် တရား မှန်တိုင်
ကျင့်ဆောင်၍, ဘဝ အဆုံးကို ပြုလေလော' ဟု တိုက်တွန်းလေပြီ။

နာဠက သတို့သား လည်း ကုသိုလ်—ကောင်းမှု အထူး စုဆည်းပူးပြီးသူ ဖြစ်
သည့် အတိုင်း ဦးရီးတော် ရသေ့မြတ်၏ အကျိုး လိုလား၍, ပြောကြားချက် အမိန့်
စကားကို တစုံ—တရာ ပယ်ရှား ညင်းဆန် မပြုပဲ, ထိုနေ့ ပင် ဘုရား—အလောင်းတော်
ကို ရည်စူး၍, ရဟန်း ပြုလုပ် တောထွက် နေထိုင်လေပြီ၊ ထိုသို့ အားဖြင့် ဘုရား—အ
လောင်းတော် ဖွားမြင်သော နေ့၌ ပင် ရဟန်း ပြုလုပ် တောထွက်ကာ သာမန် အနေ
အားဖြင့် ကျင့်ဆောင် နေထိုင်ခဲ့ရာ, ဘုရား အလောင်းတော်သည် မင်းတို့၏ စည်
စိမ်ကို အပြည့်—အစုံ ခံစံတော်မူ၍, နောက်ဆုံး၌ အသက်တော် ၂၉-နှစ် ရှိတော်မူ
သော အခါ နိမိတ် လေးပါး ထင်တော်မူသဖြင့် လူ့—အဖြစ်၌ ငြီးငြွေ့စွာ ညီးငွေ့တော်မူ
မူလျက် ထီးနန်း၊ စည်းစိမ်ကို ရေတိမ်ကျဲသို့ စိတ်ထား စွန့်စား တောထွက် ရဟန်း
ပြုတော်မူပြီးလျှင် ဗိမ္ဗိသာရ-မင်းက ဖိတ်မံသော မင်းစည်းစိမ်ကို လည်း စွန့်ပယ်တော်မူ
ခဲ့ပြီးနောက်, ဥဒကနှင့် အာဠာရ-ရသေ့ ၂—ဦးထံတွင် လောကီသမာပတ် ရှစ်ပါး

† ဤ စကားဖြင့် ထိုရသေ့ ကွယ်လွန်သော် နေဝသညာ နာသညာ ယတန—ဘုံ၌ ဖြစ်ရမည်
အတွက်, ထိုဘုံ၌ လည်း ရုပ်မရှိ နာမ်ချည်း သက်သက် ဖြစ်သောကြောင့် ဘုရားကို ဖူးမျှော်ခွ
တရား နာယူနိုင်ခွင့် မရှိသည်ကို ပြ၏၊ တရား သဘော၌ ဂုဏ်မဘဥာဏ် မဲ့သောကြောင့် ထို
အချည်းနှီး ဖြစ်ရ၏၊ အောက်အောက် ရုပဈာန်များကို ဝင်စား၍ သေလွန်ခဲ့လျှင်, ဝင်စာ
သေလွန်ရာ ဘုံ၌ ပင် ဖြစ်နိုင်၏။

ရရှိကာ, ၎င်းများကို ကိလေသာ ကုန်ခန်းကြောင်း မဟုတ် ဟု စွန့်ပယ်တော်မူပြီးမှ သေနနိဂုံး အနီး ဥရုဝေလ–တောအုပ်တွင် ၆–နှစ်တိုင် ဒုက္ကရစရိယာကို ကျင့်တော်မူသော် လည်း ၎င်းများ၌ ကိလေသာ ကုန်ကြောင်း တရားကို မတွေ့ရပဲ သာ ကာလ ကုန်လွန်လျက် နောက်ဆုံး၌ ဗောဓိပင်နှင့် ရွှေပလ္လင်တော်တွင် ဘုရား ဖြစ်တော်မူပြီး ကာလ ဗာရာဏသီ မြို့နယ် မိဂဒါဝုန်တောတွင် ပဉ္စဝဂ္ဂီ အမှူး ရှိသော နတ်ဗြဟ္မာ အပေါင်းတို့အား ဓမ္မစကြာ တရားကို ဟောကြားတော်မူလေပြီ၊ ထိုသို့ အားဖြင့် လောက၌ ဘုရားဖြစ်တော်မူသည်ကို နာဠက–ရဟန်း ကြားသိရသဖြင့် ဘုရားရှင့်ထံ လာရောက်ပြီးလျှင် ဤဆိုလတ္တံ့အတိုင်း မောနေယျ–ကျင့်ဝတ်ကို နာယူခဲ့လေပြီ။

## ၁၊ နာဝါသုတ်၊

[ သုတ္တနိပါတ် — မဟာဝဂ္ဂ — ကောဒသမ၊ ]

၁၊ သိရပြီး ရှေးတီး မိန့် အဆို,
အသိတာ နှုတ် ဟုတ်မှန်စွာ ကို၊
ထို့ကြောင့် ဂေါတမ မြွက်ဟ အဆို,
တရား ပေါက် ကမ်းရောက် ရှင်မြတ်ကို။

၂၊ ရဟန်း ကျင့်ရပ် ကပ်ရောက် တမှု,
ဆွမ်းခံ လင့် ကိုယ်ကျင့် မက်သူ ဟူ၊
အိုရှင်ဖျော့, ဟောပြ ကျွန်ုပ် မေးမှု,
ရဟန်းဝတ် မြတ်ထွတ် ကျင့်ပိုဒ် ဟူ။

၃၊ သင့် မြော်လင့် ရဟန်းကျင့် ညွှန်မည်,
[ဟု ဘုရား ခေန်ခံတော်မူ၍.]
ပြုရန်ခဲ ဖြစ်ခဲ ကျင့်စဉ် မည်၊
ယခု ကြား သင့်အား ငါ ညွှန်မည်,
တောင့်ခိုင် ကြံ့သင်ခံ့ မြဲရမည်။

၄၊ အရ တူရှင် ပြုကျင့် စေ့,
ရွာသူ့ ဆဲမျိုး ရှိနီး စေ့၊
စိတ် မညီး ညီမှောင့် ဆောင့်ဘိ စေ့,
ထင်စွာ ဖောက် မရောက် မာန်တက်တုံ။

၅၊ အမြတ် အယုတ် နှုတ်ထွက် စကုန်,
တော ဖျက်သီး တောမီး အလျှံပုံ၊
မိန်းမများ ရှင်အား ဖြားယောင်းကုန်,
ကင်းစေရှင့် သင့်ကို ထိုသည့် ပုံ။

၆၊ မေတ္တာနှင့်ကျင့် ရှောင်ခွင့် လိုတော့၊
ဆက်ဆက် စုန် စွန့်သင့် ကာမဂုဏ်၊
မုန်းထား မဖက် မတည် မက်ရှော့၊
မြီး—ရွေ့ ကုန် သက်မျိုး အဂုဏ်ဂုဏ်။

၇၊ ငါကဲ့သို့ တူတို့ ချင်းတို့တော့၊
ချင်းတို့ လား ငါကား တူတာန်တော့၊
ကိုယ်နှင့် စိတ္တ ပမာ ယူတော့၊
မညှဉ်းဆဲ ညှဉ်းဆဲ မစေတော့။

၈၊ စွန့်ပစ်ရှါ အသသာ လိုဘကို၊
များသူ့ တိုး အားလုံး တည်မျိုးကို၊
ဉာဏ်ရှိမျိုး ကျင့်ရိုး ကျင့်ချန်ကို၊
ဤ နရဆဲ ကူးတွက် လွန်စိမ့်ကို။

၉၊ ယုတ်လျော့ ဝမ်းပြည့် နိုင်းရှည် ဓာယု၊
လိုဆိုး ဖျက် တည်မက် မဲ့စေ ဟု၊
အမြဲး လိုခြင်း လိုကင်း ကျင့်မှု၊
အလို သိမ်း အေးငြိမ်း စမျိုး ဟူ။

၁၀၊ ရဟန်းရှင် ဆွမ်းဝင် လှည့်ပြီးခါ၊
တော—တောင်တွင်း ချင်းနှင်း နိုဝင်ရာ၊
သစ်ပင် ရိပ်အောက် ကပ်ရောက် လင့်ခါ၊
ရဟန်းမြတ် စိတ်ညွတ် နေထိုင်ရာ။

၁၁၊ ကမ္ဘာသိန်း ရွတ် တွတ်တွတ် လေ့လာ၊
တောမြိုင်တွင်း ရှင်ရင်း မေ့ရော၊
သစ်ရိပ်တွင်း ရှခင်း ချာန်လေ့လာ၊
ကိုယ်စိတ်—နှစ် ကန့်မြစ် ကြည်စရာ။

၁၂၊ ထိုသို့ ဆုံး ညဥ့်ဆုံး မိုးသောက်ကို၊
ရွာသူ့ ရပ် ဆီးကပ် ရောက်စလို၊
မနှစ်သက် ရှင်ထွက် ပင့်ခေါ်ကို၊
ရွာသူ့' ထံ ဆွမ်းခံသော့ စလို။

၁၃၊ ရဟန်းတို့ ရွာသို့ ကပ်စေတုံ၊
တကာစွဲ့း စိတ်ထဲး ဖြတ်စတုံ၊
အစာ ကင်းလတ် မြတ်ခဲ့ စတုံ၊
စကား ထွက် နှုတ်မြွက် ခေါင့်စတုံ။

၁၄၊ ဆွမ်း မျှတ မရ ကောင်းမျိုးဂုဏ်၊
ကောင်းမျိုး ဂုဏ် ဆွမ်း မျှတ—စကုန်၊
ရ—မရ ပက် နှစ်သက် တဂုဏ်၊
သစ်ရိပ်သို့ ကပ်တို့ ဝင်စကုန်။

၁၅၊ သပိတ်စွဲး ရှင်ရဲး လှည့်လည်ချေ၊
မဆွံ့အ, ဆွံ့အ သမိုက်ခေ၊
မလှခဲ့ ကဲ့ရဲ့ ကင်းစချေ၊
လှုဒါန်းခဲ့ မထေမဲ့ လွှတ်စေ။

၁၆၊ ယုတ်-နိမ့်-ကြီး-ငယ် ကျင့်မှယ် ဖုံ့နှံ့၊
ရဟန်း ထွတ်မြတ် မြလတ် အစုံ၊
ကမ်းကျော် ကပ် မထပ် အဖုံဖုံ၊
ချည်နှီး မဲ့ ဂုဏ်ပြို့ အစုံစုံ။

၁၇၊ သံသရာ ကန့် စိတ်ဖြန့် ကင်းသူ့၊
ဝဋ်ယဉ် ဖြတ်မှု ဆေားရှု-သသူ၊
ကိစ္စကြီး—ငယ် ရှုန့်ပယ်နိုင်သူ၊
[illegible]

၁၈၊ ရဟန်း ကျင့်မှန် သင့်အား ညွှန်မည်,
သင်ခုန်း စက်သို့ ထက်စေရမည်၊
လျှာ အထောက် အာစောက် တည်ရမည်,
ဝမ်း ချုပ်တည်း စောင့်စည်း နိုင်ရမည်။

၁၉၊ စိတ်အား မရှုံ ဝံ့ဝံ့ ရဲရော,
ကျယ် အပွား မြောက်မြား မကြံရာ၊
အစိမ်းနံ့ ထုံ လိုဝ် ရှောင်ရော,
ကျင့် ထွတ်မြတ် ရှိညွှတ်ကျင့်သုံးရော။

၂၀၊ ဆွမ်းနှင့် စပ် တထပ် သုံး ကျင့်မှန်,
တဦးတည်း ပင် နေကျင် ပျော်တွန်၊
တဦးတည်းကို ဆို ဆိတ်ရာ မှန်,
တယောက် ချင်းသော် ပျော်မွေ့လာတွန်။

၂၁၊ ထို့နောက် ထင်ရာ ရပ် ဆယ်မျက်နှာ,
သူမှန် မြွက် နှုတ်ထွက် ကြားသော ခါ,
ရှားနိမြတ် ကြီး စွန့်ရိုး လို့မျက်နှာ၊
ထို့ပြင်, ရက်တု ကြည်ယုံ ပြီးခါ,
လွန်-လေးမြတ် ပြုလတ် ထိုမျက်နှာ။

၂၂၊ မြစ် ဟူ၍, တု ကြည်ယုံ စပါ,
ကျောက်-ခလုပ် ပြိုင် ထုံးအိုင်တွင်း သာ၊
ချောင်း လက်တက် မြည်လျက် သွားစပါ,
ပင်လယ်စီး သံကြီး ဆိတ်ငြိမ် သာ။

၂၃၊ ယုတ်လျော့ချည် သံမြည် တစာစာ,
မြတ်ထွတ် မြည့် နေလည့် ငြိမ်သက်စွာ၊
မိုက်—မှုင်း ပျက် အိုးဝက် ရေနှင့် စာ,
ဥာဏ်စုံ လည့် ရေမြည့် အိုင် တူစွာ။

၂၄၊ ရဟန်း-ရှင်ပျို ဖြောက်ဖြား ဖြွက်ဆို့၊
ပြည့်လျှံနှက် ကျိုးထွက် အကြောင်းကို၊
ဥဘတ်ဖြစ် ပွား တရား ဘုဖြတ် ဆို့၊
ဆိုပြက် ကြား ဖြောက်ဖြား သိတိုင်းကို။

၂၅၊ သိဘုံလျက် နှုတ်ပြွက် စောင့်စည်းသူ့၊
များ မသိပြွက် သိလျက် သာ မူ၊
ရဟန်းကိုက် ဆိုထိုက် ဆိတ်ဆိတ် သူ့၊
ဆိတ်ငြိမ် ထိုး ခိုမိုး ရဟန်းမူ။
[ဟု ဘုရား ဟောညွှန်ပြီ။]

ဤကား 'မောဓနေယ သုတေ' ဟူသော ကျောက်စာပေါ် စကား အရ မောဓနေယျ ကျင့်ဝတ်ပြ၊ နာဋကသုတ် မြန်မာပြန်တည်း၊ မောဓနေယျ-ကျင့်ဝတ် အချုပ် ဆိုလို ရင်းကား-၁၊ ကဲ့ရဲ့-ချီးမွမ်း ၂-ပါးကို အမှု ခံယူခြင်း၊ ၂၊စိတ် မဆိုးခြင်း၊ ၃၊ မမြင့် မောက်ခြင်း၊ ၄-မိန်းမ မလိုက်စားခြင်း, ၅-မေထုန်မှ ကြဉ်ခြင်း, ၆-သဏ္ဌာဝါ ဟူသမျှ မှန်း-ချစ် မထားခြင်း, ၇-ကိုယ်ချင်း စာ၍ မညှင်းဆဲခြင်း, ၈-အများ တည်မက်ရိုး အလို-ရမ္မက် မရှိခြင်း, ၉-အစား၌ အတိုင်း-အရှည် ရှိခြင်း, ၁၀-ငုင်း၌ အလို ကင်းခြင်း, ၁၁-ဆွမ်းခံစဉ်မှ လွဲ၍ တော၌ အမြဲ နေခြင်း, ၁၂-ကမ္မဋ္ဌာန်း စီးဖြန်း၍ သာ မွေ့လျော်ခြင်း, ၁၃-ဆွမ်းခံရုံမှ တပါး ပင့်ဖိတ်ခြင်းကို မသာယာခြင်း, ၁၄-တကာ တကာမ မညီကပ်ခြင်း, ၁၅-စကား စောင့်စည်းခြင်း, ၁၆-ဆွမ်း ရ-မရ ၂-ပါး၌စိတ်ထား မတူးခြင်း, ၁၇-အပျင်း-အအ သမိုက်စေခြင်း, ၁၈-လွှ-မလွှ ၂-မျိုး၌ ကဲ့ရဲ့ ကင်း, မထေမဲ့ ကင်းခြင်း-ပေါင်း ၁၈-ပါးတည်း-၁၆-အပွဲမှ နောက်စကား များမှာ ကျင့်ဝတ် မဟုတ်, လိုက်နာရန် နည်းညွှန်များ ဖြစ်ကြ၏၊ မောနေယျ ကျင့်ဝတ် အမြတ်စား ကျင့်လျှင် ၇-လ သာ အသက်ရှည်၏၊ အလတ်စား ကျင့်သော် ၇-နှစ် အသက်ရှည်၏၊ အညံ့စားကျင့်မှု ၁၆-နှစ် အသက် ရှည်၏၊ ဤ နာဋက မထေရ်ကား အမြတ်စား ကျင့်သည်ဖြစ်၍ ၇-လ သာ အသက် ရှည်၍ ပရိနိဗ္ဗာန် စံလွန်လေသတတ်။

# ၅၊ ဥပတိဿပသိနသုတ်များ၊

## ၅–က၊ သုစိမုခီသုတ်၊

[ ခန္ဓဝဂ္ဂသံယုတ်–သာရိပုတ္တဝဂ်–ဒသမ၊ ]

တရံရောအခါ အရှင် သာရိပုတ္တ မထေရ်မြတ်သည် ရာဇဂြိုဟ် မြို့တော်တွင် ရှဉ့်နက်တို့ကို မွေးမြူရာ ဖြစ်သော ဝေဠုဝန် ကျောင်းတော်၌ †နေတော်မူ၏၊ ထိုစဉ်အခါ အရှင် သာရိပုတ္တ မထေရ်မြတ်သည် နံနက်ခင်း ရာဇဂြိုဟ်မြို့၌ ဆွမ်းခံတော်မူပြီး နောက်, တခုသော ဇရပ်နံရံ အနီးတွင် ဆွမ်း † ဘုဉ်းပေးတော်မူ၏၊ ထိုအခိုက်၌ သုစိမုခီ မည်သော ပရိဗိုဇ်မ တဦးသည် အရှင်မြတ်ထံ လာရောက် ဤသို့ ဆိုလှာလေပြီ၊ 'အိုရဟန်း, မျက်နှာ အောက် ချ၍ စားသုံးပါသလော?၊ အိုနှမ, ငါကား မျက်နှာအောက် ချ၍ မစား သုံးချေ၊ အိုရဟန်း, ထိုသို့ မဟုတ်လျှင်, မျက်နှာ အထက် လှည့်၍ စားသုံးပါသလော?၊ အိုနှမ, ငါသည် မျက်နှာ အထက် လှည့်၍ လည်း မစားသုံးချေ၊ အိုရဟန်း, ထိုသို့ မဟုတ်လျှင်, ထိုထို အရပ် မျက်နှာတို့သို့ မျက်နှာလှည့်၍, စားသုံး ပါသလော?၊ အိုနှမ, ထိုထို အရပ်မျက်နှာတို့သို့ လည်း မျက်နှာလှည့်၍, မစားသုံးချေ၊ အိုရဟန်း, ထိုသို့ မဟုတ်လျှင်, အထောင့် အရပ် လေးပါးတို့သို့ မျက်နှာ လှည့်၍, စားသုံး ပါသလော?၊ အိုနှမ,ငါသည် အထောင့် အရပ်တို့သို့ လည်း မျက်နှာ လှည့်၍, မစားသုံးချေ။

အိုရဟန်း, အောက်သို့ လည်း မျက်နှာလှည့်၍, မစား, အထက်အရပ်, အရပ် လေးမျက်နှာနှင့် အထောင့်အရပ် မျက်နှာ တို့သို့ လည်း လှည့်၍, မစား ဆို၏၊ ထိုသို့ ဖြစ်လျှင်, အဘယ်သို့ စားသုံးပါသနည်း?၊ ကိုနှမ, အချို့ ရဟန်း သူတော်-သူမြတ်တို့ သည် မင်–ဗိုလ် တရားတို့နှင့် ဗိလာ–ကန့်လန့် ဖြစ်သော မြေကြန်အတတ်ဖြင့် မအောင် သော အသက် မွေးမြူမှုကို ပြုကုန်၏၊ အိုနှမ, ဤ သူတော်–သူမြတ်တို့ကို မျက်နှာ–

---

† မှတ်ချက်၊ ၊နောက်ဆိုလတ္တံ့, အကြောင်းများ ဖြစ်ပေါ်ခြင်း၏ ပစ္စယ ဖြစ်၍ [illegible]မှာ ပစ္စုပ္ပန်ကာလ၌ ဆိုခြင်းသည် ပါဠိကျမ်းစာ၏ ဓမ္မတာတည်း။

အောက်ချ စားသုံးသူတို့ ဟု ဆိုအပ်ကုန်၏၊ အိုနှမ, အချို့ ရဟန်း သူတော်—သူမြတ်တို့သည် မင်္ဂ-ဖိုလ် တရားတို့နှင့် ဖီလာ—ကန့်လန့် ဖြစ်သော ဂြိုဟ်—နက္ခတ် အတတ်ဖြင့် မအပ်သော အသက် မွေးမြူမှုကို ပြုကုန်၏; အိုနှမ, ဤသူတော်-သူမြတ်တို့ကို အ—ထက်သို့ မျက်နှာ လှည့်၍ စားသုံးသူတို့ ဟု ဆိုအပ်ကုန်၏၊ အိုနှမ, အချို့ရဟန်း သူ-တော်—သူမြတ်တို့သည် မင်္ဂ—ဖိုလ် တရားတို့နှင့် ဖီလာ—ကန့်လန့် ဖြစ်သော တမန်စေစား သွားလာ ဆောင်ရွက်ခြင်းဖြင့် မအပ်သော အသက်မွေးမြူမှုကို ပြုကုန်၏; ဤသူတော်-သူမြတ်တို့ကို ထိုထို အရပ် လေးမျက်နှာတို့သို့ လှည့်၍ စားသုံးသူတို့ ဟု ဆိုအပ်ကုန်၏၊ အိုနှမ, အချို့ ရဟန်း သူတော်—သူမြတ်တို့သည် မင်္ဂ—ဖိုလ်တရားတို့နှင့် ဖီလာကန့်လန့် ဖြစ်ကုန်သော အင်္ဂဝိဇ္ဇာ လက္ခဏာဟော အတတ်ဖြင့် မအပ်သော အသက် မွေးမှုကို ပြုလုပ်ကုန်၏; ဤသူတော်—သူမြတ်တို့ကို ထိုထို အထောင့် လေးရပ်တို့သို့ မျက်နှာ လှည့်၍ စားသုံးသူတို့ ဟု ဆိုအပ်ကုန်၏။

အိုနှမ, ငါမူကား မင်္ဂဖိုလ် တရားတို့နှင့် ဖီလာ—ကန့်လန့် ဖြစ်သည့် မြေကြွန် အတတ်ဖြင့် မအပ်သော အသက် မွေးမှုကို လည်း မပြု; ဂြိုဟ်—နက္ခတ် အတတ်ဖြင့် မအပ်သော အသက်မွေးမှုကို လည်း မပြု; တမန်စေစား သွားလာ လှည့်လည်ခြင်း ကိစ္စဖြင့် လည်း မအပ်သော အသက်မွေးမှုကို မပြု; အင်္ဂဝိဇ္ဇာ လက္ခဏာဟော အတတ်ဖြင့် လည်း မအပ်သော အသက် မွေးမှုကို မပြု; တရား သဖြင့် သာ ဆွမ်းကို ရှာမှီး၏; တရား သဖြင့် သာ သုံးဆောင်၏ဟု——မြွက်ကြားတော် မူလတ်ပြီ၊ ထိုအခါ ထိုစကားကို ကြားသိရသော ပရိဗိုဇ်မသည် ရာဇဂြိုဟ်မြို့တော်၌ ခရီးလမ်း တခုမှ တခု, ခရီးဆုံ တခုမှ တခုသို့ လှည့်လည် သွားရောက်၍, သာကီဝင် မင်းသား ဘုရားသားတော်တို့ သည် တရားနှင့် လျော်သော အစာကိုသာ သုံးဆောင် စားသောက် ကုန်၏၊သာကီဝင် မင်းသား ဘုရား-သားတော်တို့သည် အပြစ်ကင်းသော အစာကို စားသုံးကြ ကုန်၏၊ သာကီဝင်မင်းသား ဘုရား သားတော်တို့အား ဆွမ်းဘောဇဉ်ကို လှူဒါန်းကြကုန်လောဟု ပြောကြား တိုက်တွန်းလေပြီ။

မှတ်ချက်၊ ။ဤ၌ မြေကြွန် အတတ်ဖြင့် မအပ်သော အသက် မွေးမှုကို ဟူရာ, မြေကြွန် အတတ် တတ်မြောက်ခြင်းမျှကို မဆိုလို; ၎င်းဖြင့် အသက်မွေးမှုသာ အပြစ် ဆိုလို၏၊ ဤသုတ်သည် လည်း အရှင်သာရိပုတ္တ မထေရ်အား သုစိမုခီ ပရိဗိုဇ်မ ကြည်-ညိုသောကြောင့် ဥပတိဿ ပသိန ဟု ဆိုထိုက်သည် ဖြစ်၏၊ ဤ ဆိုလတ္တံ့ သုတ်သည် လည်း အရှင်သာရိပုတ္တ မထေရ်က ဘုရား၏ ကြည်ညိုဖွယ်ကို ပြဆို၍, မိမိ ကြည်ညိုပုံကို ပြသောကြောင့် ဥပတိဿ ပသိန ဟု ပင် ဆိုရန်ရှိ၏။

# ၈။ သမ္ပသာဒနီယသုတ်။

[ဒီဃနိကာယ်—ပါထေယျ-ဝဂ်-ပဥ္စမ။]

၁။ အကျွန်ုပ်သည် ဤသို့ ကြားနာအပ်၏၊ တရံရောအခါ ပွင့်တော်သခင် ဘုရားရှင်သည် နာလန္ဒာမြို့ ပါဝါရိ ကမ္ဗဝန် ဥယျာဉ်၌ သီတင်းသုံး နေတော်မူ၏၊ ထိုစဉ် အခါ အရှင် သာရိပုတ္တာ မထေရ်မြတ်သည် ဘုရားရှင့် ထံမှောက်သို့ ဝင်ရောက် ရှိခိုး—နေထိုင်ပြီးလျှင်, ဘုရားရှင်အား ဤသို့ လျှောက်ထားလတ်ပြီ၊ ‘အို မြတ်စွာ ဘုရား, သမ္ဗောဓိ ဥာဏ်တော် အရာ၌ ဘုရားရှင့်ထက် ပိုမို—လွန်ကဲသူ, ဘုရားရှင်မှ တပါး အခြား တစုံ-တဦးသော ရဟန်း—ပုဏ္ဏား မည်သည် ရှိလည်း မရှိခဲ့ဘူး, ရှိလည်း မရှိ လတ္တံ့, ယခု လည်း မရှိ၊ ဤသို့ အားဖြင့် အကျွန်ုပ်သည် ဘုရားရှင်အား ကြည်ညို ပါသည်, ဘုရား’၊ အိုသာရိပုတ္တာ, သမ္ဗောဓိ-ဥာဏ်တော် အရာ၌ ဘုရားရှင့် ထက် ပိုမို- လွန်ကဲသူ, ဘုရားမှ တပါး အခြား တစုံ-တဦးသော ရဟန်း—ပုဏ္ဏား မည်သည် ရှိပြီး— ရှိလတ္တံ့—ရှိဆဲ မဟုတ်; ဤသို့ ဘုရားရှင့်အား ကျွန်ုပ် ကြည်ညိုပါသည်— ဟုသော ဤစကား ကား မှန်မြတ်လှ၏; ရဲရင့်စွာ ဆိုသော စကားဖြစ်၏; ကောင်းစွာ ယူအပ်၏; ခြင်္သေ့ဟောက်သို့ မကြောက်—မရွံ့ ပြောဆိုချက်ဖြစ်၏။

၂။ အိုသာရိပုတ္တာ, ရှေး လွန်ပြီး အခါ ဖြစ်ပွင့်တော်မူကြကုန်သော ပွင့်တော်မူ သခင် ဘုရားရှင်တို့ စိတ်တော်ကို, ‘ထို ပွင့်တော် သခင် ဘုရားရှင်တို့သည် ဤသို့ အကျင့် သီလ ရှိကုန်ပြီ ဟု၎င်း, ဤသို့ သမာဓိ-တရား ရှိကုန်ပြီ ဟု၎င်း, ဤသို့ ပညာ- ဥာဏ် ရှိကုန်ပြီ ဟု၎င်း, ဤသို့ နေထိုင်ကြကုန်ပြီ ဟု၎င်း, ဤသို့ ကိလေသာမှ လွတ် ငြိမ်းကြကုန်ပြီ’ ဟု၎င်း, သင်၏ စိတ်ဖြင့် ပိုင်းခြား၍ သိနိုင်ပါသလော?၊ ဤသို့ မသိရ ပါဘုရား၊ အိုသာရိပုတ္တာ, အနာဂတ်အခါ၌ ဖြစ်ပွင့်တော်မူလတ္တံ့ကုန်သော ပွင့်တော်မူ သခင် ဘုရားရှင်တို့ စိတ်တော်ကို, ‘ထို ပွင့်တော် သခင် ဘုရားရှင် တို့သည် ဤသို့ အကျင့်—သီလ ရှိကုန်လတ္တံ့ ဟု၎င်း, ဤသို့ သမာဓိ—တရား ရှိကုန်လတ္တံ့ ဟု၎င်း, ဤသို့ နေထိုင်ကြကုန်လတ္တံ့ ဟု၎င်း, ဤသို့ ကိလေသာမှ လွတ်ငြိမ်းကြ ကုန်လတ္တံ့’ ဟု၎င်း, သင်၏ စိတ်ဖြင့် ပိုင်းခြား၍ သိနိုင်ပါသလော?၊ ဤသို့ လည်း မသိရပါဘုရား၊ အို

သာရိပုတ္တ, ယခု ပစ္စုပ္ပန် ပူဇော်ခံ သခင် ငါဘုရားရှင်၏ စိတ်တော်ကို, 'ဤပုဂ္ဂိုလ်တော် သခင် ဘုရားရှင်သည် ဤသို့ အကျင့်—သီလ, သမာဓိ, တရား, ပညာ, နေထိုင်လေ့, ကိလေသာမှ လွတ်မြောက်ခြင်း ရှိသည်' ဟု, သင်၏ စိတ်ဖြင့် ပိုင်းခြား၍ သိနိုင်ပါသလော?၊ ဤသို့လည်း မသိရပါ ဘုရား။

၃၊ ထိုသာရိပုတ္တ, ဖြစ်ပြီး ဖြစ်လတ္တံ့ ဖြစ်ဆဲ ကာလတို့၌ ပူဇော်ခံ သခင် ဘုရားရှင်တို့ စိတ်ကို သင့်စိတ်ဖြင့် ပိုင်းခြား၍ သိနိုင်သော ဉာဏ် မရှိခဲ့လျှင်, အိုမြတ်စွာဘုရား, သမ္ဗောဓိ ဉာဏ်တော် အရာ၌ ဘုရားရှင်ထက် ပို၍—လွန်ကဲသော ဘုရားရှင်မှ ထပါး အခြား ရဟန်း—ပုဏ္ဏား မည်သည် ရှိခဲ့ပူး, ရှိလတ္တံ့ ရှိဆဲ မဟုတ်; ဤသို့ အားဖြင့် ဘုရားရှင်ကို ကျွန်ုပ် ကြည်ညိုပါသည် ဟူသော ဤမွန်မြတ် ရဲရင့်သော ကော်သာ ခြင်သေ့ ဟောက်သံ စကားကို အဘယ်သို့ အားဖြင့် ပြောဆိုရတုံ သနည်း?၊ မြတ်စွာဘုရား, အကျွန်ုပ်မှာ ဖြစ်ပြီး—ဖြစ်လတ္တံ့—ဖြစ်ဆဲ—ဘုရား သခင်တို့ စိတ်တော်ကို အကျွန်ုပ်၏ စိတ်ဖြင့် ပိုင်းခြား သိနိုင်သော ဉာဏ်ကား မရှိပါ; မြတ်စွာဘုရား, သို့ဖြစ်သော်လည်း ဘုရားဟော တရားတော်ကို အစဉ်လိုက်၍ သိနိုင်ပါသည် ဘုရား၊ မြတ်စွာဘုရား, ဥပမာ အားဖြင့် ဘုရင် မင်းမြတ်၏ တိုင်းစွန် မြို့လက်မှာ ခိုင်ခံ့သော တံခါးခြေ, တံတိုင်း—တုရိုက်းတိုင် ရှိ၍, ထွက်—ဝင်ရန် တံခါး တပေါက် သာ ရှိရာ, ထိုတံခါး၌ တံခါးစောင့်သည် ပညာရှိ၍ လိမ္မာ ရေးခြားလျက်, ထိုးထွင်းသော ဉာဏ်ဖြင့် မသိသူကို ထုတ်ပယ်၍, သိသူကို ဝင်စေ၏။

၄၊ ထိုတံခါးစောင့်သည် တံခါး ပတ်ဝန်းကျင်ကို အစဉ် လှည့်လည်လျှောက် သွား, ကြည့်ရှုသော်, အယုတ်ဆုံး ကြောင် တကောင် ဝင်နိုင်လောက်ရုံမျှသော တံတိုင်း အပေါက်—အပွင့်ကို မတွေ့ရလျှင်, အားလုံး ထင်ရှားသော ပုဂ္ဂိုလ်—သတ္တဝါတို့ ဤမြို့သို့ ဝင်ကြ, ထွက်ကြမူ; ဤတံခါးမှသာ အားလုံး ဝင်ကြ, ထွက်ကြ သည်ဟု သိနိုင်လေ၏၊ မြတ်စွာဘုရား, ဤ အတူပင် လျှင် အကျွန်ုပ်သည် ဘုရားဟော တရားတော်ကို အစဉ်လျှောက်သဖြင့် သိမြင်နိုင်ပါ၏၊ မြတ်စွာဘုရား, အတိတ်ကာလ၌ ဖြစ်ပွင့်တော်မူကုန်ပြီး ပူဇော်ခံ သခင် ဘုရားရှင်တို့သည် လည်း စိတ်ညစ်ကျုကြောင်း, ပညာဉာဏ် အားနည်းကြောင်း ဖြစ်သည့် နီဝရဏ-အပိတ်-အပင် တရား ငါးမျိုးတို့ကို ပယ်စွန့်၍ သတိပဋ္ဌာန် - အမှတ်ထား တရား လေးပါးတို့၌ စိတ်ထား ဆောက်တည် ကုန်လျက်

သမ္ဗောဇ္ဈင်—မဂ်–ဖိုလ်ဉာဏ်၏ အကြောင်း တရား ၇ ပါးတို့ကို ဟုတ်တိုင်း မှန်စွာ ပွားစေကုန်ကာ သာ အတုမဲ့သော သဗ္ဗညုတ–ဉာဏ်တော်သို့ ထိုးထွင်း သိမြင်ကုန်ပြီး အနာဂတ် ဘုရားတို့ လည်း ထို့အတူ သိတော်မူကုန်လတ္တံ့; ယခု ဘုရားရှင်သည် လည်း ထို့အတူ သိတော်မူ၏။

၅၊ မြတ်စွာဘုရား, အကျွန်ုပ်သည် တရား နာယူရန် ဘုရားရှင့်ထံ အကြိမ်–များစွာ ဝင်ရောက်ပါ၏၊ ဘုရားရှင်သည် အကျွန်ုပ်အား လွန်ထက်လွန် † မွန်ထက်မွန် ဖြစ်၍ မည်းနက်–ဖြူဖွေးသော အကျိုးသွား အပြိုင်ရှိ တရားကို ဟောကြားတော်မူ၏၊ ဘုရားရှင် ဟောညွှန်တိုင်းသော တရားတို့ကို ထိုးထွင်း သိရ၍ အချို့ အစိတ်သော တရားများကို ဆုံးဖြတ် သိမြင်ပြီ၊ [ဒေသနာ-ဓမ္မတို့ကို ယူ] ဖူးတော်သခင် သည် မဖောက် မပြန် ကောင်းစွာ သိတော်မူပေစွ, တရားတော်ကို ကောင်းမွန်စွာ ဟောပေစွ; တပည့် သံဃာတော်သည် ကောင်းစွာ ကျင့်ဆောင်ပေစွ ဟု ဘုရားရှင့်အား ကြည်ညိုရပြီ၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း ကုသိုလ် ဆိုင်ရာ တရားတို့၌ ဟောတော်မူခြင်းသည် အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ အဘယ် ကုသိုလ် တရားတို့နည်း?၊ သတိ ထားရာ တရား ၄-ပါး, အားထုတ်ကြောင်း တရား ၄-ပါး, ပြည့်စုံခြင်း အခြေ တရား ၄-ပါး, စောင့်ထိန်းကြောင်း တရား ၅-ပါး, အားအင် တရား ၅-ပါး, မဂ်-ဖိုလ် အသိဉာဏ် ဖြစ်ကြောင်း တရား ၇-ပါး, စင်ဖြူ ဖြောင့်မတ်သော နိဗ္ဗာန်ခရီးလမ်းကြောင်း တရား ၈-ပါး—ဤ မဂ်-ဖိုလ် ဉာဏ်မြင်၏ အပင်း–အသင်း တရား ၃၇-ပါးတို့၌ သာ တစုံ–တဦးသော ရဟန်းသည် သံသရာ-ပင်လယ်၌ နစ်မျောကြောင်း–အာသဝေါတို့ ကုန်ခန်းခြင်း ဖြစ်၍ သံသရာခရီး–အယဉ်မှ ကင်းလျက်, စိတ်၏ လွတ်လပ်ခြင်း, ဉာဏ်ပညာ အမြင်၏ လွတ်လပ်ခြင်း တရားကို ပစ္စက္ခ ကိုယ်သိ ရောက်ဆိုက် နေထိုင်ရလေသည်။

၆၊ ဤ ကုသိုလ် တရား ဆိုင်ရာတို့၌ ဟောတော်မူခြင်းသည် အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ ထိုကုသိုလ် တရားစုကို ဘုရားရှင်သည် အကြွင်းမရှိ သိမြင်တော်မူပါ၏၊ ထို တရားကို သိမြင်သော ဘုရားရှင်မှာ, ထို ကုသိုလ် တရား ဆိုင်ရာတို့၌

---

† မွန်ထက် မွန်သည်ကိုရင်း, မည်းနက် ဖြူဖွေးသော အကျိုးသွား အပြိုင် ရှိသည်ကိုရင်း ပြ၍ တရားကိုဟု U.K.D. က မြန်မာ ပြန်ဆိုလို၏။

ဘုရားရှင်ထက် ပိုမို–လွန်ကဲ၍ သိနိုင်သည့် တပါးသော ရဟန်း–ပုဏ္ဏား တစုံတ
မည်သည် ဘုရားရှင်မှ တပါး အခြား မရှိသည် သာ တည်း၊ မြတ်စွာ ဘုရား, ထိ
တပါး လည်း အာယတန ပညတ်တို့၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အထ
မဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ မြတ်စွာ ဘုရား, အာယတနတို့သည်, မျက်စိနှင့် အဆင်
နားနှင့် အသံ, နှာခေါင်းနှင့် အနံ့, လျှာနှင့် အရသာ, ကိုယ်နှင့် အတွေ့, စိတ်နှစ်လုံးန
သဘော–တရား-ဟူ အတွင်း အပြင် ၆–မျိုးစီ ရှိကုန်၏၊ မြတ်စွာ ဘုရား, ဤ
အာယတန (တည်ရာ) တရားတို့ကို ပညတ်ရေး၌ ဟောတော်မူခြင်းသည် လည်း အတု
ထူးခြား မြင့်မြတ်လှပါ၏၊ ထို အာယတနစုကို ဘုရားရှင် အကြွင်းမဲ့ သိတော်မူ
အာယတန–ပညတ် ဆိုင်ရာ၌ ဘုရားရှင်ထက် ပိုမို–လွန်ကဲ၍ သိမြင် နိုင်သည့် တပ
သော ရဟန်း–ပုဏ္ဏား မည်သည် ဘုရားမှ တပါး အခြား မရှိပါ။

၇၊ မြတ်စွာ ဘုရား, ထို့မှ တပါး, ဘုရားရှင်သည် ကိုယ်ဝန် သက်ရော
တည်နေခြင်း ဆိုင်ရာ၌ ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏
မြတ်စွာ ဘုရား, ကိုယ်ဝန်သို့ သက်ရောက် တည်နေခြင်းတို့သည် လေးမျိုး ဖြစ်ကုန်၏
မြတ်စွာ ဘုရား, ဤလောက၌ အချို့သူသည် အမြော်အမြင် ဉာဏ် မရှိပဲ အမိဝမ်း
သက်ရောက်၏; အမြော် အမြင် ဉာဏ် မရှိပဲ အမိဝမ်း၌ ကိန်းနေ၏, အမြော်-အမြ
ဉာဏ် မရှိပဲ အမိဝမ်းမှ ထွက်၏၊ ဤကား ပဌမ ကိုယ်ဝန် တည်နေသူ အမျိုး-အစာ
ပါတည်း၊ မြတ်စွာ ဘုရား, ထို့မှ တပါး ဤလောက၌ အချို့သူသည် အမြော်-အမြ
ဉာဏ်ရှိ၍ အမိဝမ်းသို့ သက်ရောက်၏, အမြော်-အမြင် ဉာဏ် မရှိပဲ, အမိဝမ်း၌ ကိန်းနေ၏
အမြော်-အမြင် ဉာဏ် မရှိပဲ ပင် အမိဝမ်းမှ ထွက်၏၊ ဤကား ဒုတိယ ကိုယ်ဝ
တည်နေသူ အမျိုး–အစား ပါတည်း၊ မြတ်စွာဘုရား, ထို့မှ တပါး ဤလောက၌ အချို့
သူသည် အမြော်-အမြင် ဉာဏ် ရှိ၍ အမိဝမ်းသို့ သက်ရောက်၏, အမြော်-အမြင် ဉာဏ်ရှိ၍
ပင် အမိဝမ်း၌ ကိန်းနေ၏, သို့ရာတွင်, အမြော်-အမြင် ဉာဏ် မရှိပဲ အမိဝမ်းမှ ထွက်၏၊ ဤ
ကား တတိယ ကိုယ်ဝန်တည် နေသူ အမျိုး-အစားပါတည်း။ မြတ်စွာဘုရား, ဤ လောက၌
အချို့ သူသည် အမြော်-အမြင် ဉာဏ် ရှိ၍ အမိဝမ်းသို့ သက်ရောက်၏; အမြော်-အမြ
ဉာဏ်ရှိ၍ ပင် အမိဝမ်း၌ ကိန်းနေ၏, အမြော်-အမြင် ဉာဏ် ရှိ၍ ပင် အမိဝမ်းမှ ထွက်၏၊
ဤကား စတုတ္ထ ကိုယ်ဝန် တည်နေသူ အမျိုး-အစား ပါတည်း၊ မြတ်စွာ ဘုရား,
ဤ ကိုယ်ဝန် တည်နေခြင်း ဆိုင်ရာ၌ ဘုရား ဟောတော်မူခြင်းသည် လည်း အတုမဲ့
ထူးခြား မြင့်မြတ်လှပါ၏။

၈၊ မြတ်စွာ ဘုရား, ထိုမှ တပါး ညွှန်ကြားခြင်း အမျိုး–အစားတို့၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ မြတ်စွာ ဘုရား, ညွှန်ကြားခြင်းတို့သည် လေးမျိုး ရှိကုန်၏၊ မြတ်စွာ ဘုရား, ဤလောက၌ အချို့ပုဂ္ဂိုလ်သည် အရိပ်–နိမိတ်ဖြင့်၊ 'သင် ဤသို့ စိတ်ကူးသည်, ဤသို့ကြံစည်သည်, ဤသို့ တွေးတောသည်' ဟု ညွှန်ကြား၏၊ ထို သူသည် များစွာ ပင် ညွှန်ကြားသော် လည်း, ညွှန်တိုင်း မှန်၏, အမှား မရှိချေ၊ ဤကား ပထမ ညွှန်ချက် အမျိုး–အစား ပါတည်း၊ မြတ်စွာ ဘုရား, ထို့ပြင် အချို့ သူသည် အရိပ်–နိမိတ်ဖြင့် မညွှန်ကြား, လူ သူရဲ သူဖက် နတ်များ၏၊ အသံကို နားထောင်၍, 'သင် စိတ် ဤသို့ကြံသည်, စည်သည်, အောက်မေ့သည်' ဟု ညွှန်ကြား၏၊ ထို သူသည် များစွာ ညွှန်စေကာ, ညွှန်တိုင်း မှန်၏, အမှား မရှိချေ၊ ဤကား ဒုတိယ ညွှန်ကြားခြင်း အမျိုး–အစား ပါတည်း၊ မြတ်စွာ ဘုရား, အချို့ သူသည် အရိပ်–နိမိတ်ဖြင့် လည်း မညွှန်ကြား, လူ သူရဲ သူဖက် နတ်တို့ အသံကို နား ထောင်၍ လည်း မညွှန်ကြား, စင်စစ်ကား ကြံစည် စိတ်ကူးသော သူ၏ အကြံ အတိုင်း ပေါ်ထွက်သော အသံကို နားထောင်၍ သာ, 'ဤသို့ သင် စိတ်ကူးသည်, ကြံစည်သည်, တွေးတောသည်' ဟု ညွှန်ကြား၏၊ ထိုသူ လည်း များစွာ ပင် ညွှန်စေကာ, ညွှန်တိုင်း မှန်၏, အမှား မရှိချေ၊ ဤကား တတိယ ညွှန်ကြားခြင်း အမျိုးအစားပါတည်း၊ မြတ်စွာ ဘုရား, အချို့ကား ဤသို့ မဟုတ်, ကြံစည်–စိတ်ကူးခြင်း၌ တည်ကြည်စွာ ဖြစ်စေ၍, 'ဤသူ၏ စိတ်သည် ဤသို့ထား၏ အတွင်း စိတ်မှာ ဤသို့ ကြံစည်–စိတ်ကူးရာ၏' ဟု စိတ်ကို စိတ်ဖြင့် ပိုင်းခြား သိ၏၊ ထိုသူ လည်း များစွာ ပင် ညွှန်ကြားစေကာ, ညွှန်တိုင်း မှန်၏, အမှား မရှိချေ၊ ဤ ညွှန်ကြားခြင်း အမျိုး–အစားတို့၌ ဘုရားရှင်ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏။

၉၊ မြတ်စွာ ဘုရား, ဘုရားရှင်သည် ဥာဏ်မြင် ဆိုက်ရောက်ခြင်း အမျိုး–အစား တို့၌ ဟောကြားတော် မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ မြတ်စွာ ဘုရား, ဥာဏ်–အမြင် ဆိုက်ရောက်ခြင်းတို့သည် လေးမျိုး ရှိကုန်၏၊ မြတ်စွာ ဘုရား, ဤ လောက၌ ရဟန်း ဖြစ်စေ, ပုဏ္ဏား ဖြစ်စေ အချို့ သူသည် လုံ့လ ထုတ်ခြင်းကို ထွဲ၍, အားထုတ်ခြင်းကို မှီ၍, ကြိုးစားခြင်းကို အခြေခံ၍, မမေ့–မလျော့ခြင်းကို အားထား၍, ကောင်းစွာ နှလုံး သွင်းခြင်းကို ကိုးစား၍, စိတ်ထား

တည်ကြည် သဖြင့် ခြေဖဝါးပြင်မှ အထက်, ဆံဖျားမှ အောက် အရေဖြင့် ပတ်ဝ
ကျင် ပိုင်းခြားသော ဤ ကိုယ်ကို အမျိုးမျိုး အစားစားသော မစင်ကြယ်သည့် အ
ဝတ္ထုဖြင့် ပြည့်၏ ဟု ဆင်ခြင်၏၊ ဆိုလိုရင်းကား—ဤ ကိုယ်ကောင်၌ ဆံ, အမွေ
ခြေသည်း-လက်သည်း, သွား, အရေ, အသား, အကြော, အရိုး, ချဉ်ဆီ, အညို့, နှစ်လုံ
အသဲ, အမြှေး, အဖျဉ်း, အဆုပ်, အူမ, အူသိမ်, အစာသစ်, အစာဟောင်း, ဦးနှောက်
သည်းခြေ, သလိပ်, ပြည်, သွေး, ချွေး, အဆီပြင်, မျက်ရည်, အဆီကြည်, တံတွေ
နှပ်, အစေး, ကျင်ငယ်; ဤ ကိုယ် အစု ၃၂-တို့ ရှိကုန်၏ ဟု ဆင်ခြင်၏၊ ဤကာ
ပထမ ဉာဏ် အမြင် ရောက်ခြင်း ဖြစ်ပါ၏။

၁၀၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း ဤလောက၌ အချို့သော ရဟန်
ပုဏ္ဏားသည် လုံ့လ ကြိုးကုတ် အားထုတ်ခြင်းကို စွဲ၍....စိတ်တည်တံ့ခြင်း သမာ
ဖြစ်လတ်သော်, ခြေဖဝါးပြင်မှ အထက်, ဆံဖျားမှ အောက် အရေဖြင့် ထက်ဝန်းကျ
ပိုင်းခြားအပ်သော ဤကိုယ်ကောင်ကို သာ အထွေထွေ အထူးထူးသော မစင်ကြ
သော အရာ—ဝတ္ထုမျိုးဖြင့် ပြည့်နှက်၏ ဟု ဆင်ခြင်၏၊ ဆိုလိုရင်းကား—ဤကို
ကောင်၌ ဆံ, အမွေး, ခြေသည်း—လက်သည်း,—ပေ—အစေး, ကျင်ငယ် ဟု ၃၂-ပါ
သော အစုအပုံ အားဖြင့် ကြည့်ရှု ဆင်ခြင်လေ၏၊ ပုဂ္ဂိုလ်၏, အရေ, အသား, အ
သွေးကို, ကျော်လွန်၍, အရိုးကို ဆင်ခြင်၏၊ ဤကား ဒုတိယ ဉာဏ် အမြင် ရောက်
ခြင်း ပါတည်း၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း ဤလောက၌ ရဟန်းသည် ရင်
ပုဏ္ဏားသည် ရင်, လုံ့လကို အမှီ ပြု၍....စိတ်တည်တံ့ခြင်း သမာဓိသို့ ရောက်ရှိလတ်
သော်, ခြေဖဝါး အပြင်မှ အထက်, ဆံဖျားမှ အောက်, အရေဖြင့် ပတ်ဝန်းကျင် ပိုင်
ခြားအပ်သော ဤကိုယ်ကို သာ အထွေထွေ အထူးထူးသော မစင်ကြယ်သော အရာ
ဝတ္ထုတို့ဖြင့် ပြည့်နှက်၏ ဟု ဆင်ခြင်လေ၏၊ အဓိပ္ပါယ်ကား— ဤ ကိုယ်ကောင်၌
ဆံ, အမွေး, ခြေသည်း-လက်သည်း-ပေ-အစေး, ကျင်ငယ် ဟု ၃၂-ပါးသော အစု
အပုံတို့ကို ကြည့်ရှု ဆင်ခြင်၏၊ ပုဂ္ဂိုလ်၏ အရေ, အသား, အသွေးကို လွန်၍, အရိုး
ကို ဆင်ခြင်၏၊ ပုဂ္ဂိုလ်၏, ဤပစ္စက္ခ—လောက၌ တည်နေခြင်း, တမလွန် ဘဝ လောက
တပါး၌ တည်နေခြင်း ဖြစ်၍, † ဘဝ ၂-မျိုးစုံ အားဖြင့် အစဉ် မပြတ် ဆက်စ
ဖြစ်ပျက်သော ဝိဉာဏ်စိတ် အယဉ်ကို လည်း သိမြင်လေ၏၊ ဤကား တတိယ ဉာဏ်
အမြင် ရောက်ခြင်း ပါတည်း။

---

† ပါဠိ၌ ဗြာဟ္မဏ အယူ၌ ဤ တတိယဉာဏ် အမြင်ပါ တဘဝနှင့် တဘဝ အစဉ် မပြတ်
တည်နေသော ဝိညာဉ်မှုကို မြင်၍, မြဲ၏ ဟု ဆို၏၊ ၎င်းဝိညာဉ်ကို ထာဝရ—ဘုရား၏ အံသ
သဏ္ဍီ-အဓိတ်—အာတမ ဟု ခေါ်၏။

၁၁၊ မြတ်စွာဘုရား, ထို့မှ တပါး လည်း ဤလောက၌ အချို့ ရဟန်း-ပုဏ္ဏား သည် လုံ့လကို မှီ၍......တည်တံ့သော သမာဓိ ဖြစ်လတ်သော်, ဤကိုယ် ကို- ဆုံ, အမွေး-စသည် ဤ ပစ္စက္ခ-လောက၌ မတည်နေခြင်း, တမလွန် ဘဝ၌ မတည် နေခြင်း သဘော ရှိ၍, ရှေ့-နောက် ဘဝ ၂-ချက်၌ အဆက်မပြတ် ဖြစ်ပွားသော ဝိညာဏ် အယဉ်ကို သိ၏၊ ဤကား စတုတ္ထ ဉာဏ် အမြင် ရောက်ခြင်း ပါတည်း၊ မြတ်စွာ ဘုရား, ဤ ဉာဏ်-အမြင် ရောက်ပေါက်ခြင်းတို့၌ လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ မြတ်စွာ ဘုရား, ထို့မှ တပါး လည်း ပုဂ္ဂိုလ် အမျိုး-အစား ခွဲခြား ပညတ်ခြင်းတို့၌ ဘုရားရှင် ဟောကြားတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်လှပါ၏၊ မြတ်စွာ ဘုရား, ပုဂ္ဂိုလ်တို့သည် ဝိမောက္ခ-ရှစ်ပါး ရခြင်း, အရဟတ္တ ဖိုလ် ရခြင်း ဟူသော ၂-ပါးစုံ အားဖြင့် ဘဝမှ လွတ်သော ပုဂ္ဂိုလ်, ဝိမောက္ခ ရှစ်ပါး ကို မရမူ၍, အရဟတ္တဖိုလ်-ပညာဖြင့် သာ ဘဝမှ လွတ်သော ပုဂ္ဂိုလ်, ရှေးဦးစွာ ဈာန်ကို ကိုယ်တွေ့ ဖြစ်ပြီးနောက် မဂ်-ဖိုလ်ကို ရသော ပုဂ္ဂိုလ်, သစ္စာ လေးပါးကို သိ၍, မဂ်-ဖိုလ် ရသော ပုဂ္ဂိုလ်, သစ္စာ လေးပါးကို ယုံကြည် သဖြင့် သိမြင်၍, ဘဝမှ လွတ်လပ်သော ပုဂ္ဂိုလ်, ပညာ ရှေးသွားပြု၍, မဂ်-ဖိုလ်သို့ ရောက်သောပုဂ္ဂိုလ်, ယုံကြည်ခြင်း ရှေ့ထား၍, မဂ်-ဖိုလ်သို့ ရောက်သော ပုဂ္ဂိုလ် ဟု ၇-မျိုး ရှိကုန်၏၊ ဤ ပုဂ္ဂိုလ် ပညတ်ရေးတို့၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့, ထူးခြား မြင့်မြတ်လှပါ၏။

၁၂၊ မြတ်စွာ ဘုရား, ထို့မှ တပါး အားထုတ်ကြောင်း တရားတို့၌ ဘုရားရှင် ဘုရား ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား မဂ်-ဖိုလ် အင်္ဂါ-မဂ်-ဖိုလ် သိမြင်ကြောင်း- သံဗောဇ္ဈင် တရားတို့ သည် မဂ်-ဖိုလ် ရောက်ကြောင်း ဖြစ်သော ကုသိုလ်ကို အောက်မေ့ခြင်း သတိ- တရား, တရား ဆည်းပူးခြင်း ပညာ-တရား, အားထုတ်ခြင်း ဝီရိယ-တရား, နှစ်သက် ခြင်း ပီတိ-တရား, ကိုယ်စိတ် အေးမြခြင်း, ပဿဒ္ဓိ-တရား, တည်ကြည်ခြင်း သမာဓိ တရား, လျစ်လျူရှုခြင်း ဥပေက္ခာ-တရား ဟု ၇-မျိုး ဖြစ်ကုန်၏၊ မြတ်စွာ ဘုရား, ဤ အားထုတ်ရေး တရားတို့၌ ဘုရားရှင် ဟောတော် မူခြင်းသည် လည်း အတုမဲ့,

---

† ဟိန္ဒူမြဗ္ဗတ အယူ၌ ဗြဟ္မာ၏ ဟု ဆိုသော ထာဝရ-ဘုရား၏, အာသ-အာတမ ခေါ် ဝိဉာဉ် ... အမြင်မျိုးသိ မရောက်ချေ။

ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, ထိုမှ တပါး, အကျင့် ခရီး ဆိုင်ရာတို့၌ ဘုရားရှင် ဟောပြတော်မူခြင်းသည် လည်း အတုမဲ့, ထူးကဲ မြင့်မြတ်သည် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, အကျင့် ခရီးလမ်းတို့သည်, ဆင်းရဲးစွာ, ကျင့်၍. လျင်မြန် သိမြင်ခြင်း, ချမ်းသာစွာ ကျင့်၍. လေးကန်စွာ သိမြင်ခြင်း, ချမ်းသာစွာ ကျ လျင်စွာ သိမြင်ခြင်း ဆင်းရဲးစွာ ကျင့်၍. လေးကန်စွာ သိခြင်း ဟု လေးမျိုး ရှိကု မြတ်စွာ ဘုရား, ထို–လေးမျိုး အနက်, ဆင်းရဲး၍. အသိ လေးဖင့်သော အကျ ဆင်းရဲးခြင်း, လေးဖင့်ခြင်း ၂ မျိုးစုံ အားဖြင့် ယုတ်ညံ့သည် ဟု ဆိုအပ်ပါ၏၊ ဆင်းရဲ အသိ လျင်သော အကျင့်ကို လည်း ဆင်းရဲးသောကြောင့် ယုတ်ညံ့သည် ဟု ဆိုအပ်ပ ချမ်းသာ၍. အသိ လေးဖင့်သော အကျင့်ကို လည်း အသိ လေးဖင့်သောကြေ ယုတ်ညံ့သည် ဟု ဆိုအပ်ပါ၏၊ ချမ်းသာ၍. အသိဉာဏ် လျင်သော အကျင့်ကို ချမ်း ခြင်း, လျင်မြန်ခြင်း ၂-မျိုးစုံကြောင့် မွန်မြတ်သည် ဟု ဆိုအပ်ပါ၏၊ ဤ အကျင့် ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ မြင့်မြတ်သည် ပင် ဖြစ်၏။

၁၃၊ မြတ်စွာ ဘုရား, စကား ပြောဆိုလေ့ အကျင့်တို့၌ ဘုရားရှင် ဟောတေ ခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာဘုရား, လောက၌ အချို့သူသည် မုသားနှင့် စပ်သော စကားကို မဆို, ကွဲပြားကြောင်း စက ကုန်း စကား, ချုပ်ချယ် စကားတို့ကို အနိုင် ရလို၍. မဆို, နိုင်းချိန်၍. သာ သင့်ေ သော အခါ အပိုင်း-အခြား ထား၍. စကား ဆို၏၊ မြတ်စွာ ဘုရား, ဤ စကား ဆိုရာ အလေ့ အကျင့်၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, ပုဂ္ဂိုလ်၏ သီလ-အကျင့် အလေ့ ဆိုင် ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပ မြတ်စွာ ဘုရား, အချို့ ပုဂ္ဂိုလ်သည် တော်မှန်–ရိုးဖြောင့်၏; ယုံကြည်ဖွယ်ရှိ မစည်းလဲးတတ်, မပလွှားတတ်, အရိပ်–နိမိတ် မပြုတတ်, ကွယ်ရာ၌ အပြစ် မဆိုေ လာဘ်ဖြင့် လာဘ်ရအောင် မရှာမှီး ဣန္ဒြေ စောင့်၏, အစား၌ အတိုင်း–အရှည် ဉာဏ်ဆင်ခြင်၍. ပြုလေ့ ရှိ၏, အမြဲး မပြတ် နိုးကြား၏; မပျင်းရိတတ်, လုံ့လ စိုက် ကြံဆင်ခြင်၏; သတိ ထား၏; ဉာဏ်ကောင်းစွာ ထင်၏; ဉာဏ် သွား၏; ဉ

ရှိ၏ ; ပညာ အခြေတယ် ရှိ၏; ကာမဂုဏ်တို့၌ လည်း မတတ်မက် ; သတိ ရှိ၏ ; ပညာ ဥာဏ် ရင့်၏၊ မြတ်စွာ ဘုရား, ဤ ပုဂ္ဂိုလ်၏၊ သီလ – အကျင့် ဆိုင်ရာ၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏။

၁၄၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း အဆုံး – အမ အမျိုး – အစားတို့၌ ဘုရားရှင် ဟောကြားတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, အဆုံး – အမ ◆ အမျိုး - အစားတို့သည် လေးမျိုး ရှိကုန်၏၊ မြတ်စွာ ဘုရား, ဘုရားရှင်သည်, 'ဤ ပုဂ္ဂိုလ်ကား အကြောင်းအား လျော်စွာ နှစ်လုံး ထား၍, ဆုံးမတိုင်း ကျင့်ခဲ့သော်, အပါယ်ဖွဲ့ကြီး ၂ - မျိုးကို ဖြတ်တောက် ပြီးလျှင်, အပါယ်မကျ, မြဲစွဲ၍, အထက် မဂ် - ဖိုလ် ရောက်ဖွယ် ရှိသော သောတာပန် ဖြစ်လတ္တံ့', ဟု တပါးသော ပုဂ္ဂိုလ်၏, အတွင်း စိတ်ဓာတ်ကို သိတော်မူ၏၊ မြတ်စွာ ဘုရား, ဘုရားရှင်သည်, 'ဤ ပုဂ္ဂိုလ်ကား အကြောင်းအား လျော်စွာ နှစ်လုံး ထား၍, ဆုံးမတိုင်း ကျင့်ခဲ့သော်, အပါယ် ဖွဲ့ကြီး ၃ - မျိုးကို ဖြတ်တောက်ပြီးလျှင်, တပ်မက်ခြင်း, အမျက်ထွက်ခြင်း, တွေဝေခြင်းများကို ခေါင်းပါးစေလျက် တကြိမ် သာ ဤ ကာမဘုံ၌ ဖြစ်၍, ဒုက္ခ ဆုံးလတ္တံ့သော သကဒါဂါမ် ဖြစ်လိမ့်မည်' ဟု တပါးသော ပုဂ္ဂိုလ်၏, အတွင်း စိတ်ဓာတ်ကို သိတော်မူ၏။

၁၅၊ မြတ်စွာ ဘုရား, ဘုရားရှင်သည်, 'ဤ ပုဂ္ဂိုလ်ကား အကြောင်းအား လျော်စွာ နှစ်လုံး ထား၍, ဆုံးမညွှန်ကြားတိုင်း ကျင့်ခဲ့သော်, ကာမဓာတ် အတွင်း၌ ဆက်စပ်သော ဖွဲ့ကြီး ၅-မျိုးတို့ကို ဖြတ်ပယ်ပြီးလျှင်, ဗြဟ္မာ့ပြည်၌ သာ ပရိနိဗ္ဗာန် ပြုလျက် ဗြဟ္မာ့ပြည်မှ မပြန်လှာပဲ ကိုယ်ထင်ရှား ပဋိသန္ဓေ – နေသူ အနာဂါမ် ဖြစ်လိမ့်မည်' ဟု, သူတပါး၏, အတွင်း စိတ်ဓာတ်ကို သိတော်မူ၏၊ မြတ်စွာ ဘုရား, ဘုရားရှင်သည်, 'ဤသူကား အကြောင်း အားလျော်စွာ နှစ်လုံး ထား၍ ဆုံးမတိုင်း ကျင့်ခဲ့သော်, သံသရာသွား ဝဋ် – အယဉ် ကုန်ခန်းပြီးလျှင်, ဝဋ်-အယဉ် ကင်းသော စိတ်၏, လွတ်လပ်ရာ, ပညာ၏, လွတ်လပ်ရာကို ပစ္စက္ခတွင် ပင် ကိုယ်သိ ရဟန္တာ ဖြစ်ရလတ္တံ့.' ဟု, သူတပါး၏, အတွင်း စိတ်ဓာတ်ကို သိတော်မူ၏၊ မြတ်စွာ ဘုရား, ဤ အဆုံး – အမ အမျိုး – အစားတို့၌ ဘုရာရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့

ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း တပါး သော ပုဂ္ဂိုလ်၏ လွတ်လပ်ရေး ဉာဏ်–အရာ၌ ဘုရားရှင် ဟောတော် မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, ဘုရားရှင် သည်, 'ဤပုဂ္ဂိုလ်ကား အကြောင်းအား လျော်စွာ နှစ်လုံး ထား၍, အပါယ်ကြီး ၃-ကြောင်းကို ဖြတ်တောက်ပြီးလျှင်, အပါယ် မလားရ, မြဲစွဲစွာ အထက် မဂ်–ဖိုလ် ရောက်မည့် သောတာပန် ဖြစ်လိမ့်မည်, သကဒါဂါမ် ဖြစ်လိမ့်မည်, အနာဂါမ် ဖြစ်လိမ့်မည်, ရဟန္တာဖြစ်လိမ့်မည်' ဟု, တပါးသော ပုဂ္ဂိုလ်၏ အတွင်း စိတ်ဓါတ်ကို သိတော်မူ၏၊ မြတ်စွာ ဘုရား, ဤ သူတပါးတို့ လွတ်လပ်ရေး ဉာဏ် ထိုင်ရာ၌ ဘုရား ရှင် ဟောတော် မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏။

၁၆၊ မြတ်စွာ ဘုရား, ထိုမှ တပါး လည်း မြဲ၏ ဟု စွဲယူသော ဘာသာဝါဒ တို့၌ ဘုရားရှင် ဟောညွှန်တော် မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာ ဘုရား, မြဲ၏ ဟု စွဲယူသော အယူတို့သည် ၂ မျိုး ဖြစ်ကုန်၏၊ မြတ်စွာ ဘုရား, ဤ လောက၌ အချို့ ရဟန်း–ပုဏ္ဏားသည် လုံ့လကို အစွဲပြု၍, ....စိတ်၏ တည်တံ့ခြင်းသို့ ရောက် ရှိသော် များလှစွာသော ရှေးနေပြီး ဘဝများကို အောက်မေ့ နိုင်၏၊ အောက်မေ့နိုင်ပုံကား တဘဝကို လည်း အောက်မေ့နိုင်၏;–၂ ဘဝ, ၃ ဘဝ, ၄ ဘဝ, ၅-၆-၇-၈-၉ ဘဝ, ၁၀ ဘဝ, ဘဝ ၂၀, ဘဝ ၃၀, ဘဝ ၄၀, ဘဝ ၅၀, ဘဝ တရာ, ဘဝ အထောင်, ဘဝ အသိန်း, ဘဝ ရာပေါင်း များစွာ, ဘဝ ထောင်ပေါင်း များစွာ, ဘဝသိန်းပေါင်း များစွာတို့ ပတ်လုံး, 'ဤမည်သော ဘဝ၌ ငါ ဖြစ်ခဲ့ပြီ; ဤသို့ အမည် ရှိပြီ; ဤသို့ အနွယ်–ရှိပြီ; ဤသို့ အဆင်းရှိပြီ; ဤသို့ အစာ - အာဟာရ ရှိပြီ; ဤသို့ ချမ်းသာ - ဆင်းရဲ ခံစံရပြီ; ဤမျှ အသက်ပိုင်း ရှိပြီ၊ ငါသည် ထို ဘဝမှ သေလွန်ပြန်၍,, ဤ မည်သော ဘဝ၌ ဖြစ်ခဲ့ပြီ; ထို ဘဝ၌ လည်း ဤသို့ အမည် - အနွယ် - အဆင်း - အစာ-ချမ်းသာ - ဆင်းရဲ ဤသို့ အသက်ပိုင်း ရှိပြီ၊ ငါသည် ထိုဘဝမှ သေလွန်၍, ဤပစ္စုပ္ပန် ဘဝ၌ ဖြစ်လာ၏ ဟု သိနိုင်၏၊ဤသို့ နေထိုင်ပုံ အခြင်း–အရာ ရည်ညွှန်းချက်နှင့် တကွ ရှေး နေဖူးသော ဘဝ များစွာကို အောက်မေ့ နိုင်၏။

၁၇၊ ထိုသူသည်, 'ငါကား အတိတ်ကာလကို လည်း သိ၏; ကမ္ဘာ လောကသည် ပျက် လည်း ပျက်ပြီ, ဖြစ် လည်း ဖြစ်ပြီ၊ အနာဂတ် ကာလကို လည်း သိ၏;—လောကသည် ပျက် လည်း ပျက်လတ္တံ့, ဖြစ် လည်း ဖြစ်လတ္တံ့၊ အတ္တ ခေါ်သော ကိုယ်နှင့် လောကကြီးသည် မြဲ၏, မြဲ၏; ကျောက် တောင်ထွတ်သို့ တည်၏, တံခါးတိုင် တည်ပုံ မတုန်-မလှုပ် တည်၏၊ စင်စစ်ကား ထိုသတ္တဝါတို့ သာ ပြေးသွားကုန်၏; ကြွင်လည် ကုန်၏; သေလွန်ကုန်၏; ဖြစ်ပျက်ကုန်၏; မြဲသော ကမ္ဘာ-နေ-လ-နှင့် တူသော မြဲစွဲခြင်းကား ရှိသည် သာ တည်း'ဟု ဆိုလေပြီ၊ ဤကား ပထမ မြဲသော အယူပါတည်း။ [ သဿတော အတ္တာ စ လောကော စ'ဋ္ဌ အတ္တ ဟူသည် စိတ်—ဝိညာဏ်တည်း, လောက ဟူသည် လည်း ၎င်း ပင်၊ သို့မဟုတ်, အစ မတုံးသော ကမ္ဘာ လောကတည်း, ၎င်းကို ဟိန္ဒူတို့က 'အာတမ' ဟု ၎င်း, ခရစ်ယာန်တို့က 'Eden zone'—အီဒင်န် ဇုံးန် ဟု ၎င်း ခေါ်ကြ၏၊ ] မြတ်စွာ ဘုရား, ထိုမှ တပါး လည်း ဤ လောက၌ အချို့ ရဟန်း-ပုဏ္ဏားတို့သည် လုံ့လ ထုတ်ခြင်းကို စွဲ၍............ စိတ်တည်ကြည်ခြင်း ဖြစ်လတ်သော်, ရှေး၌ နေဖူးသော ဘဝများစွာကို အောက်မေ့နိုင်သည်ကား, ဖြစ်ကပ် ပျက်ကပ် တခု, ၂, ၃, ၄, ၅, ၁၀—တို့ ပတ်လုံး ဤမည်သော ကပ် ဘဝ၌ ဖြစ်ပြီ, ဤသို့ အမည်-အနွယ်-အဆင်း-အစာ-ချမ်းသာ-ဆင်းရဲ-အသက်ပိုင်း ရှိပြီ၊ ငါသည် ထိုကပ် ဘဝမှ သေလွန်၍ ဤမည်သော ဘဝ၌ ဖြစ်ပြီ။

၁၈၊ ထို ဘဝ၌ လည်း ဤသို့ အမည်-အနွယ်-အဆင်း-အစာ-ချမ်းသာ-ဆင်းရဲ-အသက်ပိုင်း ရှိပြီ၊ ငါသည် ထိုမှ သေလွန်၍ ဤ ကပ်ဘဝ၌ ဖြစ်၏ ဟု အောက်မေ့နိုင်၏၊ ထိုသို့ ဖြစ်ပျက်ပုံ အခြင်း—အရာ ညွှန်ချက်နှင့် တကွ ဖြစ်ဖူးသော ဘဝများစွာကို အောက်မေ့နိုင်၏၊ ထိုသူသည်, 'ငါကား အတိတ် ကာလ၌ လည်း ဘဝများစွာကို သိ၏,—ကမ္ဘာ လောကသည် ပျက် လည်း ပျက်, ဖြစ် လည်း ဖြစ်ပြီ၊ အနာဂတ် ကာလ၌ လည်း ဘဝ များစွာ ငါသိ၏; ကမ္ဘာလောကသည် ပျက် လည်း ပျက်, ဖြစ် လည်း ဖြစ်လတ္တံ့၊ အတ္တ ခေါ်သော ကိုယ်နှင့် လောကကြီးသည် သာ မြဲ၏; မြဲ၏; ကျောက် တောင်ထွတ်သို့ တည်၏; တံခါးတိုင် တည်ပုံ မတုန်—မလှုပ် တည်၏၊ စင်စစ်ကား သတ္တဝါတို့ သာ ပြေးသွားကုန်၏; ကြွင်လည်ကုန်၏; သေလွန်ကုန်၏; ဖြစ်ပျက်ကုန်၏; မြဲသော ကမ္ဘာ နေ-လနှင့် တူသော မြဲခြင်း သဘောကား ရှိသည် တည်း'ဟု ဆိုပြီ၊ ဤကား ဒုတိယ မြဲသော အယူပါတည်း။

၁၉၊ မြတ်စွာ ဘုရား, ထိုမှ တပါး, ဤလောက၌ အချို့ ရဟန်း—ပုဏ္ဏားသည် လုံ့လကို အစွဲပြု၍........စိတ် တည်ကြည် လတ်သော်, ရှေး နေပြီး ဘဝ များစွာကို အောက်မေ့၏၊ အောက်မေ့နိုင်သည်ကား ပျက်ကပ် ၁, ၂, ၃, ၄, ၅, ၁၀, ၃၀, ၄၀—တို့ ပတ်လုံး, ဤမည်သော ဘဝ၌ ဤသို့ အမည်-အမျိုး—စသည် ဖြစ်ပြီ၊ ငါသည် ထိုမှ သေလွန်၍, ဤမည်သော ဤသို့သော ဘဝ၌ ဤသို့ အမည်-အမျိုး—စသည် ဖြစ်ပြီး ထို ဘဝမှ ဤ ဘဝ၌ ဖြစ်၏ ဟု အောက်မေ့နိုင်၏၊ ထိုသို့ ဖြစ်ရပုံ အခြင်း-အရာ, ရည်ညွှန်းချက်နှင့် တကွ ဘဝ များစွာကို အောက်မေ့နိုင်၏၊ ၎င်းသည်, 'ငါကား အတိတ်အနာဂတ် ကာလ ဘဝများစွာကို သိ၏; ကမ္ဘာ—လောကသည် ပျက် လည်း ပျက်, ဖြစ် လည်း ဖြစ်၏; အတ္တ ခေါ် ကိုယ်၌ ဖြစ်တည်သော လောကကား မြဲ၏; မြဲ၏; ကျောက်တောင်ထွတ်သို့ တည်၏; တံခါးခုံ မြဲစွဲပုံ မြဲ၍ တည်၏၊ စင်စစ်ကား သတ္တဝါတို့သာ လှည့်လည် ဖြစ်ပျက်ကုန်၏, မြဲသော သဘောကား ရှိသည်သာ တည်း' ဟု ဆိုပြီ၊ မြတ်စွာဘုရား, ဤကား တတိယ မြဲသော အယူ ပါတည်း၊ မြတ်စွာဘုရား, ဤ မြဲသော အယူဝါဒတို့၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့၊ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏။

၂၀၊ မြတ်စွာ ဘုရား, ထိုမှ တပါး ရှေးဘဝကို အောက်မေ့ သိမြင်ရာ၌ ဘုရားရှင် ဟောညွှန်တော် မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ · မြတ်စွာ ဘုရား, ဤလောက၌ အချို့သော ရဟန်း—ပုဏ္ဏားတို့သည် လုံ့လကို မှီ၍....တည်ကြည်စွာ ဖြစ်လေလျှင်, အဘယ် ရှေးဟောင်းဘဝများကို အောက်မေ့ သနည်း?၊ တ-ဘဝ, ၂, ၃, ၄, ၅, ၁၀, ၂၀, ၄၀, ၅၀, တရာ, တထောင်, တသိန်း, ပျက်ကပ်—ဖြစ်ကပ် များစွာ ပတ်လုံး, 'အခြင်း—အရာ, အကျဉ်း ချုပ်နှင့် တကွ အောက်မေ့နိုင်၏၊ မြတ်စွား ဘုရား, ဂဏန်းဖြင့် ရေတွက် မရစကောင်းသော နည်းများ ရှိကုန်၏၊ သို့ပင် ဖြစ်စေကာ; ရုပ်ရှိသော ဘဝတို့၌ ဖြစ်စေ, ရုပ်မရှိသော ဘဝတို့၌ ဖြစ်စေ, စိတ်ရှိသော ဘဝတို့၌ ဖြစ်စေ, စိတ် မရှိသော ဘဝတို့၌ ဖြစ်စေ, စိတ်-ရှိ-မရှိ မဟုတ်သော ဘဝတို့၌ ဖြစ်စေ တခုခု ဖြစ်ဖူးသော ဘဝကို အောက်မေ့နိုင်၏၊ မြတ်စွာ ဘုရား, ဤရှေးဟောင်းဘဝ များစွာကို အောက်မေ့ရာ၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည်ပင် ဖြစ်ပါ၏။

၂၁။ မြတ်စွာဘုရား၊ ထိုမှ တပါး သတ္တဝါတို့၏ သေလွန်ခြင်း၊ ဖြစ်ပြန်ခြင်း ၂-မျိုးကို သိရှိရေး၌ ဘုရားရှင် ဟောညွှန်တော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာဘုရား၊ ဤလောက၌ အချို့ ရဟန်း-ပုဏ္ဏား-သည် လုံ့လကို မှီ၍........စိတ် တည်ကြည် လတ်သော်၊ အထူးစင်ကြယ်၍ လူတို့အမြင် ထက် လွန်သော နတ်မျက်စိဖြင့် သေလွန်သော သတ္တဝါ၊ ဖြစ်ပွားသော သတ္တဝါ တို့ကို၎င်း၊ အယုတ်-အမြတ် သတ္တဝါ ၂-စားကို ၎င်း၊ အဆင်းလှ-မလှ၊ အလား ကောင်း-မကောင်း သတ္တဝါတို့ကို ၎င်း မြင်နိုင်၏၊ မိမိတို့ ကံ အလိုက် ဖြစ်ရကုန် သော သတ္တဝါတို့ကို လည်း၊ 'ဤသတ္တဝါတို့သည် ကိုယ် မကောင်းသော အကျင့် ရှိကုန်သည်၊ စိတ်မကောင်းသော အကျင့် ရှိကုန်သည်၊ အရိယာတို့ကို စွပ်စွဲကြကုန် သည်၊ အယူ မှားကုန်သည်၊ အယူမှားကို ယူစေကြကုန်သည်၊ ထို ပုဂ္ဂိုလ်တို့သည် ကိုယ်အဝ ပျက်စီး သေလွန်သည့် နောက် ချမ်းသာ ကင်း၍ မကောင်းသူတို့ လားရာ မကောင်းသဖြင့် ကျခံရရာ ဖြစ်သော ငရဲ၌ ဖြစ်ကုန်၏၊ ဤသူ ဤသူတို့ကား ထိုသို့ မဟုတ်၊ ကိုယ်-နှုတ်-စိတ် အကျင့် ကောင်းကုန်၏၊ အယူ မှန်၍ အမှန်ကို ယူစေကုန်၏၊ ထိုသူတို့ သေလွန်ကြသည့် နောက်၊ သူကောင်းတို့ လားရာ ချမ်းသာရရာ ဘုံဘဝ၌ ဖြစ်ရကုန်၏၊' ဟု သိနိုင်၏၊ မြတ်စွာဘုရား၊ ဤသတ္တဝါတို့ သေ-ရှင် ၂-မျိုးကို သိရှိရေး၌ ဘုရားရှင် ဟောတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏။

၂၂။ မြတ်စွာဘုရား၊ ထိုမှ တပါး ပြည့်စုံခြင်း တန်ခိုး အစားစားတို့၌ ဘုရား ရှင် ဟောကြားတော်မူခြင်းသည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ မြတ်စွာဘုရား၊ ပြည့်စုံခြင်း-တန်ခိုး အမျိုး-အစားတို့ကား ၂-ပါး ဖြစ်ကုန်၏၊ မြတ်စွာ ဘုရား၊ သံသရာဝဋ် အယဉ် ခန္ဓာစဉ်နှင့် တကွ ဖြစ်၍ အရိယာ ဟု မဆိုရသော ပြည့်စုံခြင်း လည်း ရှိ၏၊ မြတ်စွာဘုရား၊ သံသရာဝဋ် ယဉ်နှင့် ခန္ဓာအစဉ် ပြတ်၍ အရိယာ ဆိုရသော ပြည့်စုံခြင်း လည်း ရှိ၏၊ မြတ်စွာဘုရား၊ သံသရာဝဋ် အယဉ် ခန္ဓာအစဉ် ရှိ၍ အရိယာ မခေါ်အပ်သော ပြည့်စုံခြင်း အဘယ်နည်း?၊ မြတ်စွာဘုရား၊ ဤလောက၌ အချို့သော ရဟန်း-ပုဏ္ဏားသည် လုံ့လကို မှီ၍ .... စိတ် တည်ကြည်ရ ကား၊ မြောက်မြားစွာသော ပြည့်စုံခြင်း တန်ခိုး အမျိုးမျိုးကို ဖြစ်စေ၏၊ပြုလုပ် ပြနိုင် ၏၊-တယောက်ထည်း ဖြစ်လျက် လည်း အများ ဖြစ်၏၊ အများကြီး ဖြစ်လျက် လည်း

တယောက်ထည်း ဖြစ်၏၊ ကိုယ်ထင် မြင်ရစေ၍, ဖြစ်စေ, ကွယ်ကာ၍, ဖြစ်စေ,
တဖက်, တံတိုင်း တဖက်, တောင် တဖက်သို့ မငြိ-မတွယ် သွားနိုင်၏; ဥပ
ကောင်းကင်မှာ ကဲ့သို့တည်း၊ မြေတွင်း၌ သော် ငုပ်နိုင်, ပေါ်နိုင်၏,—ဥပမာ ရေတွ
မှာ ကဲ့သို့တည်း၊ ရေတွင်း၌ သော် လည်း ရေမြုပ်, ရေပြွက် မထ မမြုပ်-မကွ
စေပဲ သွားနိုင်,—ဥပမာ မြေပြင်မှာ ကဲ့သို့တည်း၊ ကောင်းကင်ပြင်၌ ပင် လျှင် ထ
ဝက် ဖွဲ့ခွေ၍, သွားလာနိုင်၏,—ဥပမာ အတောင် ၂-ဖက်ရှိ ငှက်ကဲ့ သို့တည်း၊ ထို
အရောင်—အသွား တန်ခိုး အာ၊နုဘော် ရှိကုန်သော လ—နေ တို့ကို ပင် လက်ဖြင့်ဆုပ်ကို
သုံးသပ်နိုင်၏, ဗြဟ္မာ့ပြည် အဆုံးတိုင်အောင် မှု လည်း ကိုယ်ဖြင့် အလိုအတိုင်း ဖြစ်
နိုင်၏၊ မြတ်စွာ ဘုရား, ဤကား သံသရာဝဋ် အဟုန် မကင်း, ခန္ဓာထင်လင်း ရှိ
အရိယာ မ ဆိုရသော ပြည့်စုံခြင်း တန်ခိုးပါတည်း။

၂၃၊ မြတ်စွာ ဘုရား, သံသရာ ခရီး အယဉ် လွတ်စွာ ခန္ဓာဝဋ် မရှိ၍, အရိယာ
ဆိုရသော တန်ခိုး အဘယ်နည်း?၊ မြတ်စွာ ဘုရား, ဤ သာသနာတော်၌ တစုံ—တ
သော ရဟန်းသည် စက်ဆုပ်—ရွံရှာဖွယ်ကို မစက်ဆုပ်ပဲ နေရန် လိုလားခဲ့အံ့; ထို
သော စက်ဆုပ်ဖွယ်၌ မစက်ဆုပ်ပဲ နေနိုင်၏၊ စက်ဆုပ်ဖွယ် မဟုတ်သည်ကို စက်ဆု
ရန် လိုလားခဲ့အံ့; ထို စက်ဆုပ်ဖွယ် မဟုတ်ရာ၌ စက်ဆုပ်နိုင်၏၊ စက်ဆုပ်ဖွယ် မစ
ဆုပ်ဖွယ် ဟုတ် မဟုတ် ၂—မျိုးစုံ၌ ပင် အလို ရှိခဲ့လျှင်, စက်ဆုပ်နိုင်၏၊ စက်ဆုပ်ဖွ
ဟုတ်-မဟုတ် ၂-မျိုးကို ပင် ကင်းကွာစေ၍, လျစ်လျူရှုလိုခဲ့အံ့; ထို ၂—ပါးစုံ၌ သ
မညာဥာဉ် ယှဉ်လျက် လျစ်လျူ နေနိုင်၏၊ မြတ်စွာ ဘုရား, ဤတန်ခိုးကား ကိလေ
သာ အယဉ် ငြိမ်းလတ်, ခန္ဓာဝဋ် ကင်းပြတ်၍, အရိယာ ခေါ်သော တန်ခိုးပါတည်း
မြတ်စွာ ဘုရား, ဤ ပြည့်စုံခြင်း တန်ခိုး အမျိုး-အစားတို့၌ ဘုရားရှင် ဟောတော်မူခြင်း
သည် လည်း အတုမဲ့ ထူးကဲ မြင့်မြတ်သည် ပင် ဖြစ်ပါ၏၊ ထိုတန်ခိုးကို ဘုရားရှ
အကြွင်းမဲ့ သိတော်မူ၏၊ ထို့ကြောင့် ၎င်းကို အကြွင်းမဲ့ သိသော ဘုရားရှင်မှာ,
တန်ခိုးမျိုးတို့၌ ဤထက် အလွန် သိဖွယ် လည်း မရှိ, ဘုရားရှင့်ထက် ပိုလွန် ထူးကဲ၍,
သိနိုင်မည့် ရဟန်း—ပုဏ္ဏား တစုံ-တယောက် လည်း မရှိပါ။

၂၄၊ မြတ်စွာ ဘုရား, ယုံကြည်ခြင်း ရှိသော အမျိုးကောင်း သားများသည်
လုံ့လ ထုတ်ခြင်း အားစွမ်း— သတ္တိဖြင့်, ယောကျ်ား—လက်ရုံးဖြင့်, ယောကျ်ား—

ဝီရိယဖြင့်, ယောကျ်ား-ကြိုးစားခြင်းဖြင့်, ယောကျ်ား-ဆောင်ရွက်ခြင်းဖြင့် ရရောက်ကောင်းရာ ဟူသမျှကို မြတ်စွာဘုရားသည် အကြွင်းမဲ့ ဥဿုံ ကုန်အောင်စုံ ရရောက်တော်မူပါပေ၏၊ မြတ်စွာဘုရား, ဘုရားရှင်သည် ယုတ်ညံ့၍ ရိုင်းစိုင်းသော ပုထုဇွန်တို့ အကျင့် ဖြစ်လျက် အရိယာတို့ ကိစ္စ မဟုတ် သဖြင့် အကျိုးနှင့် မပတ်သက်သည့် ကာမဂုဏ် ၅-ပါးတို့၌ လိုလားအပ်သည်, ချမ်းသာ ကောင်းမြတ်သည်ဟု ကပ်ကပ်-ငြိငြိ တန်းစွဲစပ်ယှဉ်ခြင်း လည်း ရှိတော်မမူ, ထို့ပြင်, ဆင်းရဲ-ပင်ပန်းလှ၍, အရိယာတို့ ကျင့်ချိး မဟုတ်သဖြင့် အကျိုး-စီးပွားနှင့် မစပ်ဆိုင်သော ကိုယ်ကိုပင် ပန်းစေသည့် အကျင့်မျိုး၌ စပ်ဖက် ဆက်နွယ်ခြင်းမှ လည်း လွတ်ကင်းတော်မူပေ၏၊ မြတ်စွာဘုရားသည် ကာမသားတို့ စိတ်ကို လွန်မြောက် ကုန်သည့် မျက်မှောက် ချမ်းသာ၌ နေထိုင်ရာ ဖြစ်ကုန်သော ရူပါန်-လောက မိး ငြိမ်းတရား လေးပါးတို့ကို လည်း အလိုရှိတိုင်း ရရောက် ဝင်စားတော်မူနိုင်၏, မခဲးယဉ်း မညိုညင်ပဲး လည်း ရရောက်တော်မူပေ၏, မပင်ပန်း-မဆင်းရဲပဲး လည်း ရတော်မူပေ၏။

၂၅၊ မြတ်စွာဘုရား, 'အို သာရိပုတ္တ, ရှေးရှေး လွန်လေပြီး အခါက ကြွင်းမဲ့ ဥဿုံ ကုန်အောင်စုံ သိသော ဉာဏ် အရာဝယ် ဘုရားထက် ကဲးလွန် ထူးချွန်၍, သိသော ရဟန်းဖြစ်စေ, ပုဏ္ဏား ဖြစ်စေ ရှိဖူးကုန်ပြီလော?', ဟု အကျွန်ုပ်ကို မေးခဲ့အံ့, ဤသို့ မေးခဲ့လျှင်, မြတ်စွာဘုရား, အကျွန်ုပ်သည် 'မရှိခဲ့ဖူး' ဟု ဆိုပါအံ့၊ 'အို ငါ့ရှင် သာရိပုတ္တ, နောင် ဖြစ်ပေါ်မည့် အနာဂတ် အခါ၌ ထိုသို့သော အရာဝယ် ဘုရားထက် ကဲးလွန် ထူးချွန်သူ ရှိကုန်လိမ့်ဦးမည်လော?, ဟု အကျွန်ုပ်ကို မေးပြန်အံ့, ထိုသို့ မေးလျှင် လည်း, မြတ်စွာဘုရား, တပည့်တော်သည် 'မရှိလတ္တံ့' ဟု ပင် ဆိုပါအံ့၊ အို-ငါ့ရှင် သာရိပုတ္တ, အသို့နည်း? ယခု ပစ္စုပ္ပန် အခါ၌ ထို အရာဝယ် ဘုရားရှင်ထက် ကဲးလွန် ထူးချွန်၍, သိသူ ရှိပါသလော? ဟု အကျွန်ုပ်ကို မေးပြန်အံ့, သို့မေးလျှင် လည်း မြတ်စွာဘုရား, အကျွန်ုပ်သည် 'မရှိ' ဟု ပင် ဆိုပါအံ့။

၂၆၊ မည်သို့နည်း, ငါ့ရှင် သာရိပုတ္တ, ရှေးလွန်ပြီး အခါက, ကြွင်းမဲ့-ဥဿုံ အလုံးစုံ သိသော ဉာဏ်အရာ၌ ဘုရားရှင်နှင့် တူတန်သော ရဟန်း-ပုဏ္ဏားတို့ ဖြစ်ပေါ်ဖူးကုန်ပြီလော?' ဟု မေးမြန်းအံ့, ယင်းသို့ မေးခဲ့သော်, မြတ်စွာဘုရား, အကျွန်ုပ်သည် 'ဖြစ်ဖူးကုန်ပြီ' ဟု ဆိုပါအံ့၊ နောင် လာလတ္တံ့, အခါ၌ ထိုကဲ့သို့ တူတန်သူ

ဖြစ်ပေါ်ကုန်ဦးမည်လော? ဟု မေးခဲ့သော်, ‘ဖြစ်ကုန်လိမ့်ဦးမည်’ဟု ပင် ဆိုပါအံ့၊ ထို မဟုတ်မူ၍., ‘အို ငါ့ရှင် သာရိပုတ္တ, ယခု မျက်မှောက် ခေတ်တွင် ကြွင်းမဲ့–ဥသုံ ကုန်အောင်စုံ သိသော အရာ၀ယ် ဘုရားနှင့် တူတန်းသူများ ရှိကုန်သေး သလော ? ဟု မေးခဲ့လျှင်, မြတ်စွာ ဘုရား, ‘မရှိ’ဟု ဆိုပါအံ့၊ မည်သို့နည်း, ငါ့ရှင် သာရိပုတ္တ, အ ချို့ကို မြင်ပယ်၍. အချို့ကိုသာ ဝန်ခံသလော?’ ဟု မေးငြားအံ့; မြတ်စွာ ဘုရား, အ ကျွန်ုပ်သည်, ‘ငါ့ရှင့် ရှေးအခါက, ငါ ဘုရားနှင့် အလားတူ ကြွင်းမဲ့–ဥဿုံ ကုန် အောင်စုံ သိသော ဉာဏ် အရာ၌ မှန်စွာ မြဲခိုင် ကိုယ်တော်တိုင် သိကုန်သော ပုဇော် ခံ သခင် ဘုရားရှင်တို့ ဖြစ်ကုန်ပြီ’ ဟု ဘုရားရှင့် မျက်မှောက်တော်မှ ကြားနာရပြီ ဟု ဖြေဆိုပါအံ့။

၂၇၊ ‘ထို့ပြင်, နောင်အခါ၌ သမ္ဗောဓိဉာဏ် အရာ၀ယ် ငါဘုရားနှင့် တူတန်း ညီမျှကုန်သော ပုဇော်ခံ သခင် ဘုရားရှင်တို့ ဖြစ်ကုန်လိမ့်သတည်း’ဟု လည်း ဘုရားရှင့် မျက်မှောက်တော်မှ ပင် ကြားနာရသည် ဟု ဖြေဆိုပါအံ့၊ ‘ထို့မှတပါး, လော–ကဓါတ် တခု အတွင်း၌ ပုဇော်ခံ သခင် ဘုရားရှင် ၂–ဆူတို့သည် မရှေး–မနှောင်း မဖြစ်ပွင့်နိုင်, ဖြစ်ပွင့်ခွင့် မရှိ, သို့ဖြစ်ပွင့်နိုင်ရိုး မရှိ’ဟု ဤစကားကို ဘုရားရှင့် မျက်မှောက်တော်မှ ကြားနာရသည် ဟု ဖြေဆိုပါအံ့၊ မြတ်စွာ ဘုရား, မည်သို့ပါနည်း? ဤသို့ မေး၍. ဤသို့ ဖြေဆိုသော အကျွန်ုပ်သည် ဘုရား ဟောတော်မူတိုင်း ဆိုသူ ဖြစ်ပါ၏လော?, မြတ်စွာ ဘုရားကို မဟုတ်-မမှန်သဖြင့် မစွပ်စွဲပဲ ဖြစ်ပါ၏လော?, တရားနှင့် အလျော် ဖြေဆိုခြင်း ဖြစ်ပါ၏လော?, တစုံ-တရာ တရား သက်ဝင်သော ဆိုထုံး-ဆိုတူ ဖြစ်၍, ကဲ့ရဲ့အပ်ရာသို့ မရောက်ပဲ ရှိပါ၏လော? ဟု မေးလျှောက်လေပြီ၊ ‘အို သာရိပုတ္တ, ကောင်းလှ၏, သင်သည် ဤသို့ မေး၍., ဤသို့ ဖြေခဲ့မူ, ငါဘုရား ဟောတိုင်း ဆိုသူဖြစ်၏, ငါဘုရားကို မဟုတ်တန်း တရားဖြင့် လည်း မစွပ်စွဲ, တရားနှင့် အလျော် လည်း ဖြေကြားခြင်း ဖြစ်၏, တရား သက်ဝင်သော ဆိုထုံး–ဆိုတူ ဖြစ်၍. တစုံ–တရာ ကဲ့ရဲ့ဖွယ်သို့ လည်း မရောက်ချေ’ ဟု ဘုရားရှင် မြန်ကြားတော်မူပြီ။

၂၈၊ ဤစကား အဆုံး၌ အရှင် ဥဒါယီ မထေရ်က ဘုရားရှင်ကို ဤသို့လျှောက် ထားပြီ၊ အို မြတ်စွာ ဘုရား, ရှေး ဘုရားတို့ ထံမှ ဖြစ်တော်မူသော ဘုရားရှင်သည် ဤသို့ တန်ခိုး ကြီးမားလျက်, ဤသို့ အစွမ်းတော် ရှိလျက်, ကိုယ်တော်ကို ထင်စွာ

မဖော်ပြမှု၍, အလို နည်းပါးတော်မူခြင်း, တင်းတိမ်—ရောင့်ရဲတော်မူခြင်း, ခြိုးခြံနေတော်မူခြင်းများမှာ အံ့အား သင့်ဖွယ် ရှိလှစွ, မြတ်စွာဘုရား၊ မဖြစ်စပူး ထူးဆန်းပေစွ, မြတ်စွာ ဘုရား၊ အို မြတ်စွာ ဘုရား, အခြား အယူဝါဒ ရှိသူတို့မှာ ဤ ဖော်ပြပြီး ဂုဏ်-သဘောများ တခု—တလေ ရှိခဲ့သော် ပင်, တံခွန် ဖြန့်တမ်း မြို့တိုင်း လှည့်၍, တခမ်း—တနား ဆောင်ကြကုန်ရာ၏၊ အို မြတ်စွာ ဘုရား, ရှေး ဘုရားတို့ အမူ တူစွာသော ဘုရားရှင်၏, ဤသို့ တန်ခိုး-အစွမ်းတော်များ ရှိလျက်, အလို နည်း၍, တင်းတိမ်-ခြိုးခြံပေ သည်မှာ အံ့ဖွယ် ထူးဆန်းပါပေ၏' ဟုလျှော်ပြီ။

၂၉၊ အို ဥဒါယိ, ရှေးဘုရားတို့ အမူ ပုံစံတူ ဖြစ်သော ဘုရားရှင်၏, အလို နည်းပါး၍, တင်းတိမ် ခြိုးခြံချက်ကို မျက်မြင် ရှုကြည့်လော့၊ ရှေး ဘုရားတို့ အမူ စံတူ ယူသော ဘုရားရှင်မှာ ကြီးစွာသော အစွမ်း—တန်ခိုး ရှိတုံလျက်, ကိုယ်တော်ကို ထင်ရှား မဖော်ပြချေ၊ အို ဥဒါယိ, ဤ တရား အစားမျိုး အတွင်းက, တစုံ—တရာမျှ ပင် ဝါဒခြား-အယူကွဲတို့မှာ, ထင်စွာ ဖြစ်ခဲ့အံ့, ထို တခု-တလေ မျှဖြင့် ပင် တံခွန်-ကုက္ကား အသွင် ရွာတိုင်းတင် မြို့တိုင်းလှည့် နိုင်ငံစဉ် သင့်ကမ်း၍, လမ်းမ တိုင်း ဖွင့် ဖော် ဆောင်ယူကြကုန်ရာ၏၊ အို ဥဒါယိ, ရှေး ဘုရားသွင် ပုံကိုက်ဝင် ဘုရား၏, အလို နည်း၍, တင်းတိမ်စွာ ခြိုးခြံပုံကို စေ့စုံအောင် ရှုမြင်လော့; ဘုရား ရှေးရိုးစံတူမျိုးမှာ တန်ခိုး စွမ်းပကား ရှိတုံငြားလျက်, ထင်ရှားအောင် အကျိုးမဲ့ မဖော်ပြ ဖြစ်ထုံဘိ၏၊ အရှင် ဥဒါယိအား ထိုသို့ မိန့်ကြားပြီးနောက် အရှင်သာရိပုတ္တအား ဆက်လက် မိန့်တော်မူသည်ကား,—အို သာရိပုတ္တ, ထိုကြောင့် သင်သည် ဤတရားဒေသနာကို ရဟန်း, ရဟန်းမ, ဥပါသကာ, ဥပါသိကာ, ပရိသတ်တို့အား မပြတ် ဟောကြား ဆုံးမလော၊ အို သာရိပုတ္တ, ရှေး ဘုရားမျှ ပုံတော်ပြ ဘုရား၌ ယုံမှားသံသယ ရှိသည့် အချည်းနှီးဖြစ်သူ တို့အား လည်း ဤတရားကို ဟောပြလေလော၊ ဤသို့လျှင် ဘုရားရှင့် မျက်မှောက်တော် ၌ အရှင်သာရိပုတ္တ မထေရ်သည် မိမိ၏ ကြည်ညိုခြင်းကို ဖော်ပြ လျှောက်ကြားလေပြီ; ထိုကြောင့်, ဤစကား အစဉ်သည်'သမ္ပသာဒနီယ-ကြည်ညိုဖွယ်=တရား'ဟု မည်လေသည်၊— ဤသို့ ကြားနာအပ်၏။

ဤ ဆိုအပ်ပြီး သုစိမုခိသုတ်, သမ္ပသာဒနီယ သုတ်များကား, ဥပတိဿ—ပသိနေ, ဟု ကျောက်စာ ညွှန်ချက်—အရ ဥပတိဿအား ကြည်ညိုသော, သို့မဟုတ် ဥပတိဿ က ဘုရားအား ကြည်ညိုသော ဟု အနက်ထင်ချက် အတိုင်း ဖော်ပြအပ်သော စကား

များတည်း၊ အင်္ဂလိပ်,ဗင်္ဂါလီ, ဟိန္ဒီ—ပညာရှိတို့မူကား 'ဥပတိသ—ပသိနေ' ကို 'ဥပတိဿ ပြသနေ-ဥပတိဿ၏ မေးမြန်းချက် The Questioning of upatishya ဟု ပြန်ဆိုကြကုန်၍, သုတ္တနိပါတ်—လေးခုမြောက် အဋ္ဌကဝဂ်၏ သောဠသမ သာရိပုတ္တသုတ်ကို ညွှန်ကြကုန်၏၊ ဥပတိသပသိနေ-ပုဒ်မှာ ထိုသို့သော အနက်လည်း ဖြစ်နိုင်ဖွယ် ရှိသည့်အပြင်, ၎င်း သုတ်ကိုယ်က လည်း ရဟန်းတို့၏ လိုအပ်ရာ အရေး ကြီးသော ကျင့်ဝတ်ကို ပြသောကြောင့် အစိပ္ပါယ်—ယုတ္တိ ရှိ၍ ၎င်းကိုလည်း ထည့်သွင်း ထားအပ်သတည်း။

# ၈၊ သာရိပုတ္တသုတ်၊

[သုတ္တနိပါတ,၄-အဋ္ဌက,သောဠသမ]

၁၊ ရွှေး-ယခင် မမြင်ဖူးခဲ့တု,
[ဟု အရှင် သာရိပုတ္တ ချီတော်မူ၍.]
သို့ ထံပါးမှ မကြားဖူးတု၊
ညီချိုသံသာ မျှား အာရာတု,
တုသိတာ ကြလာ ဂိုဏ်းထီးတု။

၂၊ နတ်နှင့် တကွ လောက သူတို့,
တို့မြတ်ဖျား အများ မြင်တိုင်းတု၊
ပယ်ဖျက်ပုံး အားလုံး မိုက်မှောင်စို့,
လယ်ချက်မှောက် ကြရောက် ကိုယ်ထီးတု။

၃။ တို့ဖျားမင်း မိုကင်း တည်သူကို,
တည်မဲ့ ရောက် ရွှေမှောက် ကိုဏ်းထီးကို၊
မြားမြောက်လှ ဤက ဗိုလ်လူကို,
မေးလို ခွင့် ရှင့်ထံ ရောက်ကြကို။

၄။ ရဟန်းမြင့် လူကျင့် စက်ဆုပ်သူ,
ဆိတ်ငြိမ် ရပ် ဆည်းကပ် မှီခိုးသူ၊
သစ်ပင် ရင်းမှန် သုသာန် နေသူ,
တောင်များဆိုင် ဂူလိုဏ် မှီကပ်သူ။

၅။ မြင့်—နိမ့် ထွေထွေ မှီနေ သော ဟူ,
တေး—ကြောက်ဖွယ် အတာယ်တို့ဌ် သူ၊
တုန့်လှုပ် မသန်း ရဟန်းတော်ဟူ,
သံပြတ် ရှင်း နေခင်း နေထိုင်သူ။

၆။ ဘေး ဘယ်မျှ လောက ဤမှာလို့,
မသေ မြို့ရပ် ကပ်ရောက် သူကို၊
ဖျက်ပယ် ခဏ်း ရဟန်းထွတ်မှာ လို့,
တောမြိုင်တွင်း နေခင်း မွေ့သူကို။

၇။ ဘယ်ဘယ် စကား ပြောကြားဖွယ်တို့,
အာရုံ ရ ဘယ်မျှ ဤနိုက်တို့၊
ကျင့်ဝတ် သီလ ဘယ်မျှ လောက်တို့,
ဝံ့စား ကျင့် ရှင်ပင့် ရဟန်းတို့။

၈။ အဘယ် ကျင့်ရပ် ကျင့်အပ် လိုတို့,
တည်ကြည် လင့် ဉာဏ်ရင့် သတိစုံ၊

ပန်းတိမ် စစ် ငွေညစ် ထုတ်သို့တုံ့,
ကိုယ် ညစ်ပုတ် နှင်ထုတ် ပို့ဝုံ-ရုံ။
[ဟု မေးလျှောက်ပြီး]

၉၊ လူ့အလုပ် စက်ဆုပ်သူမှာ ချမ်းသာရှင့် ဟူ,
[သာဂရိပုဏ္ဏ ဟု ဘုရား မိန့်တော်မူ၏]
ဆိတ်ငြိမ်စွာ နေရာ ရပ်ယာ ခိုမှီ နေမူ၊
သိဉာဏ် မြင် လိုချင်ခဲ့ငြား, တရား သင့်ဟူ,
ထို စကား သင့်အား ဆိုပိမ့် သိစိမ့် တမူ။

၁၀၊ ဘေး ငါးခြာ ပညာ ရှယ်ပေါက် မကြောက်ရဟူ,
သတိ ထင် ရှင်-ရဟန်းကား, ပိုင်းခြား ကျင့်မူ၊
ခြင်မှက် ကိုက်ခဲ ထိမြဲ မြွေကင်း ထန်ပြင်းဟူ,
လူနှင့် သားရဲ တွေ့မြဲ အရေး ဘေးတို့မူ။

၁၁၊ အယူခြား ရေး ဘေးမျိုး ငါးသွယ် ကြောက်ဖွယ်ဟူ,
ထိုသို့ကား ကြောက်ပါးလိ ဘေးကြုံတွေး မြင်သူ၊
ထို့မှ တပါး မြောက်မြား မျိုးမျိုး နိပ်ချိုးရာဟူ,
ဘေး-ထိုထို ကုသိုလ် အယဉ် အစဉ် ရှာသူ။

၁၂၊ ဆောဂ ါမှတ် မှတ်ဝေ သိပ်ချွေ့ တွေ့ရာတို့,
အချမ်း တု အပူ မှန်က ခံရ သည်းတုံ့၊
မြားမြောက်စွာလှ တွေ့ရ ဘေးဆုံ ကြိမ်ကြိမ်တုံ့,
လုံ့လ သိပ်သည်း စွဲမြဲ ကြောင့်ကြ ပြုရတုံ့။

၁၃၊ နိုးထုံ့ကမ်မှ မပြု ရှောင်ရှား မုသားကြဉ်လို့,
မေတ္တာ ပွား ရှေ့ရှား-သသု မရှေ့ သူကို၊
စိတ်ထားတွင် မရှင် နောက်ရှင့် သိသင့် အလို့,
မာရ်နတ်မင်း သင်းမင်း မြောက်မြား ပယ်ရှားပိုကို။

၁၄၊ အမျက်ထွက် မာန်တက် လိုမိုက် မလိုက်ရာတုံ့,
မျက်မာန် ရင်း ဖြတ်ကင်း တူးဆွ နေရတို့တုံ၊
ထိုသည့် ဖြင် ချစ်ကြွစ်လှုခြင်း မုန်းခြင်းတို့တုံ့,
မရွှတ်ရာ မျှားစွာ ဘေးဆိုး နှိပ်ချိုးဖို့တုံ။

၁၅၊ ပညာရောင် ရွှေ့ဆောင် ပြုတို့ နစ်မြှုပ်ကောင်းစွာ,
ထိုထို မျိုး ဘေးဆိုး ဖုံ့ဖုံ့ ပယ်တုံ့ရှိ့ သာ၊
ဆိတ်ငြိမ်လေ့ မမေ့ လျော့နည်း သည်းခံဘုံစွာ,
လေးမျိုး တွေး ငိုကြွေး ပုံနည်း သည်းခံရှင့်သာ။

၁၆၊ ဘာကို ငါကား စားစိမ့်ရာ ဘယ်မှာ စားမှယ်,
ဆင်းရဲစွာ ရွေးက နေရာ ဘယ်မှာ နေမှယ်၊
ဤသို့ စိတ်ရည် ကြံစည် စွဲမှတ် ဖြတ်တောက်မှယ်,
ပယ်ခွါသင့် ကျင့်သူ ရှင်ရဲး အစွဲ ကင်းမှယ်။

၁၇၊ အစား အဝတ် ရလတ်ကျင် သာ ထိုဒါမှ,
တိုင်းရှည်ချင့် သိသင့် အကြိုက် နှစ်ခြိုက်ရှုံ့ဟူ၊
စားဝတ် ဆိုင်ရာ ကောင်စွာ စောင့်ခြင်း ရှာတွင်းဝင်မှု,
သူမြစ်မှား လည်း စကားကြွမ်းထွက် မမြွက်ရာဟူ။

၁၈၊ မျက်လှာ ချ မြေမှ လောင်လက် မထွက်ရာဟူ,
ဆိုးမှုမိုက် ရှိ့မြိုက် လုံ့အား နိုးကြွားလျက်မူ၊
လျစ်လျူ နိုး အစွဲ ခိုင်ခံ့ တည်တံ့ ရာ ဟူ,
ကြံလို စိုစို့ လိုလို့ ယုံမှား ဖြတ်ခြွားမူ။

၁၉၊ စောကြော နှုတ်ရှိ သတိ မူလိုက် နှစ်ခြိုက်စေ,
သီတင်း တူ သုံးသူ တို့တွင်း တံသင်း ပယ်လေ၊
ကောင်း စကား မြွက်ကြား လင့်စွာ ခါ မပြုန်းစေ,
လရင် နှုတ်ထဲး ရုပ်စုံးရာခဲ့ လုံ့ မဲ့လေ။

၂၀၊ ထို့ပြင်ကား ငါးမျိုး ‌မြှမ်မောင် လူ့ဘောင်မှာ,
ရှင်းတို့ ပယ်ဖို့ မှတ်ရို ကျင့်ဘိနိုင်ရာ၊
ရပ်—အဆင်း သံညှင်း ကြည်လျ အရသာမှာ,
အနံ့ ငွေ ထိတွေ့ မက်နည်း သည်းခံနိုင်ရာ။

၂၁၊ ဤမျှကား တရားထိုတို အလို ဖျောက်ကာ,
ရဟန်းရှင် ထင်စွာ သတိ လွှတ်ဘိတုံ့စွာ၊
သင့်တင့်မျှ ကောင်းစွာ တရား ရှုစား လေကာ,
တည်ကြည်သုံး မှောင်လုံး ပယ်လတ် သူမြတ်တော်စွာ။
[ဤသို့ ဘုရား ဖြေတော်မူပြီ။]

အရှင် သာရိပုတ္တ မထေရ်မြတ် မေးလိုရင်းကား —— ၁၊ လူ့ဘောင်
စက်ဆုပ်၍ ဆိတ်ငြိမ်ရာ၌ ကျင့်သုံး နေထိုင်သော ရဟန်းအား ပယ်ရန် အပ်
ကြောက်မင်းဖွယ် အရေး ဘေး ဖြစ်ကြောင်း အဘယ်မျှတို့နည်း?၊ ၂၊ ဆိတ်ငြိမ်ရာ
နေ၍ နိဗ္ဗာန် ရပ်ခြားသို့ သွားရောက်လိုသည့် ရဟန်းအား ဘေး-ဥပဒ္ဒဝေါ အဘယ်မျှ ရှိကု
သနည်း?၊ ၃၊ တောမြိုင်တွင်း မှီတင်းနေထိုင်သော ရဟန်းသည် အဘယ် ဘေးအန္တရာယ်
သည်းခံနိုင်ရမည်နည်း?၊ ၄၊ နိဗ္ဗာန်ရောက်ရေး အတွက် စွန့်စားသော ရဟန်းအား ပျက်စီး
ကြောင်း တရား အဘယ်တို့နည်း?၊ ၅၊ ရှင်း သတိ ပြုဖွယ် အာရုံတို့ကား အဘယ်တို့
နည်း?၊ ၆၊ ရှင်းကျင့်ကြံဖွယ် ဝတ်-အကျင့်တို့ကား အဘယ်တို့နည်း? —ဟု ခြောက်မျိုး
ဖြစ်လေ၏၊ ရှင်း၌ ဘုရားရှင် ဖြေတော် မူလိုရင်း အကျဉ်းချုပ်ကား—၁၊ ခြင်မှက်
ကိုက်ခဲခြင်း—ဘေး, မြွေကင်းသန်း-တွေ့ထိခြင်း—ဘေး, လူတို့၏ ကောင်း-ဆိုး ၂ မျိုး
သော ကိုယ်နှုတ် ဆိုင်ရာ—ဘေး, အခြေ လေးချောင်းရှိ သား စသော တိရစ္ဆာန်တို့
ဘေး, အယူ—ဝါဒခြားတို့ စွပ်စွဲခြင်း—ခြားယောင်း သွေးဆောင်ခြင်း—ဘေး—ဤဘေး
၅-မျိုး အတွက် မဂ်-ဖိုလ် လိုလားသော ရဟန်းသည် မကြောက်—မရွံ့ ရဲဝံ့ရာ၏
၂၊ ထိုဘေး ၅—မျိုးမှ ကြွင်းကျန်သည့် ကြောက်မင်းဖွယ် ဘေး ဟူသမျှကို ပင် ပယ်
လွန် တားမြစ်ရမည်၊ ၃၊ နာဖျားခြင်း—ဘေး, ဆာလောင်—မွတ်သိပ်ခြင်း-ဘေး, အချမ်
နှင့် အပူ ဟူသော ဥတု—ဘေး,—ဤ ဘေးများ တွေ့ကြုံသည်ကို သည်းခံနိုင်ရမည်

၄၊ မခိုးဝှက်ခြင်း, မုသား ကင်းခြင်း, ညစ်ကျူသော စိတ်ကို မာန်နတ် အပင်
အသင်းဟု ထင်မှတ် ဖျောက်ပယ်ခြင်း, အမျက်—မာန်တို့ အလိုသို့ မလိုက်ခြင်း, ရှင်းတို့
အရင်းကို ဖြတ်တောက်ခြင်း, ချစ်—အမုန်း ၂—မျိုးမှ ကင်းခြင်း, ဆိတ်ငြိမ်ရာ

မမွေ့နိုင်သည်ကို ပယ်ဖျောက်ခြင်း, ဘာကို စားရမည်, ဘယ်မှာစားရမည်, ယမန်က ဆင်းရဲစွာ အိပ်ရ နေရပြီ, ယခု ဘယ်မှာ အိပ်ရ-နေရမည် ဟူသော ဤငိုကြွေးခြင်း အကြံ လေးမျိုးကို ပယ်ဖျောက်ခြင်း, —ဤ အားလုံးကား ပျက်စီးကြောင်းတည်း၊ ၅၊ ဆွမ်းနှင့် အဝတ်—သင်္ကန်းကို တင်းတိမ်ရုံမျှ အလိုထား၍, အတိုင်း—အရှည် သိခြင်း, သူတပါး ပြစ်မှားလှာ စေကာ စကားကြမ်း မမြွက်ခြင်း, မျက်လွှာ အောက်ချ၍ သွားခြင်း, ခြေလက်ဆော့၍ မသွားခြင်း, နိုးနိုး—ကြားကြား နေထိုင်၍ ကာမအာရုံ ဆိုင်ရာ အကုသိုလ်ကို ရှောင်ခွာခြင်း, လျစ်လျူရှု၍ တည်ကြည်ခြင်း, တောင်တောင်—ဤဤ ကြံစည်ခြင်း ကင်းလျက် အလို့လို့ကို ဖျောက်ပယ်ခြင်း, မိမိအား အပြစ်နှင့် စွပ်စွဲစေကာ နှစ်ခြိုက်နိုင်၍ သိတင်း သုံးဖော်တို့အား အမျက် မထားခြင်း, စကားကောင်းကို သာ ပြော၍ ,ရင်း၌ လည်း အချိန် မဖြုန်းတီးခြင်း, သူတပါး စွပ်စွဲကဲ့ရဲ့ဖွယ် မကျင့်ကြံခြင်း--ဤတရားစုကို ဖြည့်ကျင့်ရမည်၊ ၆၊ အဆင်း-အသံ-အနံ့-အရသာ အတွေ့—ဤကိုလေးသာမျှ အပိတ်-အဖုံး တရား ၅-မျိုးတို့၌ တသ်မက် စွဲညှိခြင်း ရာဂကို ပယ်လွန်ရန် ကျင့်ဆောင်ရမည်၊—ဤကား အဖြေတည်း၊ ဤကား ဥပတိဿပသိနေ ဟု ကျောက်စာ ညွှန်ပြချက် အရ ဥပတိဿ ဆိုင်ရာ သုတ္တန်များတည်း။

# ရာဟုလောဝါဒ-အမ္ဗလဋ္ဌိကသုတ်၊

[မဇ္ဈိမ-ပဏ္ဏာသ၊ဘိက္ခုဝဂ်-ပထမ]

အကျွန်ုပ် ဤသို့ နာယူ မှတ်သားအပ်၏၊—တရံရော အခါ ဘုရားရှင်သည် ရာဇ ဂြိုဟ် မြို့တော်တွင် ရှဉ့်နက်တို့ကို အစာပေးရာ ဖြစ်သော ဝေဠုဝန်-ကျောင်းတော် သီတင်းသုံး နေတော်မူ၏၊ ထိုစဉ်အခါ† အရှင် ရာဟုလ-သာမဏေရ်သည် အမ္ဗလဋ္ဌိကာ— ဥယျာဉ်၌ နေထိုင်၏ ဘုရားရှင်သည် ည-နေခြမ်းအခါ ကိန်းအောင်းတော်မူရာမှ ထ တော်မူ၍, အမ္ဗလဋ္ဌိကာ—ဥယျာဉ်, အရှင်ရာဟုလ-သာမဏေရ်ထံ ကြွရောက်တော်မူပြီ၊ အရှင် ရာဟုလ သာမဏေရ်သည် ဘုရား ကြွလာတော်မူသည်ကို အဝေးမှ ပင် မြ ရလျှင်, နေရာ ခင်း၍, ရေမျှား တည်ထားပြီ၊ ဘုရားရှင် လည်း ရောက်တော်မူ၍, နေ ရာ၌ ထိုင်တော်မူလျက် ခြေတော်များကို ပုတ်ခါတော်မူပြီ၊ အရှင် ရာဟုလ လည်း ဘုရားရှင်ကို ရှိခိုး—နှိမ်ချ၍, သင့်တင့်ရာ၌ နေထိုင်လေပြီ။

ထို အခါ ဘုရားရှင်သည် ရေခွက်၌ ရေ အနည်းငယ် အကြွင်း ထား၍, အရှ ရာဟုလကို ဤသို့ မေးတော်မူပြီ၊—ရာဟုလ, ရေခွက်၌ အနည်းငယ် ချန်ထားသော ရေကို မြင်ရ၏လော?, မြင်ပါ၏,ဘုရား၊ ရာဟုလ, သိလျက် မမှန် မုသား ပြောရန် အရှက် ကင်းမဲ့သူတို့၏, ရဟန်း သိက္ခာကျင့်ဝတ်သည် ဤနည်းတူ ပစ်အပ်သည်သာ ဖြစ်၏ဟု မိန့်တော်မူပြီ၊ ထိုနောက် ထို ရေခွက်ကို မှောက်ထားတော်မူပြန်၍, အရှ ရာဟုလကို ဤသို့ မိန့်တော်မူပြီ၊ ရာဟုလ, ရေခွက် မှောက်ထားသည်ကို မြင်၏ လော?; မြင်ပါ၏,ဘုရား၊ ရာဟုလ, သိလျက် မမှန်—မုသား ပြောရန် အရှက် မရှိသူ တို့၏, ရဟန်း သိက္ခာ-ကျင့်ဝတ်သည် ဤနည်းတူ အသွန် မှောက်သွန် ပစ်လွှင့်အပ် သည် သာ ဖြစ်၏ ဟု မိန့်တော်မူပြီ၊ ထိုနောက် တဖန် ထိုရေခွက်ကို လှန်ထားတော် မူ၍, ရာဟုလ, ဤရေခွက် ရေ ကင်းမဲ့လျက် အချည်းနှီး ရှိသည်ကို မြင်၏လော? ဟု မေးတော်မူရာ, မြင်ပါ၏, ဘုရား ဟု လျှောက်တင်လျှင်, ရာဟုလ, သိလျက် မမှန်—စကား ဆိုရန် အရှက် ကင်းမဲ့သူတို့၏, ရဟန်း သိက္ခာ-ကျင့်ဝတ်သည် ဤနည် တူ အာမျှ မရှိ, အချည်းနှီး ဖြစ်၏ ဟု မိန့်တော်မူပြီ။

---

† မှတ်ချက်၊ ဤသုတ်ကို ဟောတော်မူသော အခါ အရှင် ရာဟုလ—သာမဏေရ်သည် အသက် ၇ နှစ်အရွယ်သာ ရှိသေး၏၊— U.K.D.

ရာဟုလာ၊ ဥပမာအားဖြင့် အစွယ် ညွတ်ကိုင်း၍ ပွါးစီးသော ပေါင်သား အပြည့် ရှိလျက် စစ်တိုက်ဒိုက် ကျင်လည်သော မင်း၏ ဆင်တော်သည်၊ စစ်ပွဲသို့ ရောက်လျှင်၊ ရှေ့ခြေတို့ဖြင့် လည်း အလုပ် လုပ်၏၊ နောက်ခြေတို့ဖြင့် လည်း လုပ်၏၊ ရှေ့ကိုယ်၊ နောက်ကိုယ်၊ ဥကျောင်း၊ နားရွက်၊ အစွယ်၊ အမြီးတို့ဖြင့် လည်း အလုပ် လုပ်၏၊ နှာမောင်းကိုကား အသုံး မပြုပဲ ခံတွင်း၌ ထည့်၍ ထားသေးသည် သာ တည်း။ ထိုသို့ ဖြစ်ရာ၊ ဆင်စီး သူရဲက၊ ဤဆင်သည်၊ ခြေ—လက်—ကိုယ်—နားရွက် အစွယ်—အမြီး တို့ဖြင့် အလုပ် လုပ်၍၊ နှာမောင်းကိုကား အသုံး မပြုပဲ ခံတွင်း၌ ထားလျက် ပင် ရှိနေသေး၏၊ ဤဆင်တော်သည် အသက်ကို စွန့်စား၍ မလုပ်သေး ဟု အကြံဖြစ်လေ၏၊ ရာဟုလာ၊ ထိုဆင်တော်သည် တဖန် စစ်ပွဲသို့ ရောက်ပြန်ရာတွင် ခြေ လေးဖက်—ကိုယ်—ဥကျောင်း—နားရွက်—အစွယ်—အမြီး—နှာမောင်း အလုံးစုံ တို့ဖြင့် အလုပ် လုပ်ကိုင်လေ၏၊ ထိုအခါ မင်း၏ ဆင်တော်သည် အသက် စွန့်လွှတ် လုပ်ကိုင်ပြီ၊ ယခု အခါ မပြုလုပ်ပဲ ကြွင်းကျန်သော ကိစ္စ မရှိ ဟု ဆင်စီး သူရဲအား အကြံ ဖြစ်လေ၏။

ရာဟုလာ၊ ဤအတူပင် သိလျက် မမှန်စကား ဆိုရန် အရှက် ကင်းမဲ့သူမှာ မပြု လုပ်ပဲ နေမည့် အကုသိုလ် တစုံတရာ ရှိလိမ့်မည်ဟု မဆိုနိုင်၊ ထို့ကြောင့်၊ ရာဟုလာ၊ သင်သည်၊ ရယ်ရွှင်လို၍ သော်လည်း မသား၊ မဆိုအံ့ ဟု၊ ကျင့်ဆောက်တည် အပ်၏၊ ရာဟုလာ၊ မှန်သည် အဘယ် အလို့ငှာ ဖြစ်သည် ဟု သင် ထင် မှတ်သနည်း?၊ ကြည့်ရှု ဆင်ခြင်ရန် အလို့ငှါ ဖြစ်ပါ၏၊ ဘုရား၊ ရာဟုလာ၊ ဟုတ်လှ၏၊ ဆင်ခြင် ဆင်ခြင်၍ သာ ကိုယ်ဖြင့် အမှုကို ပြုအပ်၏၊ နှုတ်ဖြင့် အမှုကိုပြုအပ်၏၊ စိတ်ဖြင့် အမှုကိုပြုအပ်၏၊ ရာဟုလာ၊ သင်သည် တစုံ—တရာသော ကိုယ်—အမှုကို ပြုလုပ်လိုလျှင်၊ ငါပြုလိုသော အမှုသည်†မိမိ ကိုယ်တိုင်ကို ညှဉ်းဆဲရန် ပင် ဖြစ်လေသလော?၊ သူတပါးကို ညှဉ်းဆဲရန် ပင် ဖြစ်လေ သလော?၊ နှစ်ဦးစုံကို ညှဉ်းဆဲရန် ပင် ဖြစ်လေသလော? ဤအမှုသည် ဆင်းရဲ ပွါး၍ မကောင်းကျိုး ဖြစ်ပေါ်မည့် အကုသိုလ်မှုပင် ဖြစ်သလော? ဟု ဆင်ခြင်—စဉ်းစား ရာ၏။

ရာဟုလာ၊ ဤသို့ ကြည့်ရှု ဆင်ခြင်—စဉ်းစားခြင်းဖြင့် မိမိ ကိုယ်ကို ညှဉ်းဆဲ ရန် ပင် ဖြစ်ခဲ့သော်၊ သူတပါးကို ညှဉ်းဆဲရန် ပင် ဖြစ်ခဲ့သော်၊ သို့မဟုတ် နှစ်ဦး—

---

†အတ္တဗျာဗါဓါယာတိ အတ္တဒုက္ခာယ ဟူသော အဋ္ဌကထာနှင့် ဋီကာ-ဆရာတို့ နည်း အ

စုံပင် ညှဉ်းဆဲရန် ဖြစ်ခဲ့သော်, ဒုက္ခ ပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်မည့် အကုသိုလ်အမှု ဖြစ်ခဲ့သော်, ရာဟုလ, ဤသို့သော အမှုကို စွန့်ပစ်အပ်၏, မပြုကျင့်အပ်၊ ရာဟုလ, သင် ကြည့်ရှု ဆင်ခြင်စဉ်းစား၍, ငါပြုလိုသော အမှုသည် မိမိ ကိုယ်ကို, သူတပါးကို, ၂ ဦးစုံကို ညှဉ်းဆဲရန် မဖြစ်,—ချမ်းသာ ပွါး၍, ချမ်းသာကျိုး ဖြစ်ပေါ်မည့် ကုသိုလ်မှုဟု သိရှိရခဲ့လျှင်, ရာဟုလ, ဤသို့သော ကိုယ်—အမှုကို ပြုလုပ်အပ်၏၊ ရာဟုလ, ကိုယ်ဖြင့် အမှု ပြုကျင့်ဆဲ အတွင်း လည်း ဤ ငါပြုသော အမှုသည် မိမိကိုယ်ကို, သူတပါးကို, ၂ဦးစုံကို ညှဉ်းဆဲကြောင်း ဖြစ်သလော?; ဆင်းရဲပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်မည့် အကုသိုလ်မှု ဖြစ်သလော? ဟု ဆင်ခြင်အပ်၏၊ ဆင်ခြင်၍, မိမိ သူတပါး ၂-ပါးစုံ ညှဉ်းဆဲရန်, ဆင်းရဲပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်သည့် အကုသိုလ်မှု ဖြစ်သည် ဟု သိရှိရခဲ့လျှင်, ရာဟုလ, ဤသို့သော အမှုကို သင်သည် ပယ်ရှားရှောင်ကြဉ်လေလော။

ရာဟုလ, ထိုသို့ မဟုတ်ပဲ ချမ်းသာ ပွါး၍, ချမ်းသာကျိုးကို ဖြစ်ပေါ်သည့် ကုသိုလ်ကံဟု ဆင်ခြင်—သိမြင်ရလျှင်, ဤသို့သော အမှုကို မချွတ်-ယွင်းစေလင့်၊ ရာဟုလ, ပြုလုပ်ပြီးကာလ၌ လည်း, ငါပြုပြီ ထိုအမှုသည် မိမိ-သူတထူး, ၂ ဦးစုံ ညှဉ်းဆဲကြောင်း—ဆင်းရဲ ပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်ကြောင်း အကုသိုလ်မှု ဖြစ်သလော? ဟု ဆင်ခြင်-စဉ်းစားအပ်၏၊ ရာဟုလ, သင်-ဆင်ခြင်-စဉ်းစား၍, မိမိ, သူတထူး ၂-ဦးစုံ ညှဉ်းဆဲကြောင်း, ဆင်းရဲ ပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်ကြောင်း အကုသိုလ်မှု ဖြစ်သည် ဟု သိမြင်ခဲ့အံ့, ရာဟုလ ဤသို့သော ကိုယ်—အမှုကို ဘုရား ပညာရှိ, သီတင်း သုံးဖေါ်တို့ ထံ၌ ပြောကြားအပ်၏, ဖွင့်ဆိုအပ်၏; ဖေါ်ပြအပ်၏; ပြောကြား, ဖွင့်ဆို, ဖေါ်ပြ၍, နောင် ဤသို့သော ကိုယ်—အမှုမျိုးကို စောင့်စည်းအပ်၏၊ ရာဟုလ, ထိုသို့ မဟုတ်ပဲ, ငါပြုပြီးသော ကိုယ်—မှုသည် မိမိ, သူတထူး ၂ဦးစုံ ညှဉ်းဆဲကြောင်း ဆင်းရဲ ပွါး၍, ဆင်းရဲကျိုး ဖြစ်ပေါ်ကြောင်း အကုသိုလ်မှုမဟုတ်, ချမ်းသာ ပွါးစီး၍, ချမ်းသာကျိုး ဖြစ်ပေါ်ကြောင်း ကုသိုလ်မှုဟု ဆင်ခြင်သိမြင်ခဲ့အံ့ ရာဟုလ, သင်သည် ထိုသို့သော အမှု—အတွက် ဝမ်းမြောက်ခြင်းဖြင့် သာကုသိုလ် တရား တို့၌ နေ့ညဉ့်မပြတ် ကျင့်ကြံ နေထိုင်လေလော။

ရာဟုလ, သင်သည် တစုံတခုသော နှုတ်အမှုကို ပြုလိုရာ, ပြုလုပ်ဆဲဖြစ်ရာ ပြုလုပ်ပြီး အတိ လည်း ; ထို အတာပင် ဆင်ခြင် စဉ်းစား၍ မိမိ သူတထူး

၂-ဦးစုံ ညှဉ်းဆဲကြောင်း, ဆင်းရဲ ပွားရ၍ ဆင်းရဲကျိုး ဖြစ်ပေါ်ကြောင်း အကုသိုလ်မှု ဖြစ်သည် ဟု သိမြင်ရလျှင်, ထို အမှုကို ကြဉ်ရှောင်အပ်၏၊ ထိုသို့ မဟုတ်ပဲ, ကိုယ်-သူတပါး ၂-ဦးစုံ ညှဉ်းဆဲကြောင်း မဟုတ်မူ၍, ချမ်းသာ ပွားရာ ချမ်းသာ ဖြစ်ပေါ်ကြောင်း ကုသိုလ်မှု ဖြစ်ခဲ့သော် သာ, ပြုကျင့် အပ်၏၊ ရာဟုလ, စိတ် အမှု အစုံ-တခုကို ပြုလုပ်ရာ, ပြုလုပ်ဆဲ ဖြစ်ရာ၌ လည်း ထို နည်းတူ ပင် ဆင်ခြင်-စဉ်းစား၍, အကုသိုလ် ဖြစ်က ကြဉ်ရှောင်; ကုသိုလ် ဖြစ်က ပြုကျင့်အပ်၏; ပြုလုပ်ပြီး၍ လည်း ဤ နည်းတူ ဆင်ခြင်ရာ၏; ဆင်ခြင် စဉ်းစား၍ အကုသိုလ်ဟု သိမြင်ခဲ့လျှင်, ငြီးငွေ့အပ်၏, ရှက်အပ်၏, စက်ဆုပ်အပ်၏၊ ငြီးငွေ့-ရှက်ကြောက်-စက်ဆုပ်၍ နောင် ကြဉ်ရှောင် အပ်၏။— ကောင်းကျိုးရမည့် စိတ် အမှု ဖြစ်ခဲ့သော်, ထိုသို့သော ဝမ်းမြောက်ခြင်းဖြင့် သာ ကုသိုလ်-တရားတို့၌ နေ့ညဉ့် မပြတ် လေ့ကျင့် နေထိုင်လေလော့။

ရာဟုလ, ရှေး လွန်ခဲ့ပြီး ကာလက ကိုယ် အမှု—နှုတ် အမှု—စိတ် အမှုကို သုတ်သင်ကြသော ရဟန်း—ပုဏ္ဏားတို့သည် လည်း ဤ အတိုင်း ပင် စဉ်းစား-စဉ်းစား၍ သာ သုတ်သင်ကြကုန်ပြီ၊ နောင် ရောက်လတ္တံ့ အနာဂါတ် အခါ ရဟန်း-ပုဏ္ဏားတို့ လည်း ဤ နည်း အတိုင်း သာ စဉ်းစား-စဉ်းစား၍ ပြုကျင့်ကြကုန်လတ္တံ့၊ ယခု ပစ္စုပ္ပန် အခါ ရဟန်း-ပုဏ္ဏားတို့ လည်း ဤနည်း ပင် ကိုယ်-နှုတ်-စိတ် အမှုများကို သုတ်သင်—စဉ်းစား၍ သာ ပြုလုပ်ကြကုန်၏၊ ထို့ကြောင့်, ရာဟုလ, သင်သည် စဉ်းစား-စဉ်းစား၍ သာ ကိုယ်အမှုကို သုတ်သင်အံ့, စဉ်းစား-စဉ်းစားဆင်ခြင်၍ သာ နှုတ်-အမှုကို သုတ်သင်အံ့, စဉ်းစား-စဉ်းစား၍ သာ စိတ်အမှုကို သုတ်သင်အံ့ ဟု ကျင့်ဆောင် လိုက်နာ အပ်၏၊— ဘုရားရှင်သည် ဤသို့ ဟောတော်မူပြီ၊ အရှင် ရာဟုလာ-သာမဏေရ် လည်း ဘုရားရှင် ဟောကြား ဆုံးမအပ်သည်ကို လိုက်နာ-ကျင့်ဆောင်ပါမည်, ဘုရား ဟု ဝန်ခံ ဝမ်းမြောက်လေပြီ—, ဤကား 'လာဃုလောဝါဒေ မုသာဝါဒံ အဓိကိစျ-'ဟု ကျောက်စာ ညွှန်ပြတိုင်း ရာဟုလောဝါဒသုတ် မြန်မာပြန်တည်း။

ဤ မျှဖြင့် အသောက မင်းတရားကြီး ညွှန်ပြချက် သဒ္ဓမ္မစိရဋ္ဌိတိက သုတ္တန်များ အရ နောက်ဆက် စဉ်လာ များသူငါတို့ လွယ်ကာ အေးလူ နာယူ သိမှတ်ကြစေရန် အရှင် အာဒိစ္စဝံသ မထေရ် မြန်မာဘာသာ ပြန်ဆိုအပ်သော 'သုတော်တရား တည် တန့်ရေး သုတ္တန်ခဏ်း' ပြီးဆုံး တိုင်ရောက်၏။

## ဆ၊ အခန်း ၇၊

အသောက ကျောက်စာ မြန်မာ ဘာသာပြန်

ကျမ်း–ဆရာ၏ ကိုယ်တိုင်ရေး အညွှန်းပြွတ်ကျဉ်း၊

# အရှင်အာဒိစ္စဝံသ အတ္ထုပ္ပတ္တိကျဉ်း။

## ၁။ အချီး။

'ဤမျှဖြင့် အရှင် အာဒိစ္စဝံသ မထေရ် ဘာသာ ပြန်ဆို ရေးသားအပ်သော-အာစ ချီသော ထိုထို နိဂုံးများ၌ 'အရှင် အာဒိစ္စဝံသ ဟူသည် မည်သို့သော သူ ဖြစ်သည်; မည်သည့် အရပ်သား ဖြစ်သည်; မည်သည့် အလုပ်ကို လုပ်ကိုင်သည် စသော အ-ကြောင်းကို ပုဂ္ဂိုလ်ကို မမြင်ရ, မြင်ရသူ များစွာတို့ ပင် သိလိုကြ၍, ထိုထို ရှင်လူ-ရဟန်းတို့ မေးမြန်းကြပါသည်၊ ထို့ကြောင့်, အရှင် အာဒိစ္စဝံသ၏ အတ္ထုပ္ပတ္တိကို ရေးသားပါ' ဟု ကျွန်ုပ်တို့ မိတ် သင်္ဂဟ, သိတင်း သုံးဖေါ်နှင့် တပည့် တပန်း အချို့က တိုက်တွန်းကြသဖြင့် ကျွန်ုပ် ကိုယ်တိုင် ရေး အတ္ထုပ္ပတ္တိ ရှိပြီး ဖြစ်ကြောင်း ပြန်ကြားစေကာ; အတ္ထုပ္ပတ္တိ အကျဉ်းချုပ် တခု လည်း ရေးသား၍, စာအုပ် တခု နောက်ပိုင်း၌ ထည့်သွင်း ထားရန် အကြောင်း အထပ်ထပ် တောင်းပန် တိုက်တွန်းကြသောကြောင့် ဤ အရှင် အာဒိစ္စဝံသ အတ္ထုပ္ပတ္တိကို အတ္ထုပ္ပတ္တိရှင် ကျွန်ုပ် ကိုယ်တိုင် ရေးသားထားအပ်၏။

# အရှင်အာဒိစ္စဝံသ အတ္ထုပ္ပတ်ကျဉ်း၊

## ၁၊ ဇာတိဋ္ဌာန၊

ကျွန်ုပ်သည် မြန်မာပြည် အထက်ပိုင်း ရမည်းသင်း ငါးမြို့ အဝင်, ရမည်းသင်းမြို့ အနောက်—တောင် လက်, ရင်းမြို့နှင့် ခရီး လေးတိုင်ကွာ, မြို့လှမြို့မှ အရှေ့—တောင် ခရီး တတိုင် သာသာ ကမ်းလှမ်းသော, ကျွန်ုပ် မွေးဖွားစဉ် အခါ အိမ်ခြေ ငါးဆယ် ကျော်ရှိ ပင်းစု ခေါ် ရွာ၌ မွေးဖွားခဲ့ပြီ၊ ကျွန်ုပ်၏ အမိ-အဘတို့မှာ ဗုဒ္ဓဘာသာ မိရိုးဖလာမှ ပေါက်ဖွားခဲ့၍, အရပ် ထက်ဝန်းကျင်၌ ရင်း,ဆွေမျိုးတို့အတွင်း၌ ရင်း,ဥစ္စာဓန ဂုဏ်, အကျင့်—သီလ ဂုဏ်, အမျိုး ကောင်းမွန်ခြင်း ဂုဏ် အားဖြင့် သူကောင်းမျိုး ဟု အများတို့ ကြည်ညို လေးစားအပ်သူတို့ ဖြစ်ကြ၍, အလုပ်-အကိုင်မှာ လယ်လုပ်—ကုန်သွယ် ၂-မျိုး ပင် ဖြစ်ကြကုန်ပြီ၊ ကျွန်ုပ် မွေးဖွားရာ ပင်းစု ရွာကား များသော အားဖြင့် ကျွန်ုပ်တို့၏ ရင်းနှီးသော ဆွေမျိုး အပေါင်း၏ သာ စုဆောင်း နေထိုင်ရာ ဖြစ်၍, အနီး ပတ်ဝန်းကျင်ရှိ သရက်ပင်—တောင်ရွာ, မြောက်ရွာ, ပင်းစု တောင်ရွာ, မြောက်ရွာ, ပဲ့ဆယ်ရွာ, လက်ပံရွာ, အင်ပင်-တောင်ရွာ, မြောက်ရွာ, နွားပုခြင်း စသော ရွာများမှ လည်း ကျွန်ုပ်တို့ ဆွေမျိုးပေါင်း များစွာ၏ နေထိုင်ရာ သာ ဖြစ်သော ကြောင့် ထိုအရပ်၌ ကျွန်ုပ်တို့မှာ ဆွေကြီး မျိုးကြီး ဖြစ်ကုန်၏။

## ၂၊ ဇာတကာလ၊

ကျွန်ုပ်သည် မြန်မာ သက္ကရာဇ် ၁၂၄၄ ခု; သာသနာတော် ၂၄၃၅ ခုနှစ် နယုန်လဆုတ် ၁၁—ရက် တနင်္ဂနွေနေ့ နံက် နေဝန်းပေါ်သည်နှင့် တပြိုင်နက်——

လ
၅
၄၆
၀
၂
၃
၈

စင်နက္ခတ်
၀
၃

မြန်မာ သက္ကရာဇ်
၁၂၄၄-ခု
သာသနာတော်နှစ်
၂၄၃၅-ခု
နယုန်လဆုတ် ၁၁-ရက်
နံက်နေဝန်းပေါ်, တနင်္ဂနွေနေ့၊

မွေးဖွားခဲ့၍ ကျွန်ုပ် မွေးဖွားစဉ် ဗေဒင်ကြောင်း အရ ဇာတာ မှတ်တမ်းမှာ ဖော်ပြ ထားသော ပုံ အတိုင်းဖြစ်၏၊—ကျွန်ုပ်၏ မွေးမိခင်မှာ တော်အုပ် ဟု ခေါ်နာမည် ရှိ၍ သားကို တရား မှန်တိုင်း ဆုံးမ-ကန့်မြစ်ရန် နှင့် ပြုစုရန် အထူး ကျွမ်းကျင် လိမ်မာ လေပြီ၊ ကျွန်ုပ်၏ မွေး ဖခင်မှာ ဦးလာ ဟု ခေါ်မည် ရှိ၍ အင်း—အိုင်—လက်ဖွဲ့—မော် အတတ်များကို ကျွမ်းကျင်လျက် ပီဇွာ ဆေးဆရာ လည်း ဖြစ်လေပြီ၊ ၎င်းတို့ ၂—ဦး စုံမှာ လည်း မောင်နှမတော် ပင် ဖြစ်လေပြီ၊ ကျွန်ုပ်တို့ ဆွေမျိုးများ၏ ထိုစဉ် အခါ ရှိးရာ ဓလေ့ကား၊ 'ဆွေချင်းထပ် မြတ်သည်' ဟူသော စကားပုံ အရ ဆွေမျိုးအချင်း ချင်း သာ လက်ထပ်လေ့ ရှိလေပြီ၊ ကျွန်ုပ်ကို မွေးဖွားစဉ် အခါ အမိ-အဖတို့မှာ ဥစ္စာ ပစ္စည်း အထူး တိုးတက်ခိုက် ဖြစ်သော ဟူ၏၊ ကျွန်ုပ်မှာ မဟာဘုတ်တိုင် ဟောကိန်းအရ မရဏဖွား ဖြစ်သည့် အတိုင်း-၅-နှစ် အတွင်း၌ ရောဂါ အထူး များပြားခဲ့သဖြင့် ကျွန်ုပ်သည် မိဘကို ဒုက္ခ ပေးခဲ့သူ ဟု ဆိုရမည် ဖြစ်၏၊ သို့ရာတွင်၊ ရောဂါကြောင့် အမြဲး ယုယ-ဂရု-ကတ ပြုကြရသည်ဖြစ်သောကြောင့် မိဘတို့ အထူးချစ်အပ်သူ ဖြစ်ခဲ့ရ သည်ကား မချွတ်တည်း၊ ထို့ပြင် 'မာတာ ယထာ နိယံ ပုတ္တံ မာယုသာ' ဧကပုတ္တံ 'မနုရက္ခေ'—ဟူသော ပါဠိတော်နှင့် ညီစွာ ကျွန်ုပ်မှာ တဦးတည်း သာ မွေးဖွားသော တယောက်တည်း သား ဖြစ်လေသည်။

## ၃၊ ပုရိမဘဝ၊

ကျွန်ုပ်သည် မွေးဖွား၍ ၂ နှစ်ကျော် အခါ စကားပြောစ အချိန်၌ ရှေးဘဝက အဖြစ်များကို ပြောကြားခဲ့သူ ဖြစ်လေပြီ၊ ကျွန်ုပ်သည် ရှေး ပထမ ဘဝက၊ ယခု အမိ၏ မွေးချင်း ၅—ယောက် အနက် အထွေးဆုံး မိန်းမ ဖြစ်ခဲ့ သဖြင့် ယခု အမိနှင့် ညီ-အမ တော်ခဲ့၍၊ ထို အမနှင့်အတူ တကွ ယောကျ်ား ဖြစ်ရန် ရည်ရွယ်ချက်ဖြင့် လင်သား မယူပဲ၊ ဗြဟ္မစရိယ-ပဉ္စမ သီလကို ကျင့်သုံးခဲ့လေပြီ၊ ထိုသို့ အားဖြင့် ထို အရပ်၌ ပင် နေထိုင်ခဲ့သည် အတိုင်း ထိုအရပ်က လူ—အားလုံးတို့မှာ အသစ်များ မ ဟုတ်ကြ သဖြင့် ဤဘဝ ထိုစဉ် အခါက ဆွေမျိုး အပေါင်းတို့အား ရှေးဓေါ်ဓေါ် မြဲးအတိုင်းပင် ခေါ်ဓေါ်လေ့ ရှိခဲ့သည့် အပြင်၊ ၅—နှစ် အထိ ယောကျ်ားဝတ်ကို မဝတ်ပဲ၊ မိန်းမ အဝတ် အစားများကို သာ ဝတ်ခဲ့လေပြီ၊ တရံ အခါ ကျွန်ုပ်တို့ ကြိုး တော်များ ဝိုင်း အတွင်း တူမများနှင့် ကစား နေစဉ် ဘခင် လာသည်ကို မြင်၍ ၎င်းထံ ပြေးသွားရာ၊ ၎င်းက ဝတ်ထားသော မိန်းမ အဝတ်ကို ချွတ်ပစ်—လွှ၍ ချ သွားသော ကြောင့် ၎င်း အဝတ်များကို ပြန်လည် ရရှိသည် တိုင်အောင် ငိုရ ပူးသည်ကို မှတ်မိ၏။

ကျွန်ုပ်ကား ဤဘဝတွင် သာ ရှေးဘဝ အဖြစ်ကို ပြောခဲ့သည် မဟုတ်; ထ ရှေး မိန်းမ ဘဝက လည်း ရှေး တတိယ ဘဝက အဖြစ်ကို ပြောခဲ့လေပြီ၊ ထိုတတိယ ဘဝက မူ မိန်းမ မဟုတ်, ယောကျ်ား ဖြစ်ခဲ့ပြီ၊ ထိုရာတွင်, ၎င်းကား လူရာ မြောက် သူ မဟုတ်; ပညာဉာဏ် မရှိ, ဒုစ္စရိုက် အထူး မရှောင်; ဖျင်းဖျင်း အအ ဖြစ်ခဲ့၍, မျက်စိ တဖက် ပျက်သူ ဖြစ်ခဲ့ပြီ၊ ၎င်းမှာ မိန်းမ သေဆုံး သဖြင့် သား–သမီး ၂– ယောက်နှင့် မုဆိုးဖို ဖြစ်လေပြီ၊ ထိုသို့ အားဖြင့် ညံ့ဖျင်းသူ ဖြစ်သောကြောင့် ဘဝ အစား ယောကျ်ား အဖြစ်ကို မရနိုင်ပဲ, မိန်းမ ဖြစ်ခဲ့လေပြီ၊ ထို မိန်းမ ဘဝ၌ ကား အမ ဟူသော မိတ်ဆွေကောင်းက ဖြောင်းဖြ ပြောဆို၍, ယောကျ်ား ဖြစ်ရန် ရည်ရွယ် လျက် ဖြဟ္မစရိယ ပဥ္စမ သီလ ကျင့်ခဲ့ခြင်း, ထိုက်လျော်သော ဒါန စသည် ပြုလုပ် ခဲ့ခြင်းများကြောင့် ဤ ယခု ပစ္စက္ခ–ဘဝ၌ ယောကျ်ား တဖန် ဖြစ်ရပြန်သတည်း၊ ယင်း သို့ အားဖြင့် မိန်းမ အဖြစ်မှ လာရောက်ခဲ့တိုင်း ကျွန်ုပ်၏ စိတ်မှာ ယော်စဉ်က ပြော ပြောင်းခဲ့၍, အလွန် အမင်း လည်း ကြောက်တတ်ခဲ့လျက် မိန်းမ ကလေးများနှင့် သာ အတူ တကွ ကစား ပျော်မြူးခဲ့လေပြီ။

## ၄၊ ပထမာ စရိယ၊

ကျွန်ုပ် ၅–နှစ်သား အရွယ်တွင် ကျွန်ုပ်တို့ ရွာဦးကျောင်း၌ ကျောင်းသား မ- ဟုတ်; ကျောင်းစား အဖြစ်နှင့် သာ နေထိုင်ခဲ့လေပြီ၊ ထိုစဉ် အခါ ထိုကျောင်း၌ နာယက ဆရာတော်ကား ကျွန်ုပ်တို့ ဦးရိုးတော်ရင်း ရမည်သင်းမြို့ ရွှေဂူ ရှန်အောင်, စောင်ခြမ်းတောင် ၃–ဂိုဏ်းချုပ် ဓမ္မကထိက မဟာဝိဘင်္ဂ–ရေ-ဝှဲ ထံဆိတ်တော်ရ အရှင် ဝိလာသ မထေရ်မြတ်ဖြစ်ခဲ့လေပြီ၊ ၎င်း၏ လက်ထောက် စာချ ဆရာတော်ကား မန္တလေးမြို့ သစ်ဆိမ့်တိုက် ပထမ စာတော်ချ ဘုရင့်အထောက်တော်ရ အထူး ကျမ်း ဂန်တတ် ဟု ကျော်ကြားခဲ့သော အရှင် အာစာရ မထေရ် ဖြစ်ခဲ့ပြီ၊ ကျောင်းသား ထိန်း အမှုဆောင် တိုက်အုပ် ဆရာတော်ကား ၎င်း အရှင် အာစာရ မထေရ်မြတ်၏ ညီတော် အရှင် စန္ဒောဘာသ မထေရ် ဖြစ်ခဲ့လေပြီ၊ ၎င်းကား မြန်မာပြည် နောက် ဆုံး ဘုရင် သီပေါမင်းကြီး၏, မိဘုရားခေါင်ကြီး၏, ပဥ္စင်းတော်တည်း၊ ထို ၂–ပါး တို့မှာ ကျွန်ုပ်၏ ရင်းချာသော အစ်ကိုယ်တော်များ ဖြစ်ကြ၍, ထို ၃–ဂိုဏ်းချုပ်

ဆရာတော်ကြီး၏ သဒ္ဒိဝိဟာရိကတပည့် ညာတိ, လူစပ် အားဖြင့် တူတော်များ ဖြစ်ကြကုန်ပြီ၊ ထိုစဉ် အခါ ထို ပင်းစုကျောင်းတိုက်မှာ သံဃာတော်တို့ ကိုးစား မျှော်မှန်းရာ ဖြစ်၍, ရဟန်း-သာမဏေရ် စာသင်သားပေါင်း ထရာခန့် ရှိခဲ့လျက် ကျောင်းသား လည်း ၅-၆-ဆယ်အောက် မယုတ် ရှိခဲ့လေပြီ။

## ၅၊ ပါဠိကာ၊

ကျွန်ုပ်သည် ကကြီး, ခခွေးကို အတော် အတန် ဓဲးယဉ်း လေးဖင့်စွာ သင်ယူခဲ့ရစေကာ; သင်ပုန်းကြီးကိုကား ၁၂-ရက်နှင့် ပင် ကိစ္စတုံး၍, နောက်ထပ် လည်း မသင်ရ, စာကောင်းကောင်း ဖတ်နိုင်သဖြင့် တန်းတက်ခဲ့ရသည့် အပြင်, ထိုသို့သော ရက်သတ္တိကြောင့် ဆရာတော်ကြီး ကိုယ်တော်တိုင် လည်း အထူးပြုလုပ် သင်ပြဖြင်းကို ခံယူခဲ့ရပြီ၊ ကျွန်ုပ်သည် ဥာဏ် အကောင်းဆုံး အစား မဟုတ်ခဲ့စေကာ, မင်္ဂလသုတ်ပါဠ်-အနက်, နမက္ကာရ, အောင်ခြင်း ၂-မျိုး, ရတနာရွှေချိုင့်, ပရိတ်ကြီး မောင်းမ-စရိုက်မှ စ၍, ဗေဒင်-လက်ရိုး အကုန် တွက်ရိုး နှုတ်ရ တွက်တတ်သည် တိုင်အောင် ပြီးဆုံးသည့်နောက်, ဥပါတသန္တိပါဠ်-အနက်, ဇာတ်ကြီး ဆယ်ဖွဲ့ ဖတ်ရွတ်ပေါက်မြောက်, ကစ္စည်း-သဒ္ဒါ ရှစ်စောင်, နှင့် အဘိဓမ္မတ္ထသင်္ဂြိုဟ် အာဂုံ နှုတ်ရ, ထို့ပြင် အခြားသင်္ကြံးစာ လောကီ-လောကုတ် လူ့လုပ်ခွင့်နှင့် ထိုက်တန်သော သင်ရိုးများကို ၁၁ နှစ်သား အတွင်းက ပင် ပြီးဆုံးစေခဲ့ပြီ။

ထို့ပြင်, ထို သင်ရိုးများနှင့် တပြိုင်နက် ပင် ဦးပုညရေး-မေဏ္ဍာစာ, ဝိဇယဇာတ်နှင့် ထိုခေတ်တွင် သုံးစွဲးလေ့ ရှိသော နာမ်ပါတ် ရှစ်ဆယ် ဇာတ်စာအုပ်ပေါင်း ၁၁ လည်း အာဂုံ-နှုတ်ရ ဖြစ်၍, သုမင်္ဂလ-ဇမင်္ဂလ ပင့်စာ-ဖိတ်စာ စောင်ရေ များစွာနှင့် လယ်ပေါင်-ယာပေါင်-ငွေချေး စာချုပ်, ဖြတ်စာ ပေါင်း များစွာ လည်း ကျွန်ုပ်ဝမ်းတွင်း၌ ပြည့်လျှမ်းစွာ ရှုံပြီး ဖြစ်ကြပြီ၊ ဗဟုသုတအက်၌ မဏိကုဏ္ဍလ ဝတ္ထု, သံဝေဂဝတ္ထု, ဇိနတ္ထပကာသနီနှင့် ထိုထို ငါးရာ့ ငါးဆယ် ဇာတ်ငယ်များ ဖတ်ရွတ်ပြီးဆုံးပြီး ဖြစ်ခဲ့ကြပြီ၊ ထို့ပြင်, ကျွန်ုပ်သည် မည်သည့် စာကို မဆို ရေးခဲ့သို့ ဖတ်နိုင်စွမ်း သဖြင့် ထိုသို့သော သတ္တိ အတွက် ကျွန်ုပ်တို့ ၃-ဂိုဏ်းချုပ် ဆရာတော်ကြီး ပိုင်ဆိုင်ရာ ၃-ဂိုဏ်း အတွင်း၌ ဂုဏ်သိန် ရသူဖြစ်ခဲ့ပြီ၊ လက်ရေး-လက်သားပက်၌

လည်း အထူး ပေါ်ပါး၍ လူ—သံသာ ဆိုင်ရာ ဖြတ်စာ, စစ်တမ်း, လယ်ပေါင်—ယာ
ပေါင်—ငွေချေး စာချုပ်များကို ဝမ်းတွင်း ပညာဖြင့် ရေးသားနိုင်လျက် ရေးသားခဲ့
သည့် နယ်ပိုင် စာရေးတော်ကြီး ဖြစ်ခဲ့ပြီ။

## ၆၊ မန္တလေး-၁၊

ထိုသို့ အားဖြင့် ၁၁ နှစ်သားမှ စ၍, ၁၄ နှစ် အတွင်း၌ ကျွန်ုပ် ရခဲ့သော
ဂုဏ်သတင်းမှာ တခဏခြင်း စဉ် တိုက် ထွန်းကားရန် အခြေ ဖြစ်၍, နှစ်သက်လောက်
အောင် ဂုဏ်ထူးရှိ တောမနာရဟ, တောမိတဗ္ဗ တောမနုပ္ပတ်ဌာန ဖြစ်ခဲ့လျက် ကျွန်ုပ်
၏ ဆရာတော်ဘုရားက လည်း ၁၇ နှစ်သားတွင် ပိဋက သင်ရိုးပေါက် ဖြစ်စေရ—
မည်ဟု ဝန်ခံ ကြိုးပမ်းတော်မူခဲ့ခြင်းကို ခံယူခဲ့ရပြီ၊ သို့သော်, 'စိန္တိတံပိ ဝိနဿတိ'
ဟု မဟာဇနကဇာတ် လာရှိတိုင်း ကျွန်ုပ် အသက် ၁၄ နှစ်ခြောက် ရှင်သာမဏေ
ဖြစ်ပြီးနောက် မကြာမြင့်မီ ပင် ကျွန်ုပ်တို့ ၃—ဂိုဏ်းချုပ် ဆရာတော် ကွယ်လွန် သ—
ဖြင့် ကျွန်ုပ်ပညာရေးမှာ ဘေးဥပဒ်ကြီး ဆိုက်ခဲ့လေပြီ၊ ထိုနောက် ကျွန်ုပ် [က ဝါ]
ကြီး၍, ကျွန်ုပ်၏ တူ ဟု ဆိုရသော ] ဦးရိုးတော် အရှင် ကဝိန္ဒ မထေရ်နှင့် မန္တလေးသို့
တက်ရောက်, ဘုရားကြီး ကျောင်းတိုက် ပေပင်ကျောင်းတွင် နေပါသော် လည်း
ရှင်းနှင့် သဘောထား ကွဲလွဲကြသောကြောင့် တနှစ်ခန့်တွင် နေရပ်သို့ ပြန်လည်ခဲ့ရပြီ၊

## ၇၊ ပျော်ဘွယ်—၁၊

မန္တလေးမှ ပြန်လည်၍, မမြင့်မီ, ကျွန်ုပ် အသက် ၁၆ နှစ် အတွင်းတွင် အင်
လိပ်စာ သင်လို စိတ်ဖြင့် ရင်းကို လည်း အရှည် အမြင့် မသင်လို့, အမြန် တတ်
လို၍ မော်လမြိုင်တွင် ၃ နှစ်ကျောင်း ရှိကြောင်း သတင်းအရ မိဘတို့အား မတိုင်—
မကြားပဲ, ထွက်ပြေးခဲ့စေကာ; ပျဉ်းမနား ရေနီချောင်းက ကန့်ကွက် သဖြင့် ပျဉ်း
မနား မြို့တွင် ပင် ခေတ္တ တန့်နားရှိစဉ်, ဖခင် လိုက်လာ ဖြားယောင်း ခေါ်၍, ပြန်
လည်ခဲ့ရပြီ၊ ထို့နောက် အင်္ဂလိပ်စာ သင်ရန် အာသာ မပြတ်သကဲ့သို့ ဖြစ်၍, ရမည်း
သင်းနယ် ထောက်ကြံ့ခြင်းကျောင်း၌ ဂဏန်းသင်္ချာ သွားရောက် သင်ယူ နေထိုင်ခဲ့ပြီ
ရင်းမှ ငှက်များ မိ၍, အရပ်သို့ ပြန်လည်ခဲ့လျက် ၆ လ ကြာသော်, ပျော်ဘွယ်မြို့

ဝေဇယန် ဆရာတော့်ထံ သာမဏေရ် အဖြစ်နှင့် သွားရောက် နေထိုင်ကာ, ပိဋက တော်ကို သင်ယူမြန်ပြီ၊ သို့ရာတွင်, ပညာဂုဏ်ယှဉ်၍ ဝေနေနှင့်ရာဟု ဆို၍, စိးနေသောကြောင့်ဟု ဆိုရန် ရှိ၏, ပညာ ကောင်းကောင်း မသင်ရချေ၊ ဝေဇယန် ဆရာတော့် တူ့လေသာ ဆရာတော် အရှင်ဝိလာသ ထံတွင် ခဲယဉ်းစွာ သင်ရသဖြင့် ငှိကာကျော်, ဝိနည်းငယ် လေးစောင်နှင့် အဘိဓာန် ကဝ်ါမျှလောက် ပြီးဆုံးခဲ့လေပြီ။

## ၈။ ပဉ္စမိတ၊

ကျွန်ုပ်မှာ လူလုပ်ရန် အတွက် ကျနစွာ ကိုယ်တိုင် ပြင်ဆင် ထားပြီး အသင့် ရှိသူ ဖြစ်ခဲ့၍, ရဟန်း ပြုရန် အိပ်မက်မျှ မမက်ဘူး; စင်စစ်ကား ဗုဒ္ဓ–ဘာသာရေး၌ ဘုန်းတော်ကြီးများအား လုံးလုံး မှီခိုရခြင်းမှ လွတ်လပ်ခွင့် ရရှိရန် ပိဋက–တတ်မြောက် လိုရေးအတွက် သက်သက် စာပေသင်ယူခြင်း ဖြစ်ခဲ့စေကာ, ဝေဇယန် ဆရာတော် အပြော ကောင်းဖြင့် ဖြားယောင်း၍, အသင်း ရဟန်း ပြုသောကြောင့် ၎င်း၏, ကျေးဇူးနှင့် ၎င်းကို ဥပဇ္ဈာယ် ပြုလုပ်၍, ပျော်ဘွယ်မြို့ အိုးကုန်းတိုက် ဓမ္မာသိမ် အတွင်းတွင် သံဃာတော် ၅၀ ကျော် ခြံရံလျက် ရဟန်းဖြစ် မင်္ဂလာကို ခံယူခဲ့ရပြီ၊ အနုသာသကမှာ ပျော်ဘွယ်မြို့ ရေလယ်ဆရာတော် ဖြစ်၍, ပထမ ကမ္မဝါ ဝါမှာ အင်ပင် ဆရာတော် အရှင် အာစာရ, လေသာ ဆရာတော် အရှင်ဝိလာသ, ရေလယ် ဆရာတော် အရှင် ရေဝတတို့ ဖြစ်ကုန်ပြီ၊ ရဟန်း သက္ကရာဇ်မှာ မြန်မာ သက္ကရာဇ် ၁၂၆၃ ခု, သာသနာ တော် ၂၄၄၅-ခု နတ်တော် လဆန်း ၂၃ ရက်နေ့ ၉–နာရီ အချိန် ဖြစ်ခဲ့ပြီ၊ ရဟန်း တကာမှာ ပျော်ဘွယ်မြို့ ကုန်သည် ဦးကြာခိုင်, တော်ပြားကြီးတို့နှင့် ကျွန်ုပ်တို့ မိတမျှား ၂ ဦးစပ် ဖြစ်ကြပြီ။

## ၉။ ပါဒပါဋ္ဌက၊

အသက် ၂၄–၅ နှစ်မြောက် ပိဋက တတ်လျှင်, လူထွက်မည် ဟူသော စိတ်–စွဲဖြင့် ရဟန်း ဖြစ်ခဲ့စေကာ, ပျော်ဘွယ်၌ ပညာသင်ခွင့် မရှိဗာဟိရ ကိစ္စ သာ များ သောကြောင့် ၂ ဝါသ်မြောက်၌ မန္တလေးသို့ တက်၍, ဘုရားကြီးကျောင်းတိုက် တိုက် အုပ်ဆရာတော်၏ ကျောင်းသစ်ကြီး၌ နေထိုင်ခဲ့ရာ, မိတ်ဆွေကောင်းများကြောင့် ထီးထမ်း

လမ်းလျှောက်နှင့် ကာလ ကုန်သဖြင့် မန္တလေးမြို့ လေးမြင် လေးရပ်နှင့် ပတ်ဝန်းကျင် အမရပူရ၊ ရွှေကျက်ရက်၊ စစ်ကိုင်း အရပ်များပါ သွားလာရန် ကြေပြန်သည်မှ တပါး ဘာ အကျိုးမျှ မဖြစ်ခဲ့ချေ၊ သို့ရာတွင်၊ ရဟန်း ၃-ဝါသ် မြောက်တွင် အရှင် ဝိသုဒ္ဓ မည်သော မွှာစရိယ ဆရာတော်၏ ကျေးဇူးဖြင့် အင်းဝပိုင် မြင်းသည်နယ် ပေပင်ကျောင်းတွင် ရှစ်လခန့် နေထိုင် အားထုတ်၍ မန္တလေး ပရိယတ္တိ အသင်း အငယ် စာများနှင့် တကွ ပိဋက အခြေတယ် စာစု အားလုံး နှုတ်ရ ဖြစ်၍ ဝိနည်း ငါးကျမ်း လည်း ပေါက်မြောက်ခဲ့လေပြီ။

# ၁၀၊ ဂန္ထနိဒ္ဒါန၊

ထိုအခါ စစ်ကိုင်းတောင် အရိယဝံသချောင်တွင် ၃-လခန့် စာပေများ လှည့်လည်ဖြန့်လှန် နေထိုင်ပြီးနောက်၊ ပခုက္ကူ မဟာဝိသုဒ္ဓာရာမ ကျောင်းတိုက်၌ ပိဋက သင်ပုံကို စုံစမ်း၍ သဘော မကြေနပ် သဖြင့် ညောင်တုန်းမြို့ ရွှေဟင်္သာ တောရကျောင်းတိုက် ဋီကာကျော်-ယောဇနာ ကျမ်းပြု ဝေဒ-သက္ကတ-ဂဏန-အင်္ဂလိပ် ဘာသာနှုရဒေသက အရှင် ဥက္ကဋ္ဌာသဘ မထေရ်မြတ်ထံ ဆည်းကပ်သင်ယူရာ၊ အခါလည် နည်းပါးတွင် သင်ရိုး ပိဋက ပေါက်မြောက်လေပြီ၊ ထိုစဉ် အခါ ကျွန်ုပ် အသက်မှာ လည်း ၂၄ နှစ်မြောက် ရဟန်း ၅-ဝါသ်ရဖြစ်၍၊ ကျွန်ုပ် ရည်သန် ထားတိုင်း လူထွက်ရန် အချိန်-အခွင့် သင့်တော်လေသတည်း၊ ဤကား ကျွန်ုပ် စိတ်ကြံတိုင်း ရဟန်း ငါးဝါသ်တွင် စာ တတ်မြောက်ချက်တည်း၊ ထိုသို့ အားဖြင့်ကျွန်ုပ်မှာ လူထွက်ရန် အခွင့် သင့်စေကာ၊ ပိဋကတော်၏ အထောက် အမဖြင့် ရဟန်း အဖြစ်၌ ပင် တည်နေရန် စိတ်ကို ခွဲပြန်လျက်၊ ပစ္စည်းဥစ္စာမှာ ရဟန်း၏ အန္တရာယ် သာ ဟုအောက်မေ့ သဖြင့် မိဘ လက်ရှိ ကျွန်ုပ် ကိုယ်ပိုင် ဖြစ်၍ တောရွာ အလို အားဖြင့် တောသေခြွေး တဦးပိုင်ခန့် ရှိသော လယ်ယာ-နွားခြံနှင့် ပေါးတို့ကို စွန့်ကြဲပေးကမ်းခဲ့ပြီ။

# ၁၁၊ ပဗ္ဗဇ္ဇာသဏ္ဌာန၊

ကျွန်ုပ်သည် ထိုသို့လျှင် ရဟန်း အဖြစ်၌ တသက်လုံး နေထိုင်ခြင်းဖြင့် သံသရာ တလျှောက်လုံး၌ ဝမ်းစာ လုံလောက်စေမည် ဟု ရည်သန်ချက် ထားရှိကာ ဆရာတော် အရှင် ဥက္ကဋ္ဌာသဘ က အင်္ဂလိပ်-သက္ကတ ၂-မျိုးလုံးကို ပင် သင်ကြား

ပြုသော်လည်း အင်္ဂလိပ်မှာ မိစ္ဆာ ဟူ၍, အယူသီးလျက် မသင်ကြားပဲ, သတ္တုရ ကျမ်းဂန်များကို သာ သင်ယူလျက်, လက်အောက် တပည့်တို့အား လည်း ပိဋက တော် ပို့ချ၍ နေထိုင်ပြီးနောက်, ထို ဆရာတော်နှင့် အတူ ပင် တွဲတေးမြို့ ကျောင်းသစ် ကျောင်း ကစ္စာယနသံပေ ကျမ်းဆရာ အရှင် နာဂမထေရ်မြတ်ထံ တဝါသ်နေထိုင် ခဲ့ပြီ၊ ဝါသ် ကျွတ်လျှင်, ရဟန်း အဖြစ်နှင့် မလိုက် မလျောသော ဗုဒ္ဓသာ,မနစ္ဆရ, အဘ္ဘုက္က သန, ပရဝမ္ဘန, အညမည ကလဟ-ဘေဒက တရားဆိုးဖြင့် အားကြီးနေ ထိုင်ကြသော ရဟန်းတော် အချို့အတွက် ရဟန်းဘောင်၌ စိတ်ပျက်၍, လူထွက်ရန် ထိထိ ခိုက်ခိုက် ကြံစည်ခဲ့စေကာ; မိတ်သဟာယကောင်း အရှင် အာစာရ မ- ထေရ်၏ ဥပါယ်ဉာဏ် ဟု ခေါ်နိုင်သော မိမိအား ပိဋက တစောင်ပေါက်,ခြီးမြောက် ချီ့ရန် တောင်းပန်ချက်ဖြင့် မော်လမြိုင်မြို့ သွားရောက် နေထိုင်ခဲ့ပြီ၊ ၎င်းတွင် တောင်ဝိုင်းကြီး တောရဝယ် ဝိဘင်္ဂမက်ဖမ်း၍, ကမ္မဋ္ဌာန်း ဓမ္မ့ရန် ကြံစည်သော် လည်း သိတင်း သုံးဖော်များနှင့် တကွ မြန်မာပြည် အစိုးရ-ပါဠိပထမပြန်ပွဲ၊ ပထမဆုံး ပထမ ကျော်ယခု အခါ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ အရှင် ကေတုမာလာ လက်ာ ရမထေရ်မြတ်၏ ခြီးမြှောက်ခြင်းဖြင့် ၎င်းပိုင် ရတနာသုံးပုံ ကျောင်း၌ ဂဏဝါစက ပြုလုပ် နေထိုင်ခဲ့ပြီ။

## ၁၂၊ ပျော်ဘွယ်-၂၊

မော်လမြိုင်တွင် တဝါသ်နေထိုင်ပြီးနောက် အချင်းချင်း မညီညွတ်အောင် ပြုတတ်သော ဘေဒက-ရဟန်းများကို အကြောင်းပြု၍, ပင် ထိုမှပြောင်းရွှေ့၍,တောင် ငူမြို့ ပိဋကတ္တယာ ရာမကျောင်းတိုက် နာယက မိတ်ဆွေဟောင်း အရှင်ကောသလ္လ ထံ ၃-လခန့် စမ်းသတ် နေထိုင်စဉ်, ဓမ္မမိခင် မမာ မကျန်း ဖြစ်၍, နေရပ်သို့ သွား ရောက်ပြီးလျှင်, ပျော်ဘွယ်မြို့ ဥပဇ္ဈာယ် ဆရာရင်းထံ၌ ပင် နေထိုင်ခဲ့ပြီ၊ ထို အခါ ကား ကျွန်ုပ် ရဟန်း အဖြစ်၌ ၇-ဝါသ်မြောက် ဖြစ်၍, ထို၌ ဝါဆိုပြီး ရှစ်ဝါသ်မြောက် တွင် မွေးမိခင် ကွယ်လွန်လေပြီ၊ ထို အခါ သာသနာတော်တွင် မိမိ၏ ဉာဏ်ပညာ ပဋိဘာန် သတ္တိ အလျောက် ခြီးမြှောက်နိုင်စွမ်းမည့် ဥပနိဿယ-ပုဂ္ဂိုလ်ကို ရှာဖွေ လျက်, ပျော်ဘွယ်မှ ရထားကြောင်း အတိုင်း အောက်ပိုင်းကို လှည့်လည် စုန်ဆင်း၍, သဘော်ကြောင်း အတိုင်း အထက်ပိုင်းသို့ ဆန်တက်ကာ, ထိုထို မြို့ရွာတို့၌ စုံစမ်းခဲ့ ပြီ၊ နောက်ဆုံး၌ ကသာနယ် မာန်လည်ဆရာတော် ထံ ဝင်ရောက် နေထိုင်ခဲ့ရာ,တ နှစ် မပြည့်မီ ပင် သေလောက်သော ဝှက်များ မိသဖြင့် မိမိ နေခဲ့ရင်း မန္တလေး ရွှေမြို့

## ၁၃၊ မန္တလေး ၃၊

မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက်တွင် ရင်းတိုက် မဟာနာယက ဆရာ အခါ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ, အရှင် သောမာဘိဝံသ မထေရ်၏ တိုက်တွန်း—ထောက်မချက်ဖြင့် ရဟန်း သိက္ခာ ၉-ဝါသ်မြောက် အစမှ ၁၃-ဝါသ် အထိ ၅-နှစ်ခန့် ပိဋကတော် ချပို့ နေထိုင်ခဲ့ပြီ၊ မန္တလေးမြို့၌ ထိုသို့ ကျွန်ုပ် နေထိုင်ခဲ့ခြင်း၏ ရည်ရွယ်ချက်မှာ မန္တလေးမြို့ ပရိယတ္တိသာသနဟိတ အသင်း အထောက်ရ စာချ ဖြစ်ရန်, သို့မဟုတ် မိမိ၏ ပရိယတ္တိဆောက, ပိဋကဝါစက ဂုဏ်များ ထင်ရှားစေ၍, စာသင် သား အများ သိရန်ဟု ၂ မျိုး ဖြစ်ခဲ့ သော်, ပထမ အကျိုး မဖြစ်ခဲ့; ဒုတိယ အကျိုး သာ ရခဲ့ပြီ၊ နည်းပါးသော ပုဗ္ဗေ စ ကတပုညတာ မျိုးသည် သာမန် သန့်ရှင်းသော ဥပနိဿယ, အတ္တသမ္မာပဏိဓိ စသည်ကြောင့် ဖြစ်ပေါ်ရန် ခဲယဉ်းကြောင်း သက်သေ ပြ၏၊ ထိုစဉ် အခါ ပိဋကတော် ချပို့ရေး ကိစ္စ မိမိ ကြံစည်တိုင်း ထမြောက်ရန်၌ အာသာပြတ် ဖြစ်လေရကား, တော ဝင်လျက် ကမ္မဋ္ဌာန်း ဆင်ရန် ရည်ညွှန်းချက်ဖြင့် မော်လမြိုင်မြို့ တောင်ဝိုင်းကြီး တောရသို့ သွားရောက်ခဲ့ရာ, မော်လမြိုင် ကျိုက်သံလံ ဘုရား အနောက် တောင်းတန်း ခြေရင်း မြောက်ဖက် ကြံခင်းကျောင်းပိုင် အရှင် ဥက္ကံသ မထေရ်က တိုက်တွန်း ချီးမြောက်ပြုချက်ဖြင့် ရင်းကျောင်း၌ ပင် ကိုယ်ပိုင် ဂဏဝါစက မဟာနာယက ပြုလုပ်ကာ, ပိဋကတော် ၃-ဖြာကို ကောင်းစွာသော စည်းမျဉ်းညွှန်ပြ၍ ချပို့ခဲ့ပြီ၊ ထိုအခါ ကျွန်ုပ်ရဟန်း ၁၄-ဝါသ်မြောက်၌ မွေးဖခင် ကွယ်လွန်ခဲ့ပြီ။

## ၁၄၊ ကျွမ်းပြုအစ၊

ထို မော်လမြိုင်မြို့ ကြံခင်းကျောင်းတွင် နေစဉ် အခါ အရှင် ဥက္ကံသ, အရှင် ပညာသာမိ မထေရ် ၂-ပါးနှင့် ကျောင်းဒကာ ဦးဘိုးခင်, ကျောင်းအမ ဒေါ်ငြိမ်းမြ တို့၏ အထူး သဖြင့် ထောက်ပံ့ကြခြင်း, နိဿယာစရိယ — ဆရာတော် အရှင် ကေတုမာလာလင်္ကာရနှင့် မြေထဲဆရာတော်, အခြား သိတင်းသုံးဖော် ဖြစ်ကြသည့် ထွတ်ခေါင်ဆရာတော်, ရတနာဘုံမြင့် ဆရာတော်, ရွှေကျောင်း ဆရာတော်, မြစ်ကျွေးဆရာတော်, ဓမ္မကထိက အရှင်စက္ကိန္ဒ ဆရာတော် စသော များစွာသော သိတင်းသုံးဖေါ် ဆရာတော် များ၏ မြှောက်စား ချီးကျူး ရှေ့လို ဦးကြခြင်းဖြင့် ကျွန်ုပ်သည် အထူး နာမည် ရခဲ့ပြီ၊

ထိုစဉ် အခါ အရှင်ကေတုမာလာလင်္ကာရ မထေရ်၏ တိုက်တွန်းချက်, သိတင်း သုံးဖေါ်များ၏ တောင်းပန်ချက်ဖြင့် မိလိန္ဒပဉှာ နိသျကျမ်း, ပဒသင်္ဂဟကျမ်းနှင့် ၎င်းနိသျကျမ်းများကို ရေးသားခဲ့ပြီ၊ ၎င်းများဖြင့် မြန်မာပြည်၌ ပိဋကကျမ်းဂန်တွင် ပညာဉာဏ် ရှိသူ အပေါင်းကို နစ်သက်-ကြည်လင် စေခြင်း ဖြစ်ရကား, ကျွန်ုပ်မှာ ထိုသို့သော ပညာရှိတို့ တောင့်တ လိုလားအပ်သူ ဖြစ်ခဲ့ပြီ၊ ထိုကျမ်းစာများမှာ လည်း ပိဋကတ်၏ အစီးအပွားကို ဆောင်နိုင်သည့် အတိုင်း မြန်မာပြည် ပညာမင်းကြီးက ပြခန်းချက်ထားရှိခြင်းကို ရရှိကြပြီ။

## ၁၅၊ ရန်ကုန်၊

ကျွန်ုပ်သည် မိမိ လိုလားသည့် အတိုင်း ပိဋကတော် ဆိုင်ရာ အလုပ် တိုးတက်ကြီးပွားရေးကို အမြဲမြော်လင့်ခဲ့သည်နှင့် လျော်ညီစွာ ထိုမော်လမြိုင်မြို့တွင် နေထိုင်ခြင်းထက် ရန်ကုန်တွင် နေထိုင်ရက သာလွန် တိုးတက်ရန်ကို တွေ့မြင်ရသဖြင့် မြန်မာသက္ကရာဇ် ၁၂၇၉ ခုနှစ် ဝါဆိုဦးတွင် တစ်ဆိတ်ဦးသော တကာ-တကာမ ပင့်ပိတ် သူမရှိပဲ ပင်, ရန်ကုန်မြို့သို့ လာရောက် နေထိုင်ခဲ့ပြီ၊ ကျွန်ုပ်မှာ တပည့်သံဃာ ၅၀-ကျော်အရံ ပါရှိသဖြင့် ထိုမြို့၌ နေထိုင်ရေး အတွက် ခဲ ခက်ပွယ် ရှိစေကာ, နေရာတိုင်းမှာ စားစရာ, နေစရာ, ဝတ်စရာ ရရှိနိုင်သော ပုဓ္ဓ စ ကတပုည-အပရာပရိယ ထုံး ဥပဒေသအတိုင်း ရနိုင်ခွင့် ဖြစ်သောကြောင့် ပုဇွန်တောင် အသီတိကျောင်းကြီး ဆရာတော်အရှင်ပဒုမ-ထေရ်က မိမိ တပည့် တပန်း ၂၅-တို့နှင့် တကွ မိမိ အာရာမ်တွင် အုပ်ချုပ်နေထိုင်ရန်အခွင့် အပ်နှင်းသဖြင့် ၎င်း၌ နေထိုင်ရန် အရေး ကြိမ်ခဲ့လေပြီ၊ ကျွန်ုပ်၏ မူချ နေထိုင်ရန် ရည်ညွှန်ချက်မှာ တောင်လုံးပြန် သုသာန်ဟောင်းကြီး သာ ဖြစ်ခဲ့သည့်အတိုင်း ထိုသို့သော ရည်သန်-လိုလားချက် မည်သည် ပြည့်စုံ တတ်သော 'စိတ္တသာ ကောမမ္ပသာ, သဗ္ဗေဝ ဝသ, မန္တဂူ'—ထုံး, 'အာသာ ဖလဝတီ ဟောတိ'—ထုံး များ အရ, သတ္တာဟ အလွန်တွင် မြေပိုင်ရှင် ပွဲစားကြီး ကျောင်း ဒကာ ဦးဘိုးသာ၏ ခွင့်ဖြင့် ပွဲစားကြီး ဦးရေးထိန်နှင့် ဦးဘိုးလှိုင် တို့က ထိုနေရာမှာ ကြွရောက် သိတင်း သုံးရန် လာရောက် ပင့်ဆောင်ကြပြီ။

## ၁၆။ ဒေါသနှင့်ဂုဏ။

ကျွန်ုပ်သည် မူလက ရည်သန်ရင်း အတိုင်း အကြံအစည် ထမြောက် — ပြည့်စုံလျက် နှစ်သက် — ရွှင်ပျစွာ ပင် တကာ ပွဲစားကြီးမင်းတိုင်ပင် အမတ်ကြီး (ယခု Sir ဆာ ရ်) ဦးဘိုးသာ အမှူးရှိဒကာ — ဒကာမတို့ ထောက်ပံ့ချက်ဖြင့် အကွက်ကျ စီမံအုပ်ချုပ်၍ ပိဋကတော်ကို ပို့ချ နေထိုင်ခဲ့ပြီ၊ ကျွန်ုပ်တို့၏ ပိဋက သင်ပြရေး စည်းမျဉ်း ကောင်းမွန်သည့်အလိုက် အကျိုး ဖြစ်ထွန်း၍ စာပြန်ပွဲများ၌ အထူး အောင်မြင်ကြခြင်းဖြင့် ဒကာ-ဒကာမတို့ ကြေနပ်-နှစ်သိမ့်ကြ စေကာ ပထမကျော် အရှင်သေဋ္ဌိလ၏ ပထမကျော်ပွဲတွင် ဆရာနှင့် ဒကာ သဘော ကွဲလွဲကြ၍ ကျောင်းဒကာ အမတ်ကြီး ဦးဘိုးသာ နှင့် တကွ များစွာသော ဒကာ — ဒကာမတို့ လက်လွှတ်ခြင်းကို ခံရပြီ၊ ၎င်းအရေး အတွက် ကျွန်ုပ်မှာ မြန်မာပြည် အလုံး ကျော်ကြားအောင် ကောင်းဆိုး ၂-စား ကဲ့ရဲ့ — ချီးမွမ်းခြင်းများကို ရခဲ့စေကာ ကျွန်ုပ်၏ ပကတိ တည်တန့် ခိုင်မြဲသော သမာဓိကြောင့် နောက်ဆုံး၌ အမြွှစ် ရိပ်ငြိမ် လျော့ကျလည်၍ ဂုဏ်ရည် သာ ပြည့်ခဲ့ပြီ၊ အကြောင်းကား ပကတိဂုဏ် ပြည့်စုံသူတို့ မည်သည် တရံတခါ အပြစ် ဒေါသ လောက မေ့တာ အလိုက် စွန်းညီ ရစေကာ လိမ်မာ — ကျွမ်းကျင်သော ဉာဏ်ဖြင့် ဂုဏ်အတိ ဖြစ်စေရန် စွမ်းနိုင်ကုန်သတည်း၊ အထူးကား ထိုစဉ်က ကျွန်ုပ်တို့အား ၎င်း၊ ရန်ကုန်မြို့ကြီးအား ၎င်း၊ ဘုရားရှင် သာသနာတော်အား ၎င်း မြားမြောက်သော အသရေကို ဖြစ်စေလျက် နေရာ-ဌာနဖြင့် ပြုစုခြင်း ဟူသော ထိုဒကာတို့ မင်္ဂလာ — ကျေးဇူးကို ကြေလည်အောင် မဆောင်ရွက်နိုင် ခြင်းမှာ ကျွန်ုပ်တို့ အတွက် ဝမ်းနည်းဖွယ်ကြီး တခုဖြစ်ပေ၏။

## ၁၇။ ဇမ္ဗူယနိုင်ငံ။

ကျွန်ုပ်သည် မိမိ သာသနာရေး နိုးနိုးကြားကြား နေထိုင်ခဲ့၍ မိမိ အလုပ် တိုးတက်ခွင့်ကို သာ အမြဲး ကြည့်ရှု သတိ ပြုသူ ဖြစ်ခဲ့သည့် အတိုင်း မိမိတို့ ပရိယတ် သက်သက် အသွားမျှဖြင့် ဖြစ်ပေါ်မည့် ခေတ် မစားမည်ကို ဉာဏ်သွား ထောက်ဆ မိတိုင်း သိတင်း သုံးပေါ်၊ တပည့် — တပန်းတို့နှင့် တိုင်ပင် နှီးနှော၍ ၎င်းတို့

သဘော ဆန္ဒ-အခွင့်နှင့် ဂျာနီယပြည်သို့ သွားရောက် နေထိုင်ခဲ့ပြီ၊ ကျွန်ုပ်သည် မိမိ၏ အကျိုးရှိသော လက်ရှိ အလုပ်ကို စွန့်၍ အလုပ်သစ်ကို ရှော်ရမ်းရသည်မှာ သာမန် ဉာဏ်မြင်ဖြင့် ဖြစ်နိုင်သည် မဟုတ်၊ အထူး ထက်သန်သော ဉာဏ် သတိ စွန့်စားမှုတို့ ကြောင့် သာ ဖြစ်နိုင်လေပြီ၊ ထို့ကြောင့် ကျွန်ုပ်သည် ယခု ကြံစည်တိုင်း သာ ပြည့်စုံ-ထမြောက်ခြင်း မရှိခဲ့ပဲ၊ ပကတိ လုပ်ရိုး အတိုင်း လုပ်ကိုင်ရရှိမည့် ဂုဏ်နှင့် ကုသိုလ် ကြောင့် ရရှိမည့် သုဂတိ-စည်းစိမ်ကို၊ အဝိဇ္ဇာ ဓေးကြီးက ဒုက္ခ အလား၊ သွားရောက် ဖြည့်ကျင့်၍ ရရှိမည့် ဒုက္ခနှင့် ကျရောက်မည့် ဒုဂ္ဂတိ အလားကို အထက်ထပ် နတ်ရွာ အစားလောက် ထင်မြင်ချက် ထား၍ စွန့်စားရပြီ။

## ၁၈၊ သင်ယူခဲ့သော ဘာသာ၊

ထို့ပြင်၊ အကယ်၍ မိမိ ကြံစည်တိုင်း မထမြောက်လျှင် လည်း ဤ ဇာတိဒေသ၊ ဆွေညာ-သင်္ဂဟ၊ ဆရာသမား၊ တပည့်-တပန်း၊ သီတင်း သုံးဖေါ်တို့ ထံသို့ မပြန်လည် တော့၊ ကျ-ရာ ပင် ပေါက် ရောက်ရာ သင်းချိုင်းဖြစ်စေ၊ ထမြောက် ပြည့်စုံသော် သာ ပြန်လာမည်၊ ထိုနှင့် စပ်ရာ ကျရောက်လတ္တံ့ ဒုက္ခ-ဓိပုံကို လည်း အပြည့်-အစုံ နှစ်ခြိုက်စွာ ခံယူတော့မည် ဟု စိတ်ကို မြဲစွာ ခိုက်ထားပြီးနောက်၊ တပည့်ရင်း ဖြစ်ကြသည့် လက် ထောက်-ဂဏာဝါစက အရှင် ဝါယာမနှင့် အရှင် သေဒ္ဓိလ တို့ကို ကိစ္စ အလုံးစုံ အပ်နှင်း သွားရောက်ခဲ့ပြီ၊ ဂျာနီယ၌ ဗာရာဏသီတွင် တနှစ် လုံးလုံး ဟိန္ဒူလူမျိုးတို့အတွင်း၌သာ ဟိန္ဒီ ဘာသာကို သင်ယူ နေထိုင်၍၊ ၎င်း ဘာသာကို တတ်မြောက်ပြီးမှ သက္ကတဘာသာကို ပြန်လည်နှုနှပ်လျက် ဦးရေဒူဘာသာကို သင်ယူခဲ့ပြီ၊ ထို့မှ နောက် အင်္ဂလိပ်ဘာသာကို ခွဲမြဲစွာ သင်ယူခဲ့လျက် ၎င်း သက်သာခွင့် တွင် ဗင်္ဂါလီ၊ ဂုရုမုခီ-ဘာသာနှင့်၊ ဂျပန်-ဘာသာတို့ကို လည်း သင်ယူခဲ့ပြီ။

## ၁၉၊ ဂျာနီယ၌ ဒုက္ခ၊

ကျွန်ုပ်သည် အင်္ဂလိပ်ဘာသာ တတ်ကျွမ်းရန်မှ ပိုမို၍ အင်္ဂလိပ်တို့ ရပ်ဌာန် အင်္ဂလန်သို့ သွားရောက်ရန် မကြံစည်ခဲ့ပူးစေကာ၊ အင်္ဂလိပ်-ဘာသာက ညွှန်ပြချက်ဖြင့် အင်္ဂလန်သို့ သွားရောက်ရန် စိတ်ထား သန့်သန့်နှင့် အဓိဋ္ဌာန် ပြုခဲ့လေပြီ၊ သို့ရာတွင်၊ တစုံ တခု ကိစ္စကို ဖြစ်အောင် ကြံစည်က၊ အနှောင့် အရှက် ရရှိမည့် ထုံးစံ ရှိသည့်

အတိုင်း, ထိုသို့ စိတ်သန် ကြံစည်တွင်း ပင် တစုံတရာ ထမြောက်ရေး အရိပ်-အခြည် မဖြစ်ပေါ်ပဲ, ထောက်ပံ့ ရရှိမြဲ စရိတ်များ ပင် ပြတ်လတ် သဖြင့် ကြပ်တည်း-ကျဉ်းမြောင်းစွာ နေထိုင်ခဲ့ရပြီ၊ ထိုသို့ ဒုက္ခအတွင်း သင်ကြားဆဲ ပညာ ပြတ်လတ်ခိုက်တွင် ပိဋကတော်လာ ရတနာအမျိုးမျိုးကို စုပေါင်း ပွဲဆိုသော မြန်မာတာသာ ကဗျာသစ် မျိုးဖြင့် 'ရတနာကြုတ်' ခေါ် ကျမ်း တခုကို ရေးသားခဲ့ပြီ၊ သို့ပြဆိုခဲ့တိုင်း ဒုက္ခကို တွေ့ရစေကာ, မည်သည့် နည်းနှင့် မဆို ခြေကျဉ် ပင် ဖြစ်စေ အင်္ဂလန်သို့ သွားမည်ကာ မုချတည်း ဟု စွဲချက် မပျက်ပဲ ကြံစည်ခဲ့ရာ, နောက်ဆုံးတွင် ဂျာမနီ၌ ဆက်လက် နေထိုင်ရန် အတွက် သီပေါစော်ဘွားကြီး၏ အထောက်အပံ့ တလ-ရိုက္ခာတော် ၅၀-ကို ရရှိခဲ့လျက်, အင်္ဂလန် အရောက် ခရီး စရိတ်ထောက်ပံ့မည့် ဟိန္ဒူ မြေပိုင်ရှင့် သာ တဦး လည်း ပေါ်ပေါက်ခဲ့လေပြီ။

## ၂၀။ အင်္ဂလန်ကျွန်း။

ကျွန်ုပ်သည် အယူခြား လူမျိုး တယောက်၏ အထောက်-အပံ့ကို ခံယူရသည်မှာ မလိုလားအပ်သော ကိစ္စ တခု ဖြစ်သည် ဟု ကြံစည်၍ မိမိ တိုင်းပြည် ဌာန တကာ-တကာမတို့ အထောက်အပံ့ကို ရရှိရန် လုံးပမ်းပါသော်လည်း မထမြောက်ပဲ, သီဟိုဠ်ကျွန်းသို့ တိုင်ရောက်ခဲ့လေပြီ၊ ထို သီဟိုဠ်ကျွန်းသို့ ရောက်သည်တိုင်အောင် သရဒါနန္ဒ ခေါ် ဟိန္ဒူ-မြေပိုင်ရှင့် သားသည် လိုက်လာ၍, ၎င်း၏ ကူညီချက်ဖြင့် ပင် ၎င်းနှင့် အတူ တကွ အင်္ဂလန်သို့ သွားရောက်ခဲ့ပြီ၊ ကျွန်ုပ်တို့သည် ဩစတြေလိယာကျွန်းနှင့် အင်္ဂလန်သို့ သွားလာ နေသော **Oriental Line Company**- ဩရီအင်းတဲလ် လိုင်းန်ကောန်ပဲနီး ပိုင် ဩစတာရ်လီး ခေါ် မီးသင်္ဘောဖြင့် ခရစ်သက္ကရာဇ် ၁၉၂၈ ခု-နှစ် ဒီဇင်ဘာရီ လ ၂၈ ရက်နေ့ ည-ရှစ်နာရီ ထွက်၍, ၁၉၂၉ ခုနှစ် ဂျနဝါရီလ ရှစ်ရက်နေ့ ထစ်လဗာရီ ဆိပ်ကမ်းမှ တက်၍, **Burma Club** မြန်မာအသင်း တိုက်၌ သတင်းပါတ် အတော်ကြာ တည်းခို နေထိုင်ပြီးလျှင်, မိမိနှင့် သင့်တော်ရာတွင် ၂-နှစ်ကျော်တိုင် အင်္ဂလန် လန္ဒန်မြို့တော်၌ နေထိုင်ခဲ့ပြီ၊ အင်္ဂလန်သွား သင်္ဘောသက်-တွင် သီဟိုဠ်သား မဟာဝိသုဒ္ဓါရာမကျောင်းတိုက် ဂဏဝါစက-အရှင် အရိယညာဏ တောင်းပန်ချက်ဖြင့် 'သာသနာ့မှန်' ခေါ် ကျမ်း တခုကို စီရင် ရေးသားခဲ့ပြီ။

## ၂၁၊ အင်္ဂလန်၌ဒုက္ခကြီး၊

ထို့ပြင် အင်္ဂလန်ကျွန်း လန္ဒန်မြို့တော်၌ ရောက်စ အခါ ကြီးစွာသော အခဲ-အခက်နှင့် တွေ့ကြုံမိသဖြင့် အသက်ကို စွန့်ရလောက်သည့် ဒုက္ခတွင် မိမိ စွန့်စား ပြု-လုပ်ခဲ့သော ခရီးလမ်း မပျက် ဆက်လက် စွန့်စားလိုသူတို့ အထောက်-အပံ့ ရရှိစေရန် ရည်သန်၍ 'အာဒိစ္စဝံသ ထေရာ' ပဒါန် မည်သော ကျွန်ုပ် ကိုယ်တိုင်၏ အတ္ထုပ္ပတ္တိ အပြည့်-အစုံကို ရေးသားခဲ့ပြီ၊ ၎င်းမှာ အင်္ဂလန်ကျွန်း လန္ဒန်မြို့တော်သို့ ရောက်ရှိ ဆင်း-ရဲ အတိ တွေ့နေရပုံ တိုင်အောင် လေးနက်စွာ ပိုင်းခြား၍ ထားရှိလေသည်၊ ယင်းသို့ အားဖြင့် အသက်ကို စွန့်ရမည့် အရေး ရောက်သည် တိုင်အောင် ဒုက္ခ တွေ့ခဲ့ရသော်လည်း၊ ကျရာ ဖြစ်နိုင်သော ခံရည် အစွမ်းဖြင့် ထို ဆင်းရဲမှ ထမြောက်ခဲ့၍ မိမိ ပညာ သင်ကြားရေးကို မပျက်-မကွက် စေပဲ ပင် ကိုယ်စွမ်း သတ္တိ ထုတ်စိုက် နေထိုင်ခဲ့ပြီ၊ ၎င်းဖြင့် ယခု တအား အတွက် တသက်ကို မဆိုထားဘိ၊ သံသရာ တလျှောက်လုံး ပင် ကျွန်ုပ်မှာ ဝမ်းစာရေး အတွက် မခဲ-မခက် ရှိမည် ဟု ယုံကြည်ရ၏၊ လန္ဒန်မြို့တော်၌ ၂-နှစ်ကျော် ရှိလျှင်၊ ကမ္ဘာတခုလုံး လှည့်လည်နိုင်ရန် ကြံစည်ချက် မိမိ အလိုမှာ အရပ် ဌာန မူလရင်းသို့ ပြန်လည်၍ ပြုလုပ်ဖွယ်ကို ပြုလုပ်-ဆောင်ရွက်ခြင်း လောက် အကျိုး မထွန်းကားရာ ဟု ဆုံးဖြတ်မိသောကြောင့် မြန်မာပြည်သို့ ပင် ပြန်လည်ခဲ့ပြီ။

## ၂၂၊ ဇမ္မနီယနှင့် ဗုဒ္ဓဘာသာ၊

ကျွန်ုပ်သည် အင်္ဂလန်မှ ပြန်လည်ခဲ့သော အခါ ပြင်သစ်၊ တွဲလီး စသော အခြား ဥရောပတိုက်ရှိ နိုင်ငံများသို့ လှည့်လည်ခဲ့ပြီ၊ အထူးအားဖြင့် ဇမ္မနီယ-နိုင်ငံများ၌ ဖြစ်စေ၊ ဥရောပတိုက် နိုင်ငံများ၌ ဖြစ်စေ၊ ဗုဒ္ဓဘာသာ တရား ထွန်းကားရန် လုပ်ဆောင်၍ မဖြစ်နိုင်မည့် အရပ်ဒေသ မရှိ၊ ဖြစ်နိုင်မည် ပင်၊ သို့ရာတွင်၊ ဇမ္မနီယ ဒေသ၌ ရဟန်းတော်များ ဆိုင်ရာ ဝိနည်း ဥပဒေတော်ကို အထူး တလည် ပြောင်းလဲ ပြင်ဆင်ရန် မရှိစေကာ၊ ဥရောပတိုက်၌ မူ ဥတု ရာသီ-အခါလ အကျင့် လုံးလုံး ကွဲပြားသောကြောင့် အချို့ ဝိနည်း ဥပဒေတော်များကို ပြင်ဆင်ရန် ရှိလေသည်၊ ဗုဒ္ဓဘာသာ

ပြန့်နှံ့စေရေးနှင့်စပ်၍, စဉ်းစားသော်,ဤနိုင်ငံသားတို့ အယူမှာ ဂူသာရကွတ္တ-မြဟ္မနိမ္မာန အယူ ဖြစ်စေကာ, ကံကံ၏, အကျိုးနှင့် သံသရာစက်ကို ယုံကြည်ကြ၍,, ကျွန်ုပ်တို့ ဘုရားကိုယ်တိုင်ကို ပင် လည်း တနည်းနည်းအားဖြင့် သက်ဝင် ကြည်ညိုပြီး ဖြစ်သောကြောင့် ထို အရပ်ဒေသ၌ ဗုဒ္ဓဘာသာ တရားတော်မှာ, သာသနာ ပြန့်နှံ့ရန် အားစိုက်သူတို့ လုံ့လ ကောင်းသလောက်, လျင်စွာ ထမြောက်နိုင် မည် ဖြစ်၏။

## ၂၃၊ ဥရောပနှင့် ဗုဒ္ဓဘာသာ၊

ဥရောပတိုက် နိုင်ငံများ အယူမှာ ဂူသာရကွတ္တ-မြဟ္မနိမ္မာန အယူ သက်-သက် ဖြစ်ကြစေကာ, တစုံ တခုသော အယူဝါဒသို့ မျှ မသက်ဝင်ကြသော **Free Thinker** ဖြီးသင်းကာ၍ ခေါ်အယူမဲ့-ပုဂ္ဂိုလ် အများအပြား ရှိနေကြခြင်း, ယခု အခါ ကမ္ဘာ၏ သဘောမှာ ပင် ရှေး-အခါက ကဲ့သို့ အရုး-တမူး အယူ-အစွဲ မသန်ကြ, တောက်ဆ ချင့်ချိန်တတ်သည့် ဉာဏ်ကို အသုံး ပြုနေကြသော ခေတ် ဖြစ်နေသောကြောင့် ဗုဒ္ဓဘာသာ ကဲ့သို့ ဉာဏ်သက်ဝင် စဉ်းစားသူတို့ အတွက် အကြောင်း-အကျိုး ပေါ်လွင်စွာ သိစေနိုင်သည့် ဘာသာဝါဒဖြင့် ထိုသို့သော ပုဂ္ဂိုလ်တို့အား ဟောပြော သိရှိစေရန် လွယ်ကူမည် သာ ဖြစ်၍,, ပကတိ-အလိုလို ပင် ထိုထို ဥရောပတိုက်သားတို့ ဘာသာ ပြန်ထားသော ဗုဒ္ဓဘာသာ စာအုပ် အချို့ကို ကြည့်ရှုရခြင်း-မျှဖြင့် ဗုဒ္ဓဘာသာ ဖြစ်ပြီးသူ များစွာ လည်း ရှိကြလေသည်၊ စင်စစ်ကား ကျွန်ုပ်တို့-မှာ ၎င်းတို့အား တရား ပြသနိုင်ရန် ပါဠိစပ်နှင့် သွားလာ ရောက်ပေါက်ရန် ခြေထောက်သာ လိုကြကုန်၏၊ ထိုသို့ ဖြစ်နိုင်လျှင်, ယုံမှားမဲ့ ဗုဒ္ဓဘာသာ ပြန့်နှံ့ နိုင်မည် ဖြစ်၏။

## ၂၄၊ ဗုဒ္ဓသာသနာ၊

အထူး ဂရုပြုရန် ကျွန်ုပ်တို့ တာဝန်မှာ 'ဗုဒ္ဓသာသနာသက်သည် အနှစ် ငါးထောင် သာ ရှိ၍, ၎င်းက လွန်လျှင် သာသနာတော် ကွယ်မည်' ဟူသော အများသိအမှတ်မှား စကား၌ စဉ်းစား၍, အမှန် အတိုင်း သိရှိရေး ဖြစ်၏၊ ထို စကား အ-တိုင်း မှန်ခဲ့လျှင်, 'သာသနာတော်မှာ လူတို့ လုံ့လဖြင့် ပြုပြင် ကြီးပွားစေနိုင်ခွင့် မရှိ

ထွက်လိမ့်မည်၊ ထို အဓိပ္ပါယ်အတိုင်း ယူဆ—စွဲလမ်းခဲ့လျှင်, သာသနာတော် ပြန့်ပွား အောင် ပြုလုပ်ရေး၌ ကြောင့်ကြ မရှိ ဖြစ်ကြသော်, သာသနာ ပြန့်နှံ့ ပွားစီးရန် သာ လိုလား၍, ရင်းကြီးပွားရေး အားထုတ်ဖွယ် ဟောထားချက် ဘုရားရှင်၏ တရားတော် အရပ်ရပ်မှာ အလဟဿ အသုံးမဲ့ ဖြစ်ကုန်ရာ၏၊ ထိုသို့ အားဖြင့် လောကကျိုး အားလုံး မှာ ပိတ်ပင်ခဲ့ရာသည်၊ ထို့ကြောင့် ထို အဓိပ္ပါယ်ကို မယူသင့်၊ သာသနာနှစ် ပိုင်းခြား ခြင်းမှာ အန္တရာယ်ကြောင့် အချက် ရှိ၍, ပျက်တတ်ပုံ ထုံးကို သာ ဆိုသည်၊ အဖျက် အဆီးကို တားမြစ် မရနိုင် ဟု မဆိုလို၊ ထို ဆိုခဲ့သည့် အန္တရာယ်ကို လည်း ဘုရားရှင် ကိုယ်တိုင်ပင် ဂရုဓမ် ဆေးတော်ဖြင့် ကုသ—လွှတ်ငြိမ်းစေ၍ ပကတိ အခြေ၌ တည်စေပြီ။

## ၂၅၊ သာသနတ္တသိဒ္ဓိ၊

ထို သာသနာ နှစ်ပိုင်း စကားမှာ အကယ် ပင် ဟုတ်စေကာ, ရဟန္တာ စသော အရိယာ ဖြစ်ခွင့် မရှိခြင်းကို သာ ပိုင်းခြားချက် ဖြစ်သည်၊ သရဏဂုံ, ပဉ္စ—သာသနာ စသည်ကို အလျှင်း မရှိ ဟု မဆိုလို၊ စင်စစ်ကား "ဘုရား့တရားကို ဟောညွှန်တိုင်း အားထုတ် လုံ့လမ်းက လောက၌ ရဟန္တာ မဆိတ်—မသုံးရာ" ဟု ဘုရား ဟောခဲ့ချက်မှာ လည်း ထင် ရှား၍ မဟာသတိပဋ္ဌာန် တရားများ၏ သတ္တိကို ပိုင်းခြား ပြဆိုရာတို့၌ လည်း အရိယမဂ် မပိတ်—မပင်နိုင်ကြောင်း, ကျင့်သူ ရှိသမျှ အကျင့်တည်၍ အကျိုး ရှိမည့်အကြောင်းကို ထိုထို ဒေသနာဖြင့် သိနိုင်ကုန်၏၊ မည်သို့ မဆို, ဗုဒ္ဓ—ဘာသာ တရားတော် ညွှန်ပြတိုင်း လိုက်နာနိုင်ကြမည် ဆိုလျှင်, အားထုတ် လိုက်နာသူတို့၏ အားထုတ်ရေး ကိစ္စ အလိုက် လောကီ—ချမ်းသာ, လောကုတ္တရာ ချမ်းသာ, လူ-နတ်-နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ရရှိကြမည်၊ ထိုသို့ မဟုတ်က အပါယ် လေးဝ ဆိုင်ရာ ဒုက္ခများကို ရရှိကြမည် ဟု ကား ဗုဒ္ဓဘာသာဝင် မှန်သမျှပင် ယုံကြည်ကြကုန်၏၊ ထို သို့သော သူများမှ ကပ္ပါသားတို့ မလစ်—မဟင်း ရရှိစေရန် လုံ့လ ထုတ်ခွင့်မှာ တရားလက်ကိုင် ရှိသူ ကျွန်ုပ်တို့ တာဝန် ဖြစ်ကြောင်း မှတ်ယူ ထိုက်ကုန်၏။

## ၂၆၊ မြန်မာပြည်ပြန်၊

ကျွန်ုပ်သည် မြန်မာပြည်သို့ ၁၂၉၀ ပြည့် နှစ် နယုန် လဆန်း ၇—ရက်နေ့ ပြန်လည် ရောက်ရှိခဲ့၏၊ ကြံစည် ထားရှိခြင်း အတိုင်း၊ ဓမ္မဒေသနာတော်များ ဘာသာရ—

တတ်မြောက် သဖြင့် နိုင်ငံ တပါး၌ သာသနာ ပြုစုရန် မိမိတို့ မူလ–ပရိယတ်ကို ကျ
ကောင်းမွန်သော စည်းမျဉ်းဖြင့် သင်ကြား–ချပို့ရန် ဤကိစ္စ ၂-မျိုး အလို့ငှါ သာ
လုပ် ကြံစည်ခဲ့လေသည်၊ ထို ၂-မျိုးကို လိုလားတိုင်း ယခု အခါ မြန်မာ ရဟန်းတော
များအား မည်သို့ မည်ပုံ အားဖြင့် အရှင် အာဒိစ္စဝံသ ကျောင်းတိုက်က ဘာသန္တ
ချပို့မည် ဟု စိုင်ပြင် ခင်းချက် ပြုလုပ်ရာ, မနစ်မြိုက်သူတို့ ဝင်ရောက် ကန့်ကွက်သော
ကြောင့် ၁၀–လတိုင် သတင်းစာများ၌ ထုချေ–ရှင်းလင်း၍, မိမိ အယူမှန်ကို ဖော်
စေပြီ၊ ထိုမျှနှင့် မငြိမ်းသေးပဲ ကျွန်ုပ်တို့ ဝါဒကို ပိတ်ပင်သည့် ကျမ်းစာ များပင် ပေါ
ထွက် ပြန်သောကြောင့် ၎င်းကို ပယ်လှန်၍, ဘာသန္တရလမ်းညွှန် ကျမ်းကို ကျွန်ုပ်
ထုတ်ဆင်ရကုန်ပြီ၊ ၎င်းကျမ်းဖြင့် မြန်မာပြည် ဗုဒ္ဓဘာသာများ အတွင်း၌ ဘုရားဟော
ပိဋကမှ တပါး ဘာသန္တရ, သမယန္တရ, ဂန္ထန္တရတို့ကို ဗုဒ္ဓဘာသာ ရဟန်းတော်
တို့ မသင်အပ် ဟူသော မိစ္ဆာ အယူ မှောင်တိုက်ကြီးမှာ အရှင် အာဒိစ္စဝံသ ဟူသော
နေမင်း ထွက်ပေါ် ကွယ်ပစေသည် ဟု ပညာရှိ အများက ခံတွင်း မဆံ့ ချီးကျူးခြင်းကို
ရခဲ့၏။

ထိုသို့ အားဖြင့် သာသနာတော်ဝင် ရဟန်းတော်များမှာ ရှေးထုံးစံ အတိုင်း
နိုင်ငံ တပါး၌ သာသနာသစ် ဖြစ်ပေါ်စေရေး လမ်းပွင့်ရန်, မိမိတို့ ပရိယတ်က ကျနစေ
ရန် ရည်ညွှန်းချက် ထားရှိ၍, ကျွန်ုပ်တို့ ကျောင်းတိုက်က ထားရှိပြီး ပညာသင်ရေး
ဥပဒေကို လည်း ခေတ်နှင့် လျော်စွာ ပြင်ဆင် ရေးသား ထားရှိ ချပို့ခဲ့သည်၊ ထို့ပြင်
ဗုဒ္ဓဘာသာ–တရား၏ မူလ–အခြေကို ကျနသေဝပ်စွာ ထောက်ပံ့နိုင်သည့် အစိုး
အထောက်ပံ့ခံ မြန်မာဘာသာ စာသင်ကျောင်း တခုကို လည်း ၁၂၉၀ ပြည့်နှစ်
အတွင်းတွင် ဖွင့်လှစ် ထားရှိခဲ့ရာ, ယခု အခါ ၎င်းကျောင်းသည် ကောင်းစွာ ကြီးပွားဆဲ
ဖြစ်လျက်ရှိနေ၏၊ [ ယခု ၁၂၉၄ ခုနှစ် ဤစာအုပ် ရိုက်နှိပ်သော အခါကား ၎င်း
ကျောင်းမှာ ဆယ်တန်းကျောင်း ဂုဏ်ထူး၌ တည်၍, အထွတ်–အထိပ် အခြေ၌ တည်
နေလျက် ရှိ၏၊ ] ကျွန်ုပ်၏ ယနေ့ ( ၁၂၉၃ ခုနှစ် နယုန်လ ) အထိ ရေးသားပြီး ကျမ်း
စာရင်းမှာ ပြဆို ထားဘိုင်း ဖြစ်၏။

## ၂၇၊ ရေးသားသည့် ကျမ်းများ၊

| | | |
|---|---|---|
| ၁၊ | မိလိန္ဒပဉှာ—နိဿျကျမ်း၊ | ရိုက်ပြီး၊ |
| ၂၊ | ပဒသင်္ဂဟ—ပါဠိ၊ | |
| ၃၊ | ရှင်း နိဿျ၊ | |
| ၄၊ | ပါဠိ သိက္ခာ—နယပဒေသ၊ | |
| ၅၊ | ကဗျာ့ မှန်၊ | |
| ၆၊ | ဘာသန္တရ—လမ်းညွှန်၊ | |
| ၇၊ | အသောကကျောက်စာတော်၊ | |
| ၈၊ | သိက္ခာနယပဒေသ၊ | |
| ၉၊ | ရတနာကြုတ်၊ | |
| ၁၀၊ | သာသနာ့မှန်၊ | ရေးပြီး—ပြင်ဆင်သန့်ရှင်းပြီး၊ |
| ၁၁၊ | ဗုဒ္ဓဘာသာ အရေးပုံ၊ | |
| ၁၂၊ | ဗုဒ္ဓ သာသနာရေး၊ | |
| ၁၃၊ | မြန်မာ ဘာသာ ကြီးပွားရေး၊ | |
| ၁၄၊ | ကဗျာ့ ချိန်ခွင်၊ | |
| ၁၅၊ | အရှင် အာဒိစ္စဝံသ ပြန်တမ်း၊ | |
| ၁၆၊ | ပိဋက သင်ကြားရေး၊ | |
| ၁၇၊ | အာဒိစ္စဝံသတွေ့ရာပဒါန် (၄—ပိုင်းပြီး၊) | |
| ၁၈၊ | အမျိုးဘာသာ သာသနာ ကြီးပွားရေး၊ | |
| ၁၉၊ | ပညာလမ်းညွှန်— (တတိယအုပ်ပျောက်) | |
| ၂၀၊ | ဂိဟိ—ဝိနည်း၊—(လူကျင့်ဝိနည်း) | |
| ၂၁၊ | ဣန္ဒိယ ဒေသ ခြောက်နှစ်၊ | |
| ၂၂၊ | သိက္ခာနယပဒေသ (ထပ်မံဖြည့်စွက်ချက်) | |

## ခ၊ ရိုက်ဆဲနှင့် ရေးဆဲကျမ်းများ၊

| | | |
|---|---|---|
| ၂၃၊ | ပါဠိ ပါဒ သိက္ခာဝလိ၊ | |
| ၂၄၊ | ပါဠိ မူလ  သိက္ခာဝလိ၊ | |
| ၂၅၊ | ရှင်း.... ဒု | |
| ၂၆၊ | ရှင်း.... တ | |
| ၂၇၊ | ရှင်း.... စ | ရိုက်နှိပ်ဆဲ၊ |
| ၂၈၊ | ရှင်-.... ဓ | |
| ၂၉၊ | ရှင်း.... ဆ | |
| ၃၀၊ | ပါဠိ ကဗျာကရဏ— ပ=ဒု-တ | |
| ၃၁၊ | ပါဠိ လေခ ပရိစယ— ပ-ဒု-တ | |
| ၃၂၊ | ဝိနည်းသိက္ခာ ဥပဒေတော်ကြီး | ပြီးလုဆဲ |
| ၃၃၊ | ဝိနည်း ဝတ္ထုတော်ကြီး | ။ |
| ၃၄၊ | စာစပ် နိယာမ် အမြေနှင့် စာစပ်နည်း | ။ |
| ၃၅၊ | မြန်မာဘာသာရေးဖတ်ထုံး—ပြီး, | မပြင်ဆင်ရ၊ |
| ၃၆၊ | အာဒိစ္စဝံသ ကုလပ္ပဒေဏီ ပြီး | ဆဲ |
| ၃၇၊ | အာကာသသျှူတြ—အင်္ဂလိသ်မှ မြန်မာပြန် | ပြီးလုဆဲ |
| ၃၈၊ | မြန်မာ သတ်ပုံချုပ် ပြီး၊ | |
| ၃၉၊ | ဣန္ဒိယ ဘုရားဖူးလက်စွဲ ပြီး | |
| ၄၀၊ | အင်္ဂလိသ် သဒ္ဒါနိသျ ဆဲ | |
| ၄၁၊ | အင်္ဂလိသ် သခ်တ်းစာ နိသျ— | ဆဲ |
| ၄၂၊ | နိမ္မာန်လမ်းညွှန်—ဝိသုဒ္ဓိမဂ် ဘာသာပြန် | ဆဲ |
| ၄၃၊ | ကဗျာ့မှန်—ဒုတိယအုပ်၊ | ဆဲ |
| ၄၄၊ | မြန်မာရှေးဟောင်း ဝတ္ထုပေါင်း | ဆဲ |

၄၅၊ ပိဋက မှတ်စုချုပ် ဆဲ

၄၆၊ ပိဋကသိုက်— ဆဲ

၄၇၊ ပိဋက ပဒသိုက် ဆဲ (အချို့ပြီး)

၄၈၊ ပိဋက ဂါထာသိုက် ဆဲ (အချို့ပြီး)

၄၉၊ ကစ္စည်းကျမ်း နိဿယသစ် ဆဲ

၅၀၊ အဘိဓမ္မာတရားချုပ်-(အဘိဓမ္မတ္ထသင်္ဂဟ ဘာသာပြန်) ဆဲ

၅၁၊ ပိဋကတ်တော်အတ္ထုပ္ပတ်၊

၅၂၊ မိလိန္ဒပဉှာ စကားပြေသစ် ဆဲ

၅၃၊ ဝါကျသင်္ဂဟ ဆဲ

၅၄၊ သဒ္ဒသင်္ခေပပါဠိ ဆဲ

၅၅၊ ဂေါတမဗုဒ္ဓဝင်ချုပ် * ပြီး မပြင်ဆင်ရ၊

၅၆၊ ငါးရာငါးဆယ် ဝတ္ထုကျယ်ကြီး ဆဲ

၅၇၊ ပိဋက ဝတ္ထုပေါင်း ဆဲ

၅၈၊ အသောက အတ္ထုပ္ပတ် ဆဲ

၅၉၊ မဟာသုတကာရီမဃဒေဝလင်္ကာသစ်ကြီး စကားပြေနှင့် ခဲဆစ်အဖွင့် ဆဲ

၆၀၊ မြန်မာသင်ပုံချုပ် ပြီး၊

ဤမှကား အရှင် အာဒိစ္စဝံသ မထေရ် ရေးသားအပ်သော မိမိကိုယ်တိုင်၏ အတ္ထုပ္ပတ်ပြီးဆုံးလတ်သတည်း။

## ၂၈၊ နိဂုံးကမ္ပတ်၊

— ကျမ်း၏ ဂုဏ်နှင့် ရည်ညွှန်းချက်၊

ဤမျှသော စကား အစဉ်ဖြင့်,
ငါ ဆောင်ပြု မြန်မာ့ ဗိုလ်ထု လယ်,
အသောက ကမ္ဘာ၌ ချစ်ခွမ်း ကျယ်၊
တို့ နေရာမြတ် မြန်ရှင့် တိုင်း လယ်,
သိစိမ့်သော သတောမှန်း ဂုဏ်ကျယ်။

ဟု ပဋိညာဉ် ဝန်ခံချက် ထားခဲ့တိုင်း ယခု ဤအချိန် ဤအခါ၌ကား ကျမ်းဆရာ ငါတို့၏ မျှော်ရှင်ဖို့ အရေး—အရှင့်ကြီး ဖြစ်ခဲ့သတည်း၊ သင့်လျော်လှစွာ အသောက မင်းတြားကြီး ထားရှိခဲ့သော ဩဝါဒ—အနုသာသနီ ကျောက်စာ တော်များမှာ ဗုဒ္ဓ—ဘာသာဝင်တို့ အတွက် အမိုး မရေတွက် မပိုင်းခြားနိုင်အောင် များစွာ ထိုက်တန် လျက် ရှိနေရာ, ပါဠိဘာသာ တပါး ဖြစ်နေခြင်း, ၎င်းမှာ လည်း ပါဠိတတ် သာမည တို့၏ အရာ မဟုတ်, ရှေး မာဂဓ—ဘာသာ, ဒေသသုံး ဝါကျထုံးနည်း အဖြာဖြာ, သက္ကတ—ပြာကရိတ ဘာသာများနှင့် ရောနှောခြင်း, ၎င်းမှာ လည်း များစွာ ချို့တဲ့ ချွတ်ယွင်း ရှိနေခြင်းများကြောင့် ကျွန်ုပ်တို့ ကမ္ဘာသားတို့ ခံစားရနိုင်ရန် အကျိုးမှာ မြော်ကိုးမဲ့ ဖြစ်ရမလောက် ရှိနေခဲ့ကြောင်း။

ထိုမျှ အထိ ခက်ခဲသော အခြေမှ အင်္ဂလိပ်—အစိုးရတို့၏ အထောက်—အပ ဖြင့် ကျောက်စာဖက် ဆိုင်ရာ ပညာရှိ မြောက်မြားစွာတို့ ဥာဏ်—ပဋိဘာန် အစွမ်း လုံ့လကြောင့် အင်္ဂလိပ်—ဘာသာသို့ ပြန်လည် ထားရှိခြင်း, ထိုမှ တဖန် ဟိန္ဒီ ဗင်္ဂါလီ· သက္ကတ စသည်သို့ ပြန်လည် ထားရှိခြင်းများ ဖြစ်ပွား ပြန့်စည်လျက် ရှိခဲ့စေကာ, မြန်မာ·ဘာသာ တခုမျှကို သာ သက်သက် တတ်စွမ်းကြသော ဗုဒ္ဓဘာသာဝင် မြန်မာ အမျိုးသားတို့မှာ ထိုမျှ အကျိုး များလောက်သည့် အသောကမင်းတြား၏ တကြိမ် မျှ ဖတ်ကြားက အဝါးဝ ဗုဒ္ဓ-ဘာသာ တယောက် အမိနို့ဖိုးကြေမလောက် အစွမ်း မြောက် ဩဝါဒတော်များကို နားပင်း၍ မျက်စိကာန်းကြသော ဇာစ္စန္ဓ—ဇာစ္စမူဂ ရ

ပုဂ္ဂိုလ်များကဲ့သို့ မကြားရ, မသိရ ပိတ်တွေ့ကာ လုံးလုံး ပိတ်ပိတ်တုံး ကွယ်လေ၍, ဗ—ဟုဿုတ အသရေ ရောင် မတောက်, လူဖြစ်မြောက်ကျိုးမပြည့်ဝ ဓမ္မောဇ မင်္ဂလာ အမြိုက်ထူး အရသာမှ ကင်းကွာ လက်မဲ့ မထိုက်တန်သကဲ့သို့ ဖြစ်ရှိ နေကြရပြန် ကြောင်း။

ယင်းသို့ အားဖြင့် ဘာသာခြား မတတ်၍, ဗဟုဿုတ ဝမ်းစာ ပြတ်လတ်, ပါးစပ်ပိတ်, မျက်စိကွယ်, နားမလယ် ကျိုးမပွား အရိုင်းတိုး ဉာဏ်သွားဖြင့် တရား မသိ, ထား မရှိ, နုမ်—နမော ပြောချင်ရာ ပြော, ဆိုချင်ရာ ဆို, ကိုယ်စိတ်လို ဟုတ်တန်း မျက်စိကာန်း တဇွေ မကြောက်, ကသောက္ကရောက် မှောက်မှောက် မှားမှား, စကား ရိုင်း ဖြန့်ပွားလျက် အသားကျ မဖြစ်မီ, ဤသည်လျှင် အကြောင်းသွား, ဘာသန္တရ မိတ ရှိးရာမှ တပါး ဘာသာခြား တတ်မြောက်သူတို့ စွမ်းပကား, ဤမျှတိုင် အကျိုး များပေသည် ဟု နား မရှိသူတို့ ကြားသိရ, မျက်စိ မဲ့သူတို့ အလင်းရ, ဉာဏ်မျက်လုံး ပွင့်ကြ၍, အဝ အဓိ မေ့ဆိုကို မျှ အညီ စားသုံးလျက်, အားလုံး မြန်မြေ ဓမ္မောဇ မင်္ဂလာဖြင့် အသရေ ပင့်မြောက် ဂုဏ်ကြီး မြောက်ကာ, နောက်နောက်သားတို့ ဤသို့ ဤနည်း ဖြစ်သတည်း ဟု နည်းကောင်း ဆင့်ကား, ထပ်ထပ်ပွား သဖြင့် တရားမင့် သာသနာ ကပ္ပါ မြိမ်အုန်း ကပ် မဆုံးစည်, ဂုဏ်စက် လည်၍, တည်စိမ့်သော အလို့ ငှာ ကောင်းစွာ ဉာဏ်ယဉ် စိတ် အလျဉ်ဖြင့် စီစဉ် ရေးထားအပ်သော အသောက ကျောက်စာတော်ကား—

၁၊ အသောက—ကျောက်စာတော် အတ္ထုပ္ပတ်,

၂၊ မူလ ပါဠိ—ဘာသာနှင့် တကွ အသောက ကျောက်ပြား စာတော် ၁၄ ချပ် ဘာသာပြန်ချက်,

၃၊ မူလပါဠိဘာသာနှင့် တကွ အသောက ကျောက်တိုင် စာတော် ၇ မျိုး ဘာသာပြန်ဆိုချက်,

၄၊ မူလပါဠိဘာသာနှင့် တကွ အသောက ကျောက်တိုင်ငယ် ပထမ စာ—တော် ၅ မျိုး ဘာသာပြန်ဆိုချက်,

၅၊ မူလ ပါဠိဘာသာနှင့် တကွ အသောက—ကျောက်တိုင်ငယ် ဒုတိယ စာတော် ၇ မျိုး ဘာသာ ပြန်ဆိုချက်,

၆၊ အဓသာက မင်းကြားကြီး ညွှန်ကြားချက် သဒ္ဓမ္မစိရဋ္ဌိတိက သုတ္တန် မြန်မာ—ဘာသာ ပြန်ဆိုချက်,

၇၊ ကျောက်စာ ဘာသာပြန် ဆရာ အရှင် အာဒိစ္စဝံသ အတ္ထုပ္ပတ်ကျဉ်း,—ဤ ၇-ပိုဒ်ဖြင့် သတ်မှတ် ပြီးဆုံးသတည်း။

ယင်းသို့လျှင် ရှစ်သောင့် လေးထောင် နက်ဝှမ်းစွာသော မဟာသမုဒ္ဒရာမှ အသုရာတို့ ရတနာ အမြိုက်ကျောက်ကို ကောက်ယူ ထုတ်ဆယ်ရခြင်းထက် အဆ များစွာ သာလွန် ခက်ခဲ၍,, သုဇာတာ သေဋ္ဌေး သမီး ကျိုချက်သော နို့ဃနာဆွမ်း, စုန္ဒ ပန်းပဲ ကပ်ဆက်သော ဝက်သားပြွမ်းတို့၌ ကြော့ဝဋ္ဌာ အဝှမ်းမှ အရသာ အဆီနှစ် ဩဇာကို ဗြဟ္မာတို့ တန်ခိုးဖြင့် အမျိုးစုံ ပေါင်းစုရသကဲ့သို့, ဘာသာ တခုမျှ တတ်မြောက်ရုံနှင့် ကိစ္စမပြီး, ဒေသ တခုတည်းနှင့် လည်း မပြည့်စုံ, ကြည်ယုံသည့် အယူ ဝါဒ တခုမျှနှင့် လည်း မသဲကွဲ အနဲနဲ အခက်, ဘာသာတိုင်း ဒေသတိုင်း အယူ ဝါဒတိုင်းမှ, ဂိုဏ်း အထက် ခိပတိ ပညာရှိ အပေါင်းတို့ ထိပ်-အထက်က ဉာဏ်ဆီ စက် တပေါက်တပေါက်ကို လုံ့လနှင့် ကောက်နိုင်မှ မြောက်ပိုင်သည့် ဉာဏ်ဩဇာ သို့ကလောက် နက်နဲစွာသော ပညာရှင် ကဝိချုပ်တို့ အလုပ်ကြီးကို ဆောင်ရွက်ရ သဖြင့် ထိုမျှတိုင် ကျွန်ုပ် ဝမ်းသာ ပျော်ရွှင်ရပေသတည်း၊ ထို့ကြောင့် ဤသို့ နိဂုံး အုပ်သတည်း။

၁၊ အဓသာက ကမ္ဘာ့ ကောင်းကျိုး သယ်,
ကေရာဇ် ပဥ္စသစ် သူမြတ်နွယ်၊
နေနွယ်ဖွား တရား ဂုဏ်တု သယ်,
တို့စက် မြန်နိုင်ငံ ဖြန့်ခဲ့ နေမျိုးနွယ်။

၂၊ တိုင်းပြည်သား အားလုံး ကောင်းကျိုး သွယ်,
တရား တို့စက် ထွက်စိမ့် ဉာဏ်ရွှယ်၊
အယူ ထူးခြား အားလုံး ဆက်သွယ်,
လောကသား အများ ကောင်းကျိုးရှယ်။

၃၊ တရားတော်ရှိ သိတိုင်း ဉာဏ်ကျယ်,
တရား စံ့ တိုင်းနှံ့ အနယ်နယ်၊

သဝဏ်ဆင့် ကမ်း ဓာတမ်း ကျဉ်းကျယ်,
တရား—စည် လည်ခဲ့ နှစ်နှစ် နယ်။

၄၊ လောက အများ ကောင်းစားဖို့ဝယ်,
တရား ရင်းဟု တို့မင်း ဥာဏ်ကျယ်၊
လောက အကျိုး ကြီးစားရာဝယ်,
တရားသင့် ဥာဏ်ချင့် အမြင်ကျယ်။

၅၊ အဓေသာက လောက ဂုဏ်မြင့် ကယ်,
ဂုဏ်ဆင့် ကမ်း ကျော်လျှမ်း ပါစိမ့် ရှယ်
သူ့ အလိုကား တရား ဂုဏ် ကယ်,
လမ်းကောင်း ပွင့် တိုးဖွင့်ပါစိမ့် ရှယ်။

၆၊ အဓေသာက ဓမ္မဥာဏ် အရောင်,
စည့်စည့်ပြ မှန်းတဲ့ နေ အရောင်၊
သူ့ဂုဏ်ကို ငါချီ သူ့ဥာဏ်ရောင်,
မြန်တိုက်တွင်း လင်းစိမ့် တို့စက်ရောင်။

၇၊ ကမ္ဘာသူများ အားလုံး လိုလို,
အဓေသာက သိကြ သူ့ ဂုဏ်ကို၊
တို့မြန်မာ့ သိပါ့ များလို့လို့,
ဂုဏ်ဟောင်း မျိုး ကျမ်းရိုး ရှိတိုင်းကို။

၈၊ အာသာ တပါး တတ်အား ဥာဏ်ကို,
အများ လူသိ အားရှိ စိမ့်လို၊
မြန်မျိုးဇာတ် ဂုဏ်သစ် လျှမ်းစိမ့်ကို,
ငါ ဥာဏ်ဖြင့် အဓေသာက စိတ်လို။

ဤမျှကား မိမိ သူတပါး အယူ ၂ ပါး၌ ရှင်း၊ အေသ ၂ ပါး၌ရှင်း၊ ဘာသာ
အများ၌ ရှင်း ကျွမ်းကျင်လိမ်မာ၍ ထမျှ ပါရဂူ မြောက်၊ ဗျာကရုဏ်း ထက်ကမ်
ရောက် ထက်မြောက်လျက်၊ မြားမြောက်သော ပညာသင် ထပည့် အပေါင်းတို့၏
နှစ်ထောင်း လေးမြတ်စွာ မှီခို ကိုးစားရာ ဖြစ်သဖြင့် စင်စစ် သန့်ရှင်းသော မြန်မာ
ကြက်သရေဆောင်၊ ဗုဒ္ဓ–သာသနာ့ ကြက်သရေဆောင် သခင် မထေရ်ရှင်တို့၏၊ အနွယ်
ကို ထွန်းပြု၊ သင့်မျှ ကျေးကျွန်ပတ်သည်ကို သင့်၏၊ ဟု လွှတ်လွှတ် ဆိုစွမ်းသောဂုဏ်
ဖြင့် ချီးကျူးအပ်၍၊ ‘အာဝိစ္စဝံသ’ ဟု ဆရာတို့ မှည့်ခေါ်အပ်သော ငယ်မည်
မထေရ်သည် အသက် ၄၉ နှစ်မြောက် အစ ရဟန်း သိက္ခာ ၂၉ နှစ် ၆–လ၊ မြန်မာ
သက္ကရာဇ် ၁၂၉၃ ခု၊ သာသနာတော် ၂၄၇၅ ခု၊ နယုန် လဆန်း ၁၅–ရက် နေ့အခါ
ကြိုးကြား ကြိုးကြား အားလပ်ခိုက် အလှည့်ကျ စီစဉ် ပြန်ဆို ပြီးဆုံးသော အသော
ကျောက်စာတော် ဖြစ်သတည်း။

ထောင်နေဝန်း လေးကျွန်း လှည့်ပြား သွားခဲ့ ထင်စွာ၊
လောကသား အများ ကောင်းကျိုး သည်ပိုး ထင်စွာ၊
ထိုလောက်မျှ ကမ္ဘာ့ ကောင်းကျိုး တိုးလျက် ထင်စွာ၊
ဤ စာကား တရား မြိုက်မွန် ညွှန်ခေ ထင်စွာ။

မှတ်ချက်၊ ၊လက်ခံမှု အသီးသီး အပိုင်း–ကဏ္ဍများ အဆုံး၌ ရေးထား ပါရှိချက်
နေ့စွဲအရ ၉၂ ပြာသို လဆန်း ၂ ရက်မှစ၍၊ ၉၃ နယုန်လဆန်း ၁၅ ရက် အထိ
တွေ့ရသည့် အတိုင်း ၆ါးလ ဟု ရေတွက်ရစေကာ၊ ပြာသို လဆန်း ၉ ရက်နေ့ ပထမ
ပိုင်း ကျောက်စာ ၁၄ ချပ် အပြီးတွင်၊ကြွင်း ကျောက်စာ မူလပါဠိများ မှာ ထား
လျက် အကြား ပြတ်လတ်နေသည်မှာ ၂၃–လကျော် ဖြစ်၍၊ ၉၃ ကဆုန်လဆုတ် ဂ
ရက်နေ့မှ ရောက်ရှိ ဆက်လက် ပြန်ဆိုသဖြင့် ၉၃ နယုန် လဆန်း ၁၅ ရက်နေ့ အပြီး
သတ်ခြင်း ဖြစ်လေရကား စင်စစ် ရေးသား ပြန်ဆိုသည့် ရက်မှာ ၂၉ ရက်မျှ စီစစ်သိ
ရှိရလေသည်၊ ရှင်းမှာ ၁၂၉၄ ခု သီတင်းကျွတ်လဆုတ် ၁၅–ရက်နေ့ ရိုက်နှိပ်ပြီးမြောက်
သတည်း။

သာသနာ ၂၄၇၆ × ၁၂၉၄ မြန်မာ

အဃောတ

# ကျောက်စာသိုက်

အရေးကြီးသော

စကားများကို အက္ခရာ စဉ်ထားချက်။

# သိုက်အကြောင်း၊

သိုက် ဟူသော မြန်မာ စကားသည် တင့်တယ် ဖွယ်ရာခြင်း-အနက်၊ အစုအပေါင်း အနက်၊ နေရာ-ထိုင်ခင်း အနက်၊ အမည်-ပညတ် အနက်၊ အညွှန်း-အနက်များ၌ ဖြစ်၏။ ထိုတွင် သိုက်မြိုက်သည်၊ သိုက်သိုက် မြိုက်မြိုက် ရှိသည် ဟူရာ၌ တင့်တယ် ဖွယ်ရာခြင်းကို ဆို၏၊ တသိုက် တဝန်း၊ သိုက်သိုက် ဝန်းဝန်း ရှိသည် ဟူရာ၌ အစု-အပေါင်းကို ဆို၏၊ ကျီးသိုက်၊ ငှက်သိုက် စသည်၌ နေရာထိုင်ခင်းကို ဆို၏၊ သိုက်ဝါး၊ ဖိုးသိုက်၊ မယ်သိုက် စသည်၌ အမည် ပညတ်ကို ဆို၏၊ ပိဋကသိုက် ဘုရားသိုက်၊ သိုက်စာ ဟူရာတို့၌ အညွှန်းကို ဆို၏၊ ဤ အရာ၌ကား အညွှန်းကို ဆိုလို၏၊ ထို့ကြောင့် အဘိဓာန်-ကျောက်စာသိုက် ဟူသည် အဘိဓာန်-ကျောက်စာ ဤ မြန်မာဘာသာ ကျမ်းတွင် ထိုထို မှတ်သားဖွယ် စကားများကို ညွှန်ကြား-ချက် ဟု အဓိပ္ပါယ် သိမှတ်ရာ၏၊ ထိုသို့သော အညွှန်း-သိုက်များကို ကျမ်းစာ-တိုင်း၌ ထည့်သွင်း ထားရှိရန် လိုလားအပ်၏၊ ယခု ဤ၌ ဖြည့်သွင်း ထားသည့် သိုက်ကား လိုရင်း မျှသာ ဖြစ်၏၊ မြန်မာ-ဘာသာ ကျမ်းများ၌ သိုက်ညွှန်ထား လေ့ မရှိစေကာ၊ ပါဠိ ပိဋကတော်၌ ကျမ်းတိုင်းလို ပင် ရှိ၏၊ အင်္ဂလိပ် ကျမ်း စာများ၌ကား သိုက်ညွှန် ကင်းသော ကျမ်းဟူ၍ ပင် မရှိ၊ ယင်းသို့သော သိုက်၏ ကြေး-တန်ကြောင်း သိရှိ အလေ့ ပြုစေခြင်းငှာ ဤ နေရာ၌ ဤ စာစောင် အတွက် သိုက်စာ ထားရှိတိုင်း အကျိုးကို ရအောင် ရှာ၍ အသုံး ပြုကြစေသတည်း။

## ကျောက်စာတွက်လိုရင်းမျှ ညွှန်ထားသော

# ကျောက်စာသိုက်၊

### အ — ဓ၊



---

† မှတ်ရန်၊—လိုရင်း-စာတမ်း၏ နောက် ဂဏန်းများမှာ အစဉ် အတိုင်း အခေါ်၊ ဆိုင်ရာ ကျောက်စာရေ, ၎င်း ပိုင်ရာ နံပါတ်ကို ပြ၏၊ နောက်ဆုံး ဂဏန်းမှာ မျက်နှာ နံပါတ်ကို ပြ၏။

## က - ဇ၊

## တ — မ၊

## ယ - သ၊

# ကျမ်းသံပိုင်း။

ကြားလော့ ဗိုလ်လူ, သံပိုင်း တူပိမ့်, ဇမ္ဗူ လင်္ကာ, သော့ မြေချာတည့်, ကမ္ဘါ ဦးစွန်း, မဇ္ဈေ ဝန်းမှ, ရှေ့ယွန်း မြောက်ဆန့်တို့ မြေကြန်က, မြန်မာ မျိုးရိုး, မော်ကွန်း ထိုးသား, ဘုံးဘေး စဥ့်မှတ်, သကျနတ်တို့, နွယ်ဇာတ် တည်ရာ, ငါသော် တမူ, နတ်လူ ဥက္ကဋ္ဌ်, မြက်ထက် ထွတ်မြတ်, နာထ်ထက် ထွတ်နာထ်, ဝိသုဒ္ဓိနတ်, လောက နာထ်၏, သားမြတ် တော်ကြီး, မြန့်ဂုဏ် ချီးသည့်, ထေရ်ကြီးတို့ ဆက်, တို့ရှင် စက်တွင်, ကြက်သရေ ဆောင်, ပုဉ်းခေါင် ပြောင်မြောက်, ရွှေမှောက် ရှင်—မြွက်, မိန့်တော်စက်ကို, ထွက်စေ လက်စေ, ပြန့်စည်စေဟု, စိတ်—စေတနာ, ပါကြီး ပါရှိ, အခါရောက်လစ်, ကြိမ်မည့် ခေတ် လည်း, ဥာဏ်သစ် ဇောက်ညို, တင်ကြို သိလျက်, လောကီ. တတ်ဖွယ်, ဥာဏ် မကာယ်သော်, အကယ် မြောက်မြား, လောက်လောက် လားလား, ခေတ် မစားတည့် အများ အပြား, တိုတရား လည်း, ဖြန့်ကားဖွံ့ဖြိုး, တိုး၍ တိုး၍, တက်နေရွှေ, သို့ ပြေ့စိမ့် ကယ်လည်း, တိုက်ဆုံး စည်ဖွယ်, တဆယ် ခုနစ်, ရှင့် အဖြစ်၌, ထိုနှစ် ထိုခေတ်, မြန့် နေမြစ်တို့, ရှင့်ဇာစ် ဦးပြည်း, အရည်းတို့ကား, ဘာသာ ခြားကို, လိုက်စား မှုလတ်, နွား အတာတ် ဟု, အမှတ် မြဲ.မြဲ.—မှဲကြီး ရှဲကြီး, ကဲ့ရဲ.ကြီးနှင့်, နတ်ဖြိုး ဝေ့ရိုး, ကြောက်ဖွယ် ထိုးသည့်, ခေတ် ဆိုး ဘေးကြီး, တပြုံ ဖြိုးရှင်, အသီး နိုင်ခံ., ငါတည်းဝံ.၍., မရှိ မတွန့်, စွန့်စွန့် စားစား,နိုင်ငံခြားသို့, ထွက်သွား ရောက်ပေါက်, အမြောက် အမြား, ဘာသာခြား နှင့်, တပါး အယူ, မျိုးခြားသူတို့, မှုဟု ထုံ့နည်း, အပည်း ပည်း တည့်, သိသည်း နက်တဲ, ဥာဏ်ခံ ဥာဥ်ယူ, မြောင်ကြီး မှုသား, မျိုးတူ နွယ်ကူး, ဇာတ် ကျေးဇူးကို, အထူး စပ်စပ်, ငါလျှင် ဆပ်ပိမ့်, စွဲးကပ် စိတ်ထား, ရည်ညွှန် သားလျက်, ဘုရား ရှု.ဘ, ဆုံး အမ လည်း, ထွန်းပ စိမ့်ကိုး, ငါ့အမျိုး လည်း, နိုးနိုး ကြားကြား, ကြိုးကြိုး စားစား, တို့ တရားဝယ်, အားရှိ စကုန်, သိရ်ဂုဏ် ထင်စွာ, မင်္ဂလာ လည်း, ငါမှာ မြန့်မြော, ရောက်စေသော ဟု, မနော ရည်ဆ, အသောက မမွှရာဇ်, ကေရာဇ်၏, ဂုဏ်နှစ် မှန်စွာ, ဤ ကျောက်စာလျှင်, ပညာ မြောင်မြောက်, မုန်သောက် ပါရင်, ဥာဏ်.ရှင် ညွှန်းခူး,ဥာဏ်ထွတ် ဖူးတို့, ကျွန်မြူးနိုင်စွာ, သို့ အရာကို, ငါမှ တပါး, ခေတ်ကြိုက် သားတို့, ရည်သွား မသာ, ငါထီး သာ လျှင်, ငါ တရုဏ် ဖွင့်, ပန်းနယ် ပွင့်၍, ဂုဏ်တင့် သိရ်တင့်, အဆင့် ကယ်ပွါး, တိုကေားကို, အသွားစည်းမှန်, ရေးထုံးမှန်နှင့်, ပိဒ်မှန် ဖြတ်ရပ်, မလယ် သုံးဖွဲ့, ရွှေနန်း ခေတ်ကြိုက်, စည်းကိုက် မျဉ်းကိုက်, တိုက်ကြီး ထွတ်ထား, ဘုရား မိန့်ရှိ, ဇက်နှင့် ညီကာ, သိခွင့် သိတန့်, ဇေ-သန် ဘာသန်, သာမယာန် လည်း, သင့်တန် ကုံ, မြည့် အဝရှင့်, ကြည်ကြ သသူ, ကျမ်းနည်းယူတို့, လွယ် တကူ မှတ်, လိုရင်း ပါဌ်ကို, ဆတ်ဆတ် သိဖွယ်, ကြည့်လွယ် ရှုလွယ်, ဥာဏ်မြင် ကျယ်ဖို့, နောက်ဆွယ် ဆင့်သ, သိုက်ညွှန် ဖြ၍, ရှင်ပျံ့ရာ, ဤ ကျမ်းစာကား ........................ ဤမှာ သံပိုင်း အဆုံးတည်း။

# အရှင်အာဒိစ္စဝံသ စာပေဖြန့်ချိရေးအဖွဲ့

## ကမ္ဘာ့ဗုဒ္ဓသာသနာ့ပြု အရှင်သေဋ္ဌိလဗိမာန်

**အမှတ်(၈) မိုးကောင်းလမ်း၊ ပြည်သာယာစာတိုက်၊**

**ရန်ကုန်မြို့။**

**အရှင်အာဒိစ္စဝံသ - ဆရာကြီး ဦးအောင်မြတ်ထွန်း၏ တပည့်သံဃာများနှင့် ဒကာ-ဒကာမတို့ထံ မေတ္တာလက်ဆောင်သတင်း ပေးပို့အပ်ပါသည်။**

၁၃၂၈-ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၃-ရက်၊ (၁၀-၁၂-၆၆) စနေနေ့က၊ အောက်ပါ ဗိမာန်၌ ဆရာတော် အရှင်သေဋ္ဌိလ (အဂ္ဂမဟာပဏ္ဍိတ) ဥက္ကဋ္ဌ၊ မြန်အောင် အရှင်သုစရိတမှူ က အကျိုးဆောင်အဖြစ် ဆောင်ရွက်၍ ဆရာကြီးအတွက် အထိမ်းအမှတ်ပွဲ ဆင်နွှဲပြုလုပ်ကြပါသည်။

ကြွရောက်လာကြသော ဆရာတော်- သံဃာတော်များနှင့် ဒကာ-ဒကာမများက ဆရာကြီး၏ကျေးဇူးအများအပြားတို့ကို ချီးကျူးစကား ပြောကြား ရက်ရှိကြပြီးလျှင် "မိဘ-ဆရာသမားများ၏ ကျေးဇူးတရားများကို ပစ္စည်းအာမိသဖြင့် ပူဇော်ရသည်ထက် ဓမ္မဖြင့် ပူဇော်ရသည်က ပိုမို၍ တာဝန်ကျေ ပြေလည်နိုင်သည်"ကို နှလုံးသွင်း ဆင်ခြင်မိကြပါသောကြောင့်၊-

(က) ဆရာကြီးရေးသားသွားသော လက်ရေးစာမူများကို ရှာဖွေ စုဆောင်းရန်နှင့် ရိုက်နှိပ်ထုတ်ဝေရန်။

(ခ) ရိုက်နှိပ်ပြီး၍ ကုန်နေသည့်စာအုပ်များကိုလည်း အသစ်တဖန် ထုတ်ပြန်ရန်နှင့်

(ဂ) အထက်ပါ အချက်များ အကောင်အထည် ပေါ်နိုင်ရေးအတွက် ဘဏ္ဍာငွေ ရှာဖွေရန်တို့ကို သဘောတူ ဆုံးဖြတ်ကြပါသည်။

အဆိုပါ ဆုံးဖြတ်ချက်ကို အမြန်ရုပ်လုံးပေါ်နိုင်ရန်၊ ဆရာတော်အရှင် သေဋ္ဌိလ (အဂ္ဂမဟာပဏ္ဍိတ)ဥက္ကဋ္ဌ၊ သာသနာ့ဒါယ အရှင် ဣန္ဒာစာရ (အကျိုးဆောင်)၊ သိမ်ကုန်း အရှင်သုမိဃော ဘာသာနှင့်ဒါယကာ ဦးအောင်းတင်တို့ကို (ဒု-အကျိုးဆောင်) အဖြစ် ခန့်အပ်ကြပြီးလျှင်၊ "**အရှင်အာဒိစ္စဝံသ စာပေဖြန့်ချိရေးအဖွဲ့**" ကို တည်ထောင် ဖွဲ့စည်းကြပါသည်။ အဆိုပါအဖွဲ့ကြီးက (အသောက ကျောက်စာ မြန်မာပြန်) ကို ရှေးဦးစွာ ပုံနှိပ်ထုတ်ဝေရန် သဘောတူကြပါသည်။

ဆရာကြီး၏ ကျေးဇူးမကင်း တပည့်ရင်းများဖြစ်ကြသူ ရှင် လူ-ရဟန်းတို့သည်၊ ဆရာကြီးအား ဓမ္မဖြင့် ကျေးဇူးဆပ် ပူဇော်မည့် အထက်ပါ အဖွဲ့ကြီးသို့ လူအား-ငွေအားဖြင့် ပါဝင်ရက်ရှိနိုင်ကြပါရန်၊ သတိပေးနှိုးဆော်တိုက်တွန်းလိုက်ပါကြောင်း။

ဥက္ကဋ္ဌ
**အရှင်သေဋ္ဌိလ**
(အဂ္ဂမဟာပဏ္ဍိတ)

အကျိုးဆောင်
**ဣန္ဒာစာရ**
(သာသနာ့ဒါယ)